# သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာ ၂၀၂၃





ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာနက
စီစဉ်ထုတ်ဝေသည်။

# ပုံနှိပ်မှတ်တမ်း

ပြန်ကြားရေးဝန်ကြီးဌာန စာအုပ်အမှတ်စဉ် ( ၆၈ / ၂၀၂၃ )

| | | |
|---|---|---|
| **ထုတ်ဝေသူ** | – | ဦးကျော်ဇင်စိုး (၀၁၇၉၄)၊ ပြန်ကြားရေးနှင့် ပြည်သူ့ဆက်ဆံရေးဦးစီးဌာန အထွေထွေစီးပွားရေးသမဝါယမအသင်း၊ အမှတ်(၂၂/၂၄)၊ ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |
| **ပုံနှိပ်သူ** | – | ဒေါ်သိင်္ဂီဦး (၀၀၁၀၆)၊ သိန်းသန်းဦးပုံနှိပ်တိုက်၊ (၃၄) လမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |
| **မျက်နှာဖုံးဒီဇိုင်း** | – | AT |
| **အုပ်ရေ** | – | ၅၀၀၀ အုပ် |
| **ပုံနှိပ်ခြင်း** | – | ၂၀၂၃ ခုနှစ်၊ ဩဂုတ်လ |
| **ထုတ်ဝေသည့်အကြိမ်** | – | ပထမအကြိမ် |

၀၀၁

ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၊ စာတည်းအဖွဲ့

သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာ (၂၀၂၃) /

ပြန်ကြားရေးနှင့် ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၊ စာတည်းအဖွဲ့ ။

ပြန်ကြားရေးနှင့် ပြည်သူ့ဆက်ဆံရေးဦးစီးဌာန အထွေထွေစီးပွားရေး

သမဝါယမအသင်း၊ ပထမအကြိမ်၊ ၂၀၂၃ ခုနှစ်၊ ဩဂုတ်လ။

၅၄၀ စာ ၊ ၁၆ စင်တီ x ၂၅ စင်တီ။

(၁) သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာ (၂၀၂၃)

# မာတိကာ

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| | – ကမ္ဘာ့ကုလသမဂ္ဂ | ၃၀၅ |
| | – ကုလသမဂ္ဂ၏ အထူးအေဂျင်စီများနှင့် ၎င်းနှင့် ဆက်စပ်နေသော အေဂျင်စီများ | ၃၀၇ |
| | – ကုလသမဂ္ဂအဖွဲ့ဝင် ကမ္ဘာ့နိုင်ငံများ | ၃၁၁ |
| | – ကမ္ဘာ့နိုင်ငံများအကြောင်း သိမှတ်ဖွယ်ရာများ | ၃၁၇ |
| | – နိုင်ငံတကာအဖွဲ့အစည်းများ | ၃၃၉ |
| | – အတိုကောက်စာလုံးများ | ၃၆၂ |
| | – ကုလသမဂ္ဂ၏ ထောင်စုနှစ်ရည်မှန်းချက် | ၃၇၀ |
| | – ကုလသမဂ္ဂ၏ စာတတ်မြောက်ရေးဆယ်စုနှစ်ရည်မှန်းချက်(၇)ရပ် | ၃၇၁ |
| | – ကုလသမဂ္ဂ၏ စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်မှု ရည်မှန်းချက်ပန်းတိုင် (၁၇) ချက် | ၃၇၁ |
| ၇။ | သံတမန်ဆိုင်ရာ သိမှတ်ဖွယ်ရာများ | ၃၇၃ |
| ၈။ | ကမ္ဘာ့အထွေထွေသိမှတ်ဖွယ်ရာများ | ၃၉၁ |
| | – နေစကြာဝဠာအကြောင်း | ၃၉၃ |
| | – ကမ္ဘာအကြောင်း | ၃၉၃ |
| | – လအကြောင်း | ၃၉၄ |
| | – ကမ္ဘာ့တိုက်ကြီးများ | ၃၉၄ |
| | – ကမ္ဘာ့သဘာဝရေကန်ကြီးများ | ၃၉၇ |
| | – နိုဘယ်ဆု (၆) မျိုး | ၃၉၇ |
| | – တစ်ကမ္ဘာလုံးဆိုင်ရာ ရေအရင်းအမြစ်ပိုင်ဆိုင်မှုအခြေအနေ (ထုထည်ပမာဏ) | ၃၉၈ |
| | – ကမ္ဘာ့သမုဒ္ဒရာကြီးများ | ၃၉၈ |
| | – ကမ္ဘာ့အရှည်ဆုံးမြစ်ကြီးများ | ၃၉၉ |
| | – ကမ္ဘာ့အံ့ဖွယ်ခုနစ်ပါး | ၃၉၉ |
| | – ကမ္ဘာ့လူဦးရေစုစုပေါင်း | ၃၉၉ |
| | – ကမ္ဘာ့အကြီးဆုံးရေချိုအိုင် (၁၀) ခု | ၄၀၀ |
| | – လူပြောအများဆုံး ကမ္ဘာ့ဘာသာစကားများ | ၄၀၀ |
| | – ကမ္ဘာ့အကြီးဆုံး သဲကန္တာရ (၁၀) ခု | ၄၀၁ |
| | – ကမ္ဘာ့လူဦးရေအများဆုံး (၁၀) နိုင်ငံ | ၄၀၁ |
| | – ကမ္ဘာ့လူဦးရေအနည်းဆုံး (၁၀) နိုင်ငံ | ၄၀၂ |

■ ■ ■

# အမှာစာ

အသိပညာသည် လူတစ်ဦးချင်းစီနှင့် လူ့အဖွဲ့အစည်းများအတွင်းရှိ ပြဿနာများကို ဖြေရှင်းရန်၊ အသိဉာဏ်ဖြင့် ဆုံးဖြတ်ချက်များချရန်နှင့် တိုးတက်ရန်ကူညီသည့်အပြင် လူ့အဖွဲ့အစည်း ကြီးထွားမှုနှင့် ဖွံ့ဖြိုးတိုးတက်မှုအတွက် အရေးကြီးသော အစိတ်အပိုင်းတစ်ခု ဖြစ်သည်။ အတွေ့အကြုံအားဖြင့် ရရှိလာသော လက်တွေ့အသိပညာမှသည် အခြေခံမှုများနှင့် သီအိုရီများအပေါ် အခြေခံ၍ သီအိုရီဆိုင်ရာ အသိပညာအထိ အမျိုးမျိုးသော အသိပညာ အမျိုးအစားများရှိသည်။ အသိပညာအချို့သည် နယ်ပယ်အချို့အတွက် သီးသန့်ဖြစ်ပြီး အချို့အသိပညာများသည် နယ်ပယ်များစွာအတွက် အသုံးပြုနိုင်မည်ဖြစ်သည်။

အသိပညာနှင့် ဗဟုသုတအချက်အလက်များသည် အမြဲတည်ငြိမ်နေသည်မဟုတ်ဘဲ စဉ်ဆက်မပြတ် ပြောင်းလဲတိုးချဲ့လျက်ရှိသည်။ ယင်းသို့သတင်းအချက်အလက်အသစ်များ ရှာဖွေတွေ့ရှိလာရသည်နှင့်အမျှ အသိပညာအခြေခံသည် အချိန်နှင့်တစ်ပြေးညီ တိုးတက် ပြောင်းလဲလာပေသည်။ ယနေ့ လျင်မြန်ရှုပ်ထွေးသည့် ကမ္ဘာကြီးပေါ်တွင် စိန်ခေါ်မှုများနှင့် အခွင့်အလမ်းအသစ်များ နေ့စဉ်ပေါ်ပေါက်လာသလို အသိပညာများ ဆည်းပူးမှုသည်လည်း ယခင်ကထက် ပိုမိုအရေးကြီးလာပါသည်။ ပညာရေးနှင့် လေ့ကျင့်မှု၊ စာအုပ်စာစောင်များ ဖတ်ရှုမှု၊ ဆွေးနွေးပွဲများတက်ရောက်မှုနှင့် သုတေသန လက်တွေ့စမ်းသပ်မှုများ အပါအဝင် အသိပညာရယူရန် နည်းလမ်းများစွာရှိသည်။ အသိပညာရရှိရန် အဓိကသော့ချက်မှာ စူးစမ်းလိုစိတ်၊ သင်ယူလိုစိတ်၊ လေ့လာလိုစိတ်ပင်ဖြစ်သည်။ နားလည်မှုကို ချဲ့ထွင်ရန်၊ အမြင်ကျယ်ပြန့်စေရန်နှင့် ပတ်ဝန်းကျင်ကို သိသာထင်ရှားသော အကျိုးသက်ရောက်မှုများ ရရှိစေရန် အသိပညာ ဗဟုသုတများကို စဉ်ဆက်မပြတ် ဖြည့်ဆည်းနေရပေမည်။

ထိုသို့ ဘဝတစ်သက်တာ လေ့လာသင်ယူခြင်းဖြင့် တိုးတက်မှုနှင့် ဖွံ့ဖြိုးမှုအတွက် အလားအလာကောင်းများ ရရှိစေသည်။ အဆုံးမရှိသော အခွင့်အလမ်းများကို ရရှိစေသည်။ ဘဝတစ်လျှောက်လုံး စူးစမ်းလိုစိတ်၊ ပါဝင်ပတ်သက်လိုစိတ်နှင့် စိတ်ခွန်အားများရရှိအောင် စွမ်းဆောင်ပေးနိုင်ပေသည်။

ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာနသည် ပြည်သူလူထု အသိပညာ ဗဟုသုတ ပြည့်စုံစေရန်၊ ရာထူးဝင်ခွင့်စာမေးပွဲများ၊ သင်တန်းဝင်ခွင့်စာမေးပွဲများ ဖြေဆိုရာ တွင် အထောက်အကူဖြစ်စေရန်နှင့် သိလိုသည့်အချက်အလက်များကို တစုတစည်းတည်း

ရှာဖွေနိုင်ရန် ရည်ရွယ်သည့်အနေဖြင့် သိမှတ်ဖွယ်ရာဗဟုသုတအဖြာဖြာစာအုပ်ကို ၂၀၀၈ ခုနှစ်မှ ယခု ၂၀၂၃ ခုနှစ်အထိ နှစ်စဉ်ထုတ်ဝေခဲ့ပေသည်။ ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၏ ရည်ရွယ်ချက်ဖြစ်သည့် အသိပညာပေးရန်ဟူသောအချက်နှင့် ကိုက်ညီစွာ ယခုထုတ်ဝေသည့် သိမှတ်ဖွယ်ရာဗဟုသုတ အဖြာဖြာစာအုပ်သည် ပြည်သူများ၏ အသိပညာ မြင့်မားရေးအတွက် တစ်ထောင့်တစ်နေရာမှ အားဖြည့်ပေးနိုင်မည်ဖြစ်သည်။

နိုင်ငံသမိုင်းကြောင်း၊ ကမ္ဘာမြေအကြောင်း၊ ကမ္ဘာ့နိုင်ငံအသီးသီးအကြောင်းနှင့် ပြောင်းလဲတိုးတက်နေသည့် အခြေအနေများကို ခေတ်ကာလနှင့်ကိုက်ညီသည့် အချက်အလက်များ ပြင်ဆင်ဖြည့်စွက်ထားသည့်အတွက် ဗဟုသုတရှာမှီးလိုသူများအတွက် ရတနာသိုက်ပင် ဖြစ်သည်။ အထူးသဖြင့် ကျောင်းသားကျောင်းသူများ၊ လူငယ်လူရွယ်များ၊ အလုပ်အကိုင်ရှာဖွေသူများနှင့် ရာထူးတိုးစာမေးပွဲဖြေဆိုမည့်သူများအတွက် အရေးပါသလို နိုင်ငံသားတိုင်း သိသင့်သိထိုက်သော အချက်အလက်များ အကြောင်းအရာများပါဝင်သည်။ မြန်မာနိုင်ငံ၏ ရက်စွဲအလိုက်အရေးကြီးသော သမိုင်းကြောင်းများ၊ ပထဝီဆိုင်ရာအချက်အလက်များ၊ နိုင်ငံရေး၊ စီးပွားရေးနှင့် လူမှုရေးဆိုင်ရာ လတ်တလောအကြောင်းအရာများ၊ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌ၊ နိုင်ငံတော်ဝန်ကြီးချုပ် ဗိုလ်ချုပ်မှူးကြီးမင်းအောင်လှိုင်၏ မိန့်ခွန်းနှင့် သဝဏ်လွှာကောက်နုတ်ချက်များ၊ နိုင်ငံတော်အဆင့် အကြီးအကဲများ၊ အစိုးရဝန်ကြီးဌာနများ၊ မြန်မာ့အရေး၊ ကမ္ဘာ့အရေး၊ ကျန်းမာရေး၊ သံတမန်ရေးရာနှင့် နိုင်ငံ့ဝန်ထမ်းဆိုင်ရာ သိမှတ်ဖွယ်ရာများကို နောက်ဆုံးအခြေအနေအထိ ရှာဖွေစုစည်းဖော်ပြထားသည်။

ကမ္ဘာပေါ်တွင် ကျွန်ုပ်တို့သိသင့်သိထိုက်သော သဘာဝတရား၏ အံ့သြဖွယ်ရာများနှင့် လူ့သမိုင်း၏ အံ့ဖွယ်ရာခမ်းနားမှုများ၊ အောင်မြင်မှုများကို ကျွန်ုပ်တို့ရှာဖွေတွေ့ရှိမှုများအတိုင်း အကြောင်းအရာများစွာကို လွှမ်းခြုံကာ တန်ဖိုးရှိသည့် သတင်းအချက်အလက်များအဖြစ် မိတ်ဆက်ပေးရန် ဤစာအုပ်ကို ထုတ်ဝေရခြင်းဖြစ်သည်။ လူတိုင်း၏ နားလည်မှုကို ချဲ့ထွင်လိုလျှင်ဖြစ်စေ၊ အကြောင်းအရာအသစ်များကို သိမြင်နိုင်ရန်ဖြစ်စေ လေ့လာဖတ်ရှုနိုင်ပေသည်။ လူချွန်လူကောင်းများ၊ အသိပညာရှင်အတတ်ပညာရှင်များပေါ်ထွန်းလာပြီးအနာဂတ်နိုင်ငံကိုဦးဆောင်မည့်ခေါင်းဆောင်ကောင်းများပေါ်ထွန်းလာစေရေးအတွက် လူစွမ်းအားအရင်းအမြစ်များ ဖွံ့ဖြိုးအောင် တည်ဆောက်ရာတွင် ဤစာအုပ်က တစ်နည်းတစ်ဖုံအထောက်အကူပြုနိုင်ပေမည်ဟု ယုံကြည်ပါသည်။

**စာတည်းအဖွဲ့**
**ပြန်ကြားရေးနှင့် ပြည်သူ့ဆက်ဆံရေးဦးစီးဌာန**

# မြန်မာနိုင်ငံ၏ ပထဝီဆိုင်ရာ အချက်အလက်များ

## မြန်မာနိုင်ငံ၏တည်နေရာ

အာရှတိုက်အရှေ့တောင်ပိုင်းတွင် တည်ရှိပြီး မြောက်လတ္တီတွဒ် ၉ ဒီဂရီ ၃၂ မိနစ်မှ ၂၈ ဒီဂရီ ၃၁ မိနစ်အထိ၊ အရှေ့လောင်ဂျီတွဒ် ၉၂ ဒီဂရီ ၁၀ မိနစ်မှ ၁၀၁ ဒီဂရီ ၁၁ မိနစ်အတွင်း တည်ရှိသည်။

## အကျယ်အဝန်း

စတုရန်းမိုင်ပေါင်း ၂၆၁၂၂၈ မိုင် (၆၇၆,၅၇၈ စတုရန်းကီလိုမီတာ) ကျယ်ဝန်းသည်။

## မြို့တော်

နေပြည်တော်

## အိမ်နီးချင်းနိုင်ငံများ

တရုတ်၊ လာအို၊ ထိုင်း၊ ဘင်္ဂလားဒေ့ရှ်နှင့် အိန္ဒိယနိုင်ငံတို့အကြားတွင် တည်ရှိသည်။

## အမြင့်ဆုံးတောင်

ခါကာဘိုရာဇီ၊ ပေပေါင်း ၁၉၂၉၆ မြင့်ပြီး ကချင်ပြည်နယ်၊ နောင်မွန်းမြို့ မြောက်ဘက်တွင် တည်ရှိသည်။

## ရိုးမတောင်တန်းများ

(က) ရခိုင်ရိုးမ
(ခ) တနင်္သာရီရိုးမ
(ဂ) ပဲခူးရိုးမ
(ဃ) ရှမ်းရိုးမ

## အဓိကဒေသကြီးများ

(က) အရှေ့ဘက်ကုန်းမြင့်ဒေသ
(ခ) အနောက်ဘက်တောင်တန်းကြီးများဒေသ
(ဂ) အလယ်ပိုင်းမြေနိမ့်မြစ်ဝှမ်းလွင်ပြင်ဒေသ
(ဃ) ရခိုင်ကမ်းရိုးတန်းမြေနိမ့်လွင်ပြင်ဒေသ

## ကမ်းရိုးတန်း

ကမ်းရိုးတန်းအရှည် = ၁၃၈၅ မိုင်

**မြန်မာ့ရေပိုင်နက်**

(က) ပိုင်နက်နယ်မြေ = ၁၂ မိုင် (ရေမိုင်)
(ခ) ဆက်စပ်ဇုန် = ၂၄ မိုင် (ရေမိုင်)
(ဂ) သီးသန့်စီးပွားရေးဇုန် = ၂၀၀ မိုင် (ရေမိုင်)

**ထင်ရှားသောမြစ်ကြီးများ**

(က) ဧရာဝတီမြစ် (၁၂၅၀ မိုင်)
(ခ) ချင်းတွင်းမြစ် (၇၁၇ မိုင်)
(ဂ) စစ်တောင်းမြစ် (၂၆၂ မိုင်)
(ဃ) သံလွင်မြစ် (၇၉၅ မိုင်)

**ဧရာဝတီမြစ်၏ မြစ်ခွဲများ**

(က) ဝဝန်မြစ် (ခေါ်) ပုသိမ်မြစ်
(ခ) ရွှေးမြစ်
(ဂ) ဖျာပုံမြစ်
(ဃ) သက်ကယ်သောင်မြစ်
(င) ပြန်မလော့မြစ်
(စ) ဘိုကလေးမြစ်
(ဆ) တိုးမြစ်
(ဇ) သံဒိမြစ်
(ဈ) ပြင်စလူမြစ်

**ဧရာဝတီမြစ်၏ မြစ်လက်တက်များ**

(က) တာပိန်မြစ်
(ခ) ရွှေလီမြစ်
(ဂ) မြစ်ငယ်မြစ်
(ဃ) မူးမြစ်
(င) ချင်းတွင်းမြစ်

**ဧရာဂတီမြစ်၏ မြစ်ကျဉ်း (၄) ခု**

(က) ပထမမြစ်ကျဉ်း = ဆင်ဘိုရွာအနီး
(ခ) ဒုတိယမြစ်ကျဉ်း = ဗန်းမော်မြို့နှင့် ရွှေကူမြို့အကြား
(ဂ) တတိယမြစ်ကျဉ်း = သပိတ်ကျင်းမြို့
(ဃ) စတုတ္ထမြစ်ကျဉ်း = ပြည်မြို့အထက်

**ချင်းတွင်းမြစ်၏ မြစ်လက်တက်များ**

(က) ဥရုမြစ်
(ခ) မြစ်သာမြစ်
(ဂ) ယူးမြစ်

**စစ်တောင်းမြစ်၏ မြစ်လက်တက်များ**

(က) ခပေါင်းမြစ်
(ခ) ရွှေကျင်မြစ်
(ဂ) ရဲနွယ်မြစ်
(ဃ) ငလိုက်မြစ်

**သံလွင်မြစ်၏ မြစ်လက်တက်များ**

(က) သောင်ရင်းမြစ်
(ခ) အတ္တရံမြစ်
(ဂ) ယွန်းစလင်းမြစ်
(ဃ) ဒုံသမိမြစ်
(င) ဂျိုင်းမြစ်

**တောင်ဘက်မှ မြောက်ဘက်သို့ စီးဆင်းသောမြစ်များ**

(က) သောင်ရင်းမြစ် (ဃ) မြစ်သာမြစ်
(ခ) ဂျိုင်းမြစ် (င) ဇော်ဂျီမြစ်
(ဂ) အတ္တရံမြစ် (စ) တနသ်ာရီမြစ်

**အရှေ့၊ အနောက်၊ တောင်၊ မြောက်တွင်ရှိသော မြစ်များ**

(က) အရှေ့ဘက်အကျဆုံးမြစ် = မဲခေါင်မြစ်
(ခ) အနောက်ဘက်အကျဆုံးမြစ် = နတ်မြစ်
(ဂ) တောင်ဘက်အကျဆုံးမြစ် = ပါချန်မြစ်
(ဃ) မြောက်ဘက်အကျဆုံးမြစ် = မေခနှင့် မလိခမြစ်

**တူးမြောင်းများ**

(က) ပဲခူး–စစ်တောင်းတူးမြောင်း – ၃၈မိုင် (ပဲခူးမြစ်နှင့် စစ်တောင်းမြစ်ကိုဆက်)
(ခ) တွံတေးတူးမြောင်း – ၂၁ မိုင် (ရန်ကုန်မြစ်နှင့် တိုးမြစ်ကိုဆက်)

**မြန်မာနိုင်ငံရှိ မီးပြတိုက် (၈) ခု**

(က) စစ်တွေမီးပြတိုက် (င) ပုသိမ်မီးပြတိုက်
(ခ) မာန်အောင်မီးပြတိုက် (စ) မြိတ်မီးပြတိုက်
(ဂ) သံတွဲမီးပြတိုက် (ဆ) သီလဝါမီးပြတိုက်
(ဃ) ကျောက်ဖြူမီးပြတိုက် (ဇ) ကျိုက္ခမီမီးပြတိုက်

**အစွန်ဆုံးမြို့များ**

(က) မြောက်ဘက်အကျဆုံးမြို့ = ပန်နန်းဒင်မြို့
(ခ) တောင်ဘက်အကျဆုံးမြို့ = ကော့သောင်းမြို့
(ဂ) အရှေ့ဘက်အကျဆုံးမြို့ = မိုင်းယောင်းမြို့
(ဃ) အနောက်ဘက်အကျဆုံးမြို့ = မောင်တောမြို့

**အိမ်နီးချင်းနိုင်ငံများနှင့် နယ်နိမိတ်ထိစပ်မှုအကွာအဝေး**

(က) တရုတ်နိုင်ငံ ၂၂၂၆.၈၅ ကီလိုမီတာ (၁၃၈၄ မိုင်)
(ခ) လာအိုနိုင်ငံ ၂၃၄.၉၁ ကီလိုမီတာ (၁၃၉ မိုင်)
(ဂ) ထိုင်းနိုင်ငံ ၂၀၉၈.၁၄ ကီလိုမီတာ (၁၃၀၄ မိုင်)
(ဃ) ဘင်္ဂလားဒေ့ရှ် ၂၇၁.၉၂ ကီလိုမီတာ (၁၆၉ မိုင်)
(င) အိန္ဒိယနိုင်ငံ ၁၄၆၂.၉၃ ကီလိုမီတာ (၉၀၃ မိုင်)

**မြန်မာနိုင်ငံရှိ မီးတောင်သေဒေသများ**

(က) ပုပ္ပား (ဂ) ဝန်းသို
(ခ) ကောလင်း (ဃ) မုံရွာ

**မြန်မာနိုင်ငံရှိ ကျွန်းစုကြီးများ**

(က) ရမ်းဗြဲကျွန်းစု (အကြီးဆုံး၊ ရခိုင်ပြည်နယ်)

( ခ ) မြိတ်ကျွန်းစု

( ဂ ) မာန်အောင်ကျွန်းစု

(ဃ) ကိုကိုးကျွန်းစု

**မြန်မာနိုင်ငံရှိ ထင်ရှားသော အိုင်ကြီးများ**

(က) အင်းတော်ကြီးအိုင် (ပထမအကြီးဆုံး၊ ကချင်ပြည်နယ်)

( ခ ) အင်းလေးအိုင် (ဒုတိယအကြီးဆုံး၊ ရှမ်းပြည်နယ်တောင်ပိုင်း)

( ဂ ) အင်းတော်လေးအိုင် (တတိယအကြီးဆုံး၊ စစ်ကိုင်းတိုင်းဒေသကြီး)

**အကျယ်ဝန်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**

(က) အကျယ်ဝန်းဆုံးတိုင်းဒေသကြီး = စစ်ကိုင်းတိုင်းဒေသကြီး
၃၆၅၃၅ စတုရန်းမိုင်ခန့်

( ခ ) အကျယ်ဝန်းဆုံးပြည်နယ် = ရှမ်းပြည်နယ်
၆၀၁၅၅ စတုရန်းမိုင်ခန့်

**အကျဉ်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**

(က) အကျဉ်းဆုံးတိုင်းဒေသကြီး = ရန်ကုန်တိုင်းဒေသကြီး
၃၉၂၇ စတုရန်းမိုင်ခန့်

( ခ ) အကျဉ်းဆုံးပြည်နယ် = ကယားပြည်နယ်
၄၅၂၉ စတုရန်းမိုင်ခန့်

**လူဦးရေအများဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**

(က) လူဦးရေအများဆုံးတိုင်းဒေသကြီး = ရန်ကုန်တိုင်းဒေသကြီး
၇ ဒသမ ၄ သန်းခန့်

( ခ ) လူဦးရေအများဆုံးပြည်နယ် = ရှမ်းပြည်နယ်
၅ ဒသမ ၅သန်းခန့်

**လူဦးရေအနည်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**

(က) လူဦးရေအနည်းဆုံးတိုင်းဒေသကြီး = တနင်္သာရီတိုင်းဒေသကြီး
၁ ဒသမ ၅ သန်းကျော်

( ခ ) လူဦးရေအနည်းဆုံးပြည်နယ် = ကယားပြည်နယ်
၃ သိန်းခန့်

**မြန်မာ့အထူးစီးပွားရေးဇုန်များ**

(က) သီလဝါအထူးစီးပွားရေးဇုန်

( ခ ) ထားဝယ်အထူးစီးပွားရေးဇုန်

( ဂ ) ကျောက်ဖြူအထူးစီးပွားရေးဇုန်

## မြန်မာ့ရေနက်ဆိပ်ကမ်းကြီးများ

(က) ထားဝယ်ရေနက်ဆိပ်ကမ်း
(ခ) ပုသိမ်ရေနက်ဆိပ်ကမ်း
(ဂ) ကျောက်ဖြူရေနက်ဆိပ်ကမ်း
(ဃ) ကုလားကုတ်ရေနက်ဆိပ်ကမ်း
(င) ဘုတ်ပြင်းရေနက်ဆိပ်ကမ်း

## မြန်မာနိုင်ငံရှိ အပြည်ပြည်ဆိုင်ရာလေဆိပ်များ

(က) နေပြည်တော်အပြည်ပြည်ဆိုင်ရာလေဆိပ်
ပြေးလမ်း(အရှည် ၁၂၀၀၀ x အကျယ် ၂၀၀ x အထူ ၂ ဒသမ ၂) ပေ
(ခ) မန္တလေးအပြည်ပြည်ဆိုင်ရာလေဆိပ်
ပြေးလမ်း (အရှည် ၁၄၀၀၀ x အကျယ် ၂၀၀ x အထူ ၂ ဒသမ ၂) ပေ
(ဂ) ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်
ပြေးလမ်း(အရှည် ၁၁၂၀၀ x အကျယ် ၂၀၀ x အထူ ၂ ဒသမ ၃) ပေ

## မြန်မာနိုင်ငံတွင် အရှည်ဆုံးတံတားနှစ်စင်း

(က) **ရောဝတီတံတား (ပခုက္ကူ)။** တံတားအရှည် ၁၃၅၃၇ ပေရှိပြီး သံမဏိသံပေါင်တံတားအမျိုးအစား ဖြစ်သည်။ ညောင်ဦးမြို့နှင့် ပခုက္ကူမြို့ကို ဆက်သွယ်ထားသော အရှည်ဆုံးတံတား ဖြစ်သည်။

(ခ) **သံလွင်တံတား(မော်လမြိုင်)။** တံတားအရှည် ၁၁၅၇၅ ပေရှည်ပြီး ရန်ကုန်-မော်လမြိုင်-မြိတ်-ကော့သောင်းကားလမ်းပေါ်တွင်တည်ရှိကာ မော်လမြိုင်နှင့် မုတ္တမမြို့ကို ဆက်သွယ်ထားသော ဒုတိယအရှည်ဆုံးတံတားဖြစ်သည်။

## အာဆီယံအမြန်လမ်းမကြီးများ

(က) **အာဆီယံအမြန်လမ်းမ (၁)။** ၎င်းလမ်းသည် နိုင်ငံတကာ အမှတ်အသားလမ်းကြောင်းအဖြစ် AH(1) ဟုသတ်မှတ်ထားရာ မိုင်(၉၈၀) ရှည်လျားပြီး လမ်းမအကျယ်မှာ (၂၄) ပေ ရှိသည်။ ၎င်းလမ်းမသည် တမူး-ကလေး-ဂန့်ဂေါ-ပုလဲ-ချောင်းဦး-အုန်းတော-စစ်ကိုင်း-မန္တလေး-မြစ်သား-မိတ္ထီလာ-ပျော်ဘွယ်-ပျဉ်းမနား-တောင်ငူ-ညောင်လေးပင်-ဘုရားကြီး-ကျိုက်ထို-သထုံ-ဘားအံ-ကော့ကရိတ်-သင်္ကန်းညီနောင်-မြဝတီမြို့တို့ကို ဖြတ်သန်းဖောက်လုပ်ထားသည်။

(ခ) **အာဆီယံအမြန်လမ်းမ (၂)။** ၎င်းလမ်းသည် နိုင်ငံတကာအမှတ်အသားလမ်းကြောင်းအဖြစ် AH(2) ဟုသတ်မှတ်ထားရာ (၄၄၉) မိုင်ရှည်လျားပြီး လမ်းမအကျယ် (၂၄) ပေ ရှိပါသည်။ ၎င်းလမ်းမသည် မိတ္ထီလာ-ကလော-တောင်ကြီး-လွိုင်လင်-တာကော်-ကျိုင်းတုံ-တာချီလိတ်မြို့တို့ကို ဖြတ်သန်းဖောက်လုပ်ထားပါသည်။

(ဂ) **အာဆီယံအမြန်လမ်းမ (၃)။** ၎င်းလမ်းသည် နိုင်ငံတကာအမှတ်အသားလမ်းကြောင်းအဖြစ် AH(3) ဟု သတ်မှတ်ထားရာ (၅၆) မိုင်ရှည်လျားပြီး လမ်းမအကျယ် (၂၄) ပေရှိပါသည်။ ၎င်းလမ်းမသည် ကျိုင်းတုံ-ဝမ့်ခန်း-တာပင်-မိုင်းလားမြို့တို့ကို ဖြတ်သန်းဖောက်လုပ်ထားပါသည်။

# မြန်မာနိုင်ငံ၏ သမိုင်းဖြစ်စဉ်

ဖြစ်ပေါ်ပြောင်းလဲခဲ့ရသော မြန်မာနိုင်ငံ၏ သမိုင်းဖြစ်စဉ်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် –

| | |
|---|---|
| အေဒီ ၁ ရာစု | ... ဗိဿနိုး၊ ဟန်လင်း၊ သရေခေတ္တရာဒေသများတွင် ပဒေသရာဇ် နိုင်ငံငယ်များကို "ပျူ" လူမျိုးများက ထူထောင်ခဲ့ကြသည်။ |
| ၁၀၄၄ – ၁၂၈၇ | ... ပုဂံခေတ်၊ အနော်ရထာမင်း(၁၀၄၄–၁၀၇၇)က ပထမမြန်မာ နိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၅၅၂ – ၁၅၈၅ | ... တောင်ငူခေတ်၊ ဘုရင့်နောင်မင်းတရားကြီး (၁၅၅၂–၁၅၈၁)က ဒုတိယမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၇၅၂ – ၁၈၈၅ | ... ကုန်းဘောင်ခေတ်၊ အလောင်းမင်းတရားကြီး (၁၇၅၂–၁၇၆၀)က တတိယမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၈၂၄ – ၁၈၂၆ | ... အင်္ဂလိပ်–မြန်မာ ပထမစစ်ပွဲဖြစ်ပွားသည်။ |
| ၁၈၅၂ – ၁၈၅၄ | ... အင်္ဂလိပ်–မြန်မာ ဒုတိယစစ်ပွဲဖြစ်ပွားသည်။ |
| ၁၈၈၅ | ... အင်္ဂလိပ်–မြန်မာ တတိယစစ်ပွဲဖြစ်ပွားပြီးနောက် ဗြိတိသျှကိုလိုနီ နယ်ချဲ့လက်အောက်သို့ မြန်မာနိုင်ငံ ကျရောက်ခဲ့သည်။ |
| ၁၉၀၆ | ... ဗုဒ္ဓဘာသာကလျာဏယုဝအသင်း (ဝိုင်အမ်ဘီအေ)ကို ထူထောင် ကာ အမျိုး၊ ဘာသာ၊ သာသနာအတွက် ကြိုးပမ်းကြသည်။ ၁၉၁၈ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်၌ ဗြိတိသျှအစိုးရက ကရက်ဒေါက် စီမံကိန်းကို ထုတ်ပြန်သည်။ |
| ၁၆–၁၁–၁၉၁၉ | ... မြန်မာ့ကုမ္မာရီအသင်းခေါ် မြန်မာအမျိုးသမီးသမဂ္ဂအသင်းကို ဖွဲ့စည်းသည်။ |
| ၁၉၂၀ အောက်တိုဘာ (၂၉–၃၁) | ... ဗုဒ္ဓဘာသာကလျာဏယုဝအသင်းကြီး၏အဋ္ဌမအကြိမ်ညီလာခံက မြန်မာပြည်လုံးဆိုင်ရာအသင်းချုပ်ကြီး (ဂျီစီဘီအေ) ဟူ၍ အမည် ပြောင်းသည်။ |
| ၁၉၂၀ ဒီဇင်ဘာ ၅ | ... ရန်ကုန်တက္ကသိုလ် ပထမကျောင်းသားသပိတ် စတင်မှောက်သည်။ |
| ၁၉၃၀ မေ ၃၀ | ... တို့ဗမာအစည်းအရုံး ထူထောင်သည်။ |
| ၁၉၃၀ ဒီဇင်ဘာ ၂၂ | ... ဆရာစံဦးဆောင်သည့် တောင်သူလယ်သမားအရေးတော်ပုံ သာယာဝတီခရိုင်၊ ရေတိုက်ရွာမှ စတင်သည်။ |
| ၂၅–၂–၁၉၃၆ | ... ရန်ကုန်တက္ကသိုလ် ဒုတိယကျောင်းသားသပိတ်မှောက်သည်။ |
| ၁၉၂၃ – ၁၉၃၇ | ... ဒိုင်အာခီအုပ်ချုပ်ရေးကာလဖြစ်သည်။ |
| ၁–၄–၁၉၃၇ မှ ၁၀–၁၂–၁၉၄၂ | ... (၉၁) ဌာန အုပ်ချုပ်ရေးစနစ် ကျင့်သုံးချိန်ဖြစ်သည်။ |
| ၈–၁–၁၉၃၈ | ... ချောက်ရေနံမြေသပိတ် စတင်သည်။ ၁၃၀၀ ပြည့် အရေးတော်ပုံ ပေါ်ပေါက်သည်။ |

၂၇-၁၂-၁၉၄၁ ... ထိုင်းနိုင်ငံ၊ ဘန်ကောက်မြို့တွင် ဗမာ့လွတ်လပ်ရေး တပ်မတော် (ဘီအိုင်အေ) ဖွဲ့စည်းသည်။

၂၇-၇-၁၉၄၂ ... ဗမာ့လွတ်လပ်ရေးတပ်မတော်ကို ဗမာ့ကာကွယ်ရေးတပ်မတော် (ဘီဒီအေ) အဖြစ် ပြောင်းလဲဖွဲ့စည်းသည်။

၁-၈-၁၉၄၃ ... ဂျပန်တို့က အတုအယောင်လွတ်လပ်ရေးပေးသည်။

၂၇-၃-၁၉၄၅ ... ဖက်ဆစ်တော်လှန်ရေး စတင်ဆင်နွှဲသည်။

၁၉၄၅ - ၁၉၄၇ ... နယ်ချဲ့ဗြိတိသျှတို့၏ စက္ကူဖြူအုပ်ချုပ်ရေးခေတ် ဖြစ်သည်။

၁၉၄၇ ... ဆိုရှယ်လစ်ဗိုလ်တစ်ဦး ... 

၁၂-၂-၁၉၄၇ ... ပင်လုံသဘောတူညီချက်ကိုဗိုလ်ချုပ်အောင်ဆန်းနှင့်တိုင်းရင်းသား ခေါင်းဆောင် ၂၂ ဦး လက်မှတ်ရေးထိုးသည်။

၄-၁-၁၉၄၈ ... မြန်မာနိုင်ငံလွတ်လပ်ရေးရရှိသည်။

၁၉၄၈ - ၁၉၅၈ ... ပါလီမန်ဒီမိုကရေစီစနစ်ကျင့်သုံးပြီး နိုင်ငံကို အုပ်ချုပ်သည်။

၁၉၅၈ - ၁၉၅၉ ... တပ်မတော်က အိမ်စောင့်အစိုးရအဖြစ် နိုင်ငံကိုထိန်းသိမ်းစောင့်ရှောက်သည်။

၂-၃-၁၉၆၂ ... တော်လှန်ရေးကောင်စီက နိုင်ငံတော်အာဏာကို ရယူသည်။

၃-၁-၁၉၇၄ ... ဖွဲ့စည်းပုံအခြေခံဥပဒေကို ဆန္ဒမဲပေးပိုင်ခွင့်ရှိသူများ၏ ၉၀ ဒသမ ၁၉ ရာခိုင်နှုန်းဖြင့် အတည်ပြုပြဋ္ဌာန်းသည်။

၁၉၇၄ - ၁၉၈၈ ... မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ၏ ဦးဆောင်မှုဖြင့် ခေတ်ပြောင်းတော်လှန်ရေးဆင်နွှဲသည်။ ပြည်သူ့လွှတ်တော်နှင့် ပြည်သူ့ကောင်စီအဆင့်ဆင့်ကိုဖွဲ့စည်းကာ ပြည်သူ့ကိုယ်စားလှယ်များက နိုင်ငံတော်၏ ဥပဒေပြုရေး၊ အုပ်ချုပ်ရေး၊ တရားစီရင်ရေး တာဝန်များကို ဆောင်ရွက်သည်။

၁၈-၉-၁၉၈၈ ... အထွေထွေမကျေနပ်မှုများကြောင့် ဆန္ဒပြမှုများ ဖြစ်ပွားသည်။ ပြည်တွင်းပြည်ပ အဖျက်အမှောင့်ပယောဂများ စွက်ဖက်မှုကြောင့် မင်းမဲ့စရိုက်များလွှမ်းမိုးကာ တိုင်းဆူပြည်ဖျက်လုပ်ရပ်များ ကြီးစိုးလာသည်။ တရားဥပဒေစိုးမိုးမှုနှင့် ရပ်ရွာအေးချမ်းသာယာမှုပျက်သုဉ်းကာ ပြည်သူများ ကျီးလန့်စာစားအခြေအနေသို့ ဆိုက်ရောက်ခဲ့သဖြင့် တပ်မတော်က နိုင်ငံ့တာဝန်ကို ရယူသည်။

၂၇-၅-၁၉၉၀ ... ပါတီစုံဒီမိုကရေစီရွေးကောက်ပွဲ ကျင်းပသည်။

၉-၁-၁၉၉၃ ... အမျိုးသားညီလာခံ စတင်ကျင်းပသည်။

၃၀-၅-၁၉၉၆ ... အမျိုးသားညီလာခံကို ယာယီအားဖြင့် ဆိုင်းငံ့သည်။

၁၅-၁၁-၁၉၉၇ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီကို ဖွဲ့စည်း၍ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး ဦးတည်ချက် (၁၂) ရပ် ချမှတ်ကာ အေးချမ်းသာယာပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်ကို ဆက်လက်တည်ဆောက်သည်။

၃၀-၈-၂၀၀၃ ... နိုင်ငံတော်ရှေ့ဆက်သွားမည့် မူဝါဒလမ်းစဉ်(၇)ရပ်ကို ကြေညာသည်။

| | | |
|---|---|---|
| ၁၇-၅-၂၀၀၄ | ... | ၁၉၉၆ ခုနှစ်၌ ယာယီအားဖြင့်ဆိုင်းငံ့ထားခဲ့သော အမျိုးသား ညီလာခံကို ပြန်လည်ကျင်းပသည်။ |
| ၃-၉-၂၀၀၇ | ... | အမျိုးသားညီလာခံ အောင်မြင်စွာ ကျင်းပပြီးစီးခဲ့သည်။ |
| ၁၀-၅-၂၀၀၈ | ... | ဖွဲ့စည်းပုံအခြေခံဥပဒေမူကြမ်းကို ပြည်လုံးကျွတ်ဆန္ဒခံယူပွဲ ကျင်းပသည်။ |
| ၂၉-၅-၂၀၀၈ | ... | နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၇/၂၀၀၈) ဖြင့် ဖွဲ့စည်းပုံအခြေခံဥပဒေကို အတည်ပြုပြဋ္ဌာန်းလိုက်ကြောင်း ကြေညာသည်။ |
| ၁၁-၃-၂၀၁၀ | ... | နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၁/၂၀၁၀) ဖြင့် ပြည်ထောင်စု ရွေးကောက်ပွဲကော်မရှင်ကို ဖွဲ့စည်းခဲ့သည်။ |
| ၇-၁၁-၂၀၁၀ | ... | ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် ၃၃၀ ရှိသည့်အနက် ၃၂၅ နယ်တွင်လည်းကောင်း၊ အမျိုးသားလွှတ်တော် မဲဆန္ဒနယ် ၃၃၀ ရှိသည့်အနက် ၁၆၈ နယ်တွင်လည်းကောင်း၊ တိုင်းဒေသကြီးလွှတ်တော်သို့မဟုတ်ပြည်နယ်လွှတ်တော်မဲဆန္ဒနယ်(တိုင်းရင်းသားလူမျိုး မဲဆန္ဒနယ် ၂၉ ခုအပါအဝင်) ၆၇၃ နယ် ရှိသည့်အနက် ၆၆၁ နယ်တွင်လည်းကောင်း၊ ပါတီစုံဒီမိုကရေစီ ရွေးကောက်ပွဲများကို ကျင်းပခဲ့သည်။ |
| ၇-၁၂-၂၀၁၀ | ... | ဆန္ဒမဲပေးပိုင်ခွင့်ရှိသူ ဦးရေ ၂၉ သန်းကျော် (၂၉၀၂၁၆၀၈) ဦး ရှိပြီး ပြည်သူ့လွှတ်တော်အတွက် ဆန္ဒမဲပေးသူဦးရေမှာ ၂၂ သန်းကျော် (၂၂၄၂၁၁၂၃) ဦးရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၇ ဒသမ ၂၆ ရာခိုင်နှုန်း၊ အမျိုးသားလွှတ်တော်အတွက် ဆန္ဒမဲပေးသူဦးရေ မှာ ၂၂ သန်းကျော် (၂၂၂၈၃၄၆၅) ဦးရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၆ ဒသမ ၇၈ ရာခိုင်နှုန်း၊ တိုင်းဒေသကြီးလွှတ်တော်သို့မဟုတ် ပြည်နယ်လွှတ်တော် (တိုင်းရင်းသားလူမျိုးအပါအဝင်) အတွက် ဆန္ဒမဲပေးပိုင်ခွင့်ရှိသူဦးရေ ၂၈ သန်းကျော် (၂၈၅၃၄၂၁၆)ဦး ရှိပြီး ဆန္ဒမဲပေးသူဦးရေမှာ ၂၁ သန်းကျော် (၂၁၈၆၃၁၂၃) ဦး ရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၆ ဒသမ ၆၂ ရာခိုင်နှုန်းရှိကြောင်း ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က ထုတ်ပြန်ကြေညာခဲ့သည်။ |
| ၃၁-၁-၂၀၁၁ | ... | နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီသည် ပထမအကြိမ် ပြည်သူ့လွှတ်တော်အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ်တော်အစည်းအဝေး၊ပထမအကြိမ်တိုင်းဒေသကြီး (သို့မဟုတ်)ပြည်နယ်လွှတ်တော်အစည်းအဝေးကိုနေပြည်တော်၌ ကျင်းပခဲ့သည်။ |
| ၃၀-၃-၂၀၁၁ | ... | ပထမအကြိမ် ပြည်သူ့လွှတ်တော် အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ်တော်အစည်းအဝေး၊ ပထမအကြိမ် တိုင်းဒေသကြီး |

| | | |
|---|---|---|
| | | သို့မဟုတ် ပြည်နယ်လွှတ်တော်အစည်းအဝေးကို နေပြည်တော်၌ အောင်မြင်စွာကျင်းပပြီးစီးခဲ့သည်။ |
| ၃၀-၃-၂၀၁၁ | ... | နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၅/၂၀၁၁) ဖြင့် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီကို ဖျက်သိမ်းခဲ့သည်။ |
| ၁-၄-၂၀၁၁ | ... | ပါတီစုံဒီမိုကရေစီခေတ် ပြည်ထောင်စုအစိုးရအဖွဲ့ စတင်တာဝန်ထမ်းဆောင်သည်။ |
| ၁-၄-၂၀၁၂ | ... | ကြားဖြတ်ရွေးကောက်ပွဲကို ကျင်းပခဲ့သည်။ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီက ၉၂ ဒသမ ၅ ရာခိုင်နှုန်းဖြင့် အနိုင်ရရှိခဲ့သည်။ |
| ၈-၁၁-၂၀၁၅ | ... | ဖွဲ့စည်းပုံအခြေခံဥပဒေအရ အစိုးရသစ်ဖွဲ့စည်းရေးအတွက် ဒုတိယအကြိမ် ပါတီစုံဒီမိုကရေစီ ရွေးကောက်ပွဲကို ကျင်းပခဲ့သည်။ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီက လွှတ်တော်သုံးရပ်ကိုယ်စားလှယ်လောင်း ၁၁၅၀ နေရာအနက် ၈၈၆ နေရာတွင် ၇၇ ဒသမ ၀၄ ရာခိုင်နှုန်းဖြင့် အနိုင်ရရှိခဲ့သည်။ |
| ၁-၂-၂၀၁၆ | ... | အနိုင်ရပါတီမှ ဒုတိယအကြိမ် လွှတ်တော်အစည်းအဝေး ခေါ်ယူကျင်းပသည်။ |
| ၁-၄-၂၀၁၆ | ... | အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီ ဦးဆောင်သော အစိုးရအဖွဲ့ နိုင်ငံတော်တာဝန်ထမ်းဆောင်သည်။ |
| ၁-၄-၂၀၁၇ | ... | ကြားဖြတ်ရွေးကောက်ပွဲကျင်းပသည်။ |
| ၃-၁၁-၂၀၁၈ | ... | ကြားဖြတ်ရွေးကောက်ပွဲကျင်းပသည်။ |
| ၈-၁၁-၂၀၂၀ | ... | တတိယအကြိမ် ပါတီစုံဒီမိုကရေစီ ရွေးကောက်ပွဲကို ကျင်းပခဲ့သည်။ |
| ၁-၂-၂၀၂၁ | ... | ၂၀၂၀ ပြည့်နှစ် ပါတီစုံဒီမိုကရေစီရွေးကောက်ပွဲတွင် ကြီးမားသည့် မဲစာရင်းမှားယွင်းမှုများကြောင့် ဖွဲ့စည်းပုံအခြေခံဥပဒေ (၂၀၀၈ ခုနှစ်)အရအရေးပေါ်ကာလဆိုင်ရာ ပြဋ္ဌာန်းချက်များနှင့်အညီ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီက နိုင်ငံတော်၏တာဝန်များကို လွှဲပြောင်းထမ်းဆောင်သည်။ |
| ၁-၈-၂၀၂၁ | ... | နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ၊ စီမံခန့်ခွဲရေးကော်မတီကို **"ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အိမ်စောင့်အစိုးရအဖွဲ့"** အဖြစ် ပြင်ဆင်ဖွဲ့စည်းခဲ့သည်။ |
| ၁-၂-၂၀၂၃ | ... | နိုင်ငံတစ်ဝန်းလုံးအရေးပေါ်အခြေအနေကြေညာထားသည့်ကာလအား နောက်ထပ်(၆)လ သက်တမ်းတိုးမြှင့်ခဲ့သည်။ |
| ၁-၂-၂၀၂၃ | ... | နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီသည် နိုင်ငံတော်နှင့် တိုင်းရင်းသားပြည်သူတစ်ရပ်လုံး၏ အကျိုးစီးပွားအတွက် ခေတ်မီဖွံ့ဖြိုးတိုးတက်ပြီး စစ်မှန်၍ စည်းကမ်းပြည့်ဝသော ဒီမိုကရေစီနိုင်ငံတော်ဖြစ်ထွန်းရေးကို ရည်မှန်းဆောင်ရွက်နိုင်ရန် အလို့ငှာ ပြည်ထောင်စုအစိုးရအဖွဲ့ကို ပြင်ဆင်ဖွဲ့စည်းခဲ့သည်။ |

၁-၈-၂၀၂၃ ... နိုင်ငံတစ်ဝန်းလုံး အရေးပေါ်အခြေအနေ ကြေညာထားသည့် ကာလအား နောက်ထပ်(၆)လ သက်တမ်းတိုးမြှင့်ခဲ့သည်။

၃-၈-၂၀၂၃ ... နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီသည် ချမှတ်ထားသည့် ရှေ့လုပ်ငန်းစဉ်(၅) ရပ်နှင့် ဦးတည်ချက် (၉) ရပ်ကို ပိုမိုမြန်ဆန် ထိရောက်စွာ အကောင်အထည်ဖော်ဆောင်ရန်အလို့ငှာ ဖွဲ့စည်းပုံ အခြေခံဥပဒေ ပုဒ်မ (၄၁၉)အရ ပြည်ထောင်စုအစိုးရအဖွဲ့ကို ပြင်ဆင်ဖွဲ့စည်းခဲ့သည်။

## ပထမမြန်မာနိုင်ငံတော်

(က) အချိန်ကာလ - အေဒီ ၁၀၄၄ မှ ၁၀၇၇ အထိ

( ခ ) တည်ထောင်သူ - အနော်ရထာမင်း

## ဒုတိယမြန်မာနိုင်ငံတော်

(က) အချိန်ကာလ - အေဒီ ၁၅၅၁ မှ ၁၅၈၁ အထိ

( ခ ) တည်ထောင်သူ - ဘုရင့်နောင်မင်း

## တတိယမြန်မာနိုင်ငံတော်

(က) အချိန်ကာလ - အေဒီ ၁၇၅၂ မှ ၁၇၆၀ အထိ

( ခ ) တည်ထောင်သူ - အလောင်းမင်းတရား

## အင်္ဂလိပ် – မြန်မာ ပထမစစ်ပွဲ

(က) ဘကြီးတော်မင်းတရားလက်ထက်

( ခ ) ၅-၃-၁၈၂၄ ရက်နေ့တွင် ဖြစ်ပွားသည်။

( ဂ ) ရခိုင်နှင့် တနင်္သာရီနယ်မြေများ ဆုံးရှုံးခဲ့သည်။

## အင်္ဂလိပ် – မြန်မာ ဒုတိယစစ်ပွဲ

(က) ပုဂံမင်းလက်ထက်

( ခ ) ၅-၄-၁၈၅၂ ရက်နေ့တွင် ဖြစ်ပွားသည်။

( ဂ ) အောက်မြန်မာနိုင်ငံတစ်ခုလုံးအပါအဝင် အထက်မြန်မာနိုင်ငံ မြေထဲမြို့အထိ ဆုံးရှုံးခဲ့သည်။

## အင်္ဂလိပ် – မြန်မာ တတိယစစ်ပွဲ

(က) သီပေါမင်းလက်ထက်

( ခ ) ၁၁-၁၁-၁၈၈၅ ရက်နေ့တွင် ဖြစ်ပွားသည်။

( ဂ ) မြန်မာတစ်နိုင်ငံလုံး အင်္ဂလိပ်လက်အောက်ရောက်ရှိခဲ့သည်။

## ရှေးခေတ် မြို့ပြနိုင်ငံများ

(က) တကောင်းမြို့ပြနိုင်ငံ (ဃ) သရေခေတ္တရာမြို့ပြနိုင်ငံ

( ခ ) ဗိဿနိုးမြို့ပြနိုင်ငံ ( င ) ဝေသာလီမြို့ပြနိုင်ငံ

( ဂ ) ဟန်လင်းမြို့ပြနိုင်ငံ ( စ ) သုဝဏ္ဏဘုမ္မိမြို့ပြနိုင်ငံ

## ရှေးခေတ်မြန်မာမင်းဆက်များ

| | | | |
|---|---|---|---|
| (က) | ပထမတကောင်းမင်းဆက် | = | ၃၃ ဆက် |
| (ခ) | ဒုတိယတကောင်းမင်းဆက် | = | ၁၇ ဆက် |
| (ဂ) | သရေခေတ္တရာမင်းဆက် | = | ၂၇ ဆက် |
| (ဃ) | ပုဂံမင်းဆက် | = | ၅၅ ဆက် |
| (င) | ပင်းယမင်းဆက် | = | ၆ ဆက် |
| (စ) | စစ်ကိုင်းမင်းဆက် | = | ၇ ဆက် |
| (ဆ) | အင်းဝမင်းဆက် | = | ၃၀ ဆက် |
| (ဇ) | တောင်ငူမင်းဆက် | = | ၃၄ ဆက် |
| (ဈ) | ဟံသာဝတီမင်းဆက် | = | ၁၁ ဆက် |
| (ည) | ညောင်ရမ်းမင်းဆက် | = | ၁၀ ဆက် |
| (ဋ) | ကုန်းဘောင်မင်းဆက် | = | ၁၁ ဆက် |

## ဗြိတိသျှနယ်ချဲ့ကို တော်လှန်ခဲ့သည့် တိုင်းရင်းသားခေါင်းဆောင်များ

| | | | |
|---|---|---|---|
| (က) | ဝန်းသိုနယ်မှ | – | ဝန်းသိုစော်ဘွားကြီး ဦးအောင်မြတ် |
| (ခ) | ဆင်ဖြူကျွန်းမှ | – | ဆရာတော် ဦးဥတ္တမ (ရခိုင်လူမျိုး) |
| (ဂ) | ရွှေဘိုနယ်မှ | – | ထိပ်တင်မှတ် |
| (ဃ) | နတ်မောက်နယ်မှ | – | ဗိုလ်မင်းရောင် (ဗိုလ်ချုပ်အောင်ဆန်း၏အဘိုး) |
| (င) | ပုဂံနယ်မှ | – | ဗိုလ်ချို |
| (စ) | ချင်းပြည်နယ်မှ | – | ကြွမ်ဘိစ် |
| (ဆ) | ဝဲလောင်နယ်မှ | – | ဗိုလ်ရာညွန့် |
| (ဇ) | မင်းတုန်းနယ်မှ | – | ဗိုလ်ရွှဲ |
| (ဈ) | ဓနုဖြူနယ်မှ | – | ဗိုလ်မြတ်ထွန်း |
| (ည) | ဇီးပင်ကြီးနယ်မှ | – | မြင်စိုင်းမင်းသား |
| (ဋ) | ကျောက်ဆည်နယ်မှ | – | ဗိုလ်သာကြိုင် |
| (ဌ) | ကျွန်းခင်းကြီးနယ်မှ | – | ဗိုလ်လှကျော် |
| (ဍ) | ကယားပြည်နယ်မှ | – | စောလဖော် |
| (ဎ) | "ဝ"နယ်မှ | – | စောမဟာနှင့် နော်ခမ်းဦး |
| (ဏ) | ပုပ္ပါးနယ်မှ | – | ဗိုလ်နက်ကျော် |
| (တ) | ကချင်ပြည်နယ်မှ | – | ဖုန်ကန်ဒူးဝါး |
| (ထ) | သာယာဝတီနယ်မှ | – | ဗိုလ်ခေါင်းကြီးနှင့် ဗိုလ်ခေါင်းလေး |

## အာဇာနည်ခေါင်းဆောင်ကြီးများ

(က) ဗိုလ်ချုပ်အောင်ဆန်း
(ခ) မိုင်းပွန်စော်ဘွားကြီး စဝ်စံထွန်း
(ဂ) သခင်မြ
(ဃ) မန်းဘခိုင်
(င) ဒီးဒုတ်ဦးဘချို
(စ) ဦးရာဇတ်
(ဆ) ဦးဘဝင်း
(ဇ) ဦးအုန်းမောင်(အတွင်းဝန်)
(ဈ) ရဲဘော်ကိုထွေး (သက်တော်စောင့်)

## မြန်မာနိုင်ငံ၏ ခေတ်အဆက်ဆက်ဖွဲ့စည်းပုံအခြေခံဥပဒေများ

(က) ၁၉၄၇ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ
(ခ) ၁၉၇၄ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေ
(ဂ) ၂၀၀၈ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေ

## မြန်မာနိုင်ငံတွင် ကျင်းပပြုလုပ်ခဲ့သည့် ရွေးကောက်ပွဲများ

(က) ဒိုင်အာခီအုပ်ချုပ်ရေးအရ ပထမအကြိမ် ရွေးကောက်ပွဲ (၂၁-၁၁-၁၉၂၂)
(ခ) ဒိုင်အာခီအုပ်ချုပ်ရေးအရ ဒုတိယအကြိမ် ရွေးကောက်ပွဲ (၁၇-၁၁-၁၉၂၅)
(ဂ) ဒိုင်အာခီအုပ်ချုပ်ရေးအရ တတိယအကြိမ် ရွေးကောက်ပွဲ (၂-၁၁-၁၉၂၈)
(ဃ) ဒိုင်အာခီအုပ်ချုပ်ရေးအရ စတုတ္ထအကြိမ် ရွေးကောက်ပွဲ (၁၀-၁၁-၁၉၃၂)
(င) (၉၁)ဌာနအုပ်ချုပ်ရေးခေတ်တွင် ပထမအကြိမ်အထွေထွေရွေးကောက်ပွဲ(၉-၁၁-၁၉၃၆)
(စ) ၁၉၄၇ ခုနှစ် တိုင်းပြုပြည်ပြု လွှတ်တော်အမတ်ရွေးကောက်ပွဲ (၉-၄-၁၉၄၇)
(ဆ) ၁၉၅၁ ခုနှစ် ပါလီမန်ရွေးကောက်ပွဲ (၁၂-၆-၁၉၅၁ မှ ၃-၁-၁၉၅၂ ထိ) (၃ ရစ်ခွဲကျင်းပ)
(ဇ) ၁၉၅၆ ခုနှစ် ပါလီမန်ပြည်သူ့လွှတ်တော်ရွေးကောက်ပွဲ (၂၇-၄-၁၉၅၆)
(ဈ) ၁၉၆၀ ပြည့်နှစ် ပါလီမန်ပြည်သူ့လွှတ်တော်အထွေထွေရွေးကောက်ပွဲ (၆-၂-၁၉၆၀)
(ည) ၁၉၇၄ ခုနှစ် အထွေထွေရွေးကောက်ပွဲ (၂၇-၁-၁၉၇၄)
(ဋ) ၁၉၉၀ ပြည့်နှစ် ပါတီစုံဒီမိုကရေစီရွေးကောက်ပွဲ (၂၇-၅-၁၉၉၀)
(ဌ) ၂၀၁၀ ပြည့်နှစ် ပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲ (၇-၁၁-၂၀၁၀)
(ဍ) ၂၀၁၂ ခုနှစ် ကြားဖြတ်ရွေးကောက်ပွဲ (၁-၄-၂၀၁၂)
(ဎ) ၂၀၁၅ ခုနှစ် ပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲ (၈-၁၁-၂၀၁၅)
(ဏ) ၂၀၁၇ ခုနှစ် ကြားဖြတ်ရွေးကောက်ပွဲ (၁-၄-၂၀၁၇)
(တ) ၂၀၁၈ ခုနှစ် ကြားဖြတ်ရွေးကောက်ပွဲ (၃-၁၁-၂၀၁၈)
(ထ) ၂၀၂၀ ပြည့်နှစ် ပါတီစုံဒီမိုကရေစီ အထွေထွေရွေးကောက်ပွဲ (၈-၁၁-၂၀၂၀)

## မြန်မာ့လွတ်လပ်ရေးကာလတစ်လျှောက် ချုပ်ဆိုခဲ့သော စာချုပ်များ

### ကန္ဒီစာချုပ်

၁၉၄၅ ခုနှစ် စက်တင်ဘာလ ၇ ရက်တွင် သီရိလင်္ကာနိုင်ငံ ကန္ဒီမြို့၌ ဗိုလ်ချုပ်အောင်ဆန်းနှင့် လော့ဒ်လူဝီမောင့်ဘက်တန်တို့ ချုပ်ဆိုခဲ့ကြသည့် စာချုပ်ဖြစ်သည်။

### အောင်ဆန်း-အက်တလီစာချုပ်

၁၉၄၇ခုနှစ် ဇန်နဝါရီလ ၂၇ ရက်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့ အမှတ် (၁၀) ဒေါင်းနင်းလမ်းရှိ ဗြိတိသျှဝန်ကြီးချုပ်အိမ်တော်၌ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာအက်တလီနှင့် ဗိုလ်ချုပ်အောင်ဆန်းတို့ လက်မှတ်ရေးထိုးချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

## ပင်လုံစာချုပ်

၁၉၄၇ခုနှစ် ဖေဖော်ဝါရီလ ၁၂ ရက်တွင် ရှမ်းပြည်နယ်တောင်ပိုင်း ပင်လုံမြို့၌ တိုင်းရင်းသားကိုယ်စားလှယ်များနှင့် ဗိုလ်ချုပ်အောင်ဆန်းတို့ တိုင်းရင်းသားလူမျိုးများအားလုံး သွေးစည်းညီညွတ်ခြင်း အထိမ်းအမှတ်အဖြစ် ချုပ်ဆိုခဲ့သောစာချုပ်ဖြစ်သည်။

## လက်ျာ-ဖရီးမင်းစာချုပ်

၁၉၄၇ ခုနှစ် ဩဂုတ်လ ၂၇ ရက်တွင် တပ်မတော်အနာဂတ်ရေးအတွက် ဗမာ့တပ်မတော်ကာကွယ်ရေးဝန်ကြီး ဗိုလ်လက်ျာနှင့် ဗြိတိသျှတို့ဘက်မှ မစ္စတာဖရီးမင်းတို့ ချုပ်ဆိုခဲ့သောစာချုပ်ဖြစ်သည်။

## နု-အက်တလီစာချုပ်

၁၉၄၇ ခုနှစ် အောက်တိုဘာလ ၁၇ ရက်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့၌ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာအက်တလီနှင့် ဝန်ကြီးချုပ်ဦးနုတို့ လက်မှတ်ရေးထိုးချုပ်ဆိုခဲ့သောစာချုပ်ဖြစ်သည်။

## ပင်လုံစာချုပ် ချုပ်ဆိုရာတွင် ပါဝင်ကြသူများ

| | | | |
|---|---|---|---|
| ၁။ | ဗိုလ်ချုပ်အောင်ဆန်း | - | မြန်မာအစိုးရကိုယ်စားလှယ် |
| ၂။ | စဝ်ခွန်ပန်းစိန် | - | တောင်ပိုင်းစော်ဘွား |
| ၃။ | စဝ်ရွှေသိုက် | - | ညောင်ရွှေစော်ဘွား |
| ၄။ | စဝ်ဟုံဖ | - | မြောက်ပိုင်းသိန္နီစော်ဘွား |
| ၅။ | စဝ်နွံ | - | လဲချားစော်ဘွား |
| ၆။ | စဝ်စံထွန်း | - | မိုင်းပွန်စော်ဘွား |
| ၇။ | စဝ်ထွန်းအေး | - | သာမိုင်းခမ်းစော်ဘွား |
| ၈။ | ဦးခွန်ဖုန်း | - | လူထုကိုယ်စားလှယ် (မြောက်ပိုင်း) |
| ၉။ | ဦးတင်ဧ | - | လူထုကိုယ်စားလှယ် (တောင်ကြီး) |
| ၁၀။ | ဦးကြာပု | - | လူထုကိုယ်စားလှယ် (သီပေါ) |
| ၁၁။ | စဝ်ယိပ်ဖ | - | လူထုကိုယ်စားလှယ် (သီပေါ) |
| ၁၂။ | ဦးခွန်ထီး | - | လူထုကိုယ်စားလှယ် (ပင်လုံ) |
| ၁၃။ | ဦးထွန်းမြင့် | - | လူထုကိုယ်စားလှယ် (မောက်မယ်) |
| ၁၄။ | ဦးခွန်စော | - | လူထုကိုယ်စားလှယ် (ပင်းတယ) |
| ၁၅။ | ဦးဖြူ | - | သထုံစော်ဘွားကိုယ်စားလှယ် |
| ၁၆။ | ဆမား ဒူးဝါးဆင်ဝါးနောင် | - | ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား) |
| ၁၇။ | ဒူးဝါးဇော်ရစ် | - | ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား) |
| ၁၈။ | ဦးဒိန်ရတန် | - | ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား) |
| ၁၉။ | ဒူးဝါးဇော်ထွန်း | - | ကချင်ကိုယ်စားလှယ် (ဗန်းမော်) |

၂၀။ ဦးလဘာန်ဂရောင် - ကချင်ကိုယ်စားလှယ် (ဗန်းမော်)
၂၁။ ဦးလွှာမှုန်း - ချင်းကိုယ်စားလှယ် (ဖလမ်း)
၂၂။ ဦးသောင်ဇာခုပ် - ချင်းကိုယ်စားလှယ် (တီးတိန်)
၂၃။ ဦးကွယ်မန်း - ချင်းကိုယ်စားလှယ် (ဟားခါး)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေကို အတည်ပြုပြဋ္ဌာန်း

၁။ ပြည်ထောင်စုမြန်မာနိုင်ငံတော် ပြည်လုံးကျွတ်ဆန္ဒခံယူပွဲ ကျင်းပရေးကော်မရှင်သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေမူကြမ်း အတည်ပြုရေးနှင့်စပ်လျဉ်း၍ ပြည်သူတို့၏ သဘောထားတောင်းခံသည့် ပြည်လုံးကျွတ်ဆန္ဒခံယူပွဲများကို ၂၀၀၈ ခုနှစ်၊ မေလ (၁၀) ရက်နှင့် (၂၄) ရက်နေ့တို့တွင် အောင်မြင်စွာ ကျင်းပပြီးစီးကြောင်းနှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တစ်ဝန်းလုံးမှ ဆန္ဒမဲပေးခွင့်ရှိသူ (၂၇၂၈၈၈၂၇) ဦးအနက် (၉၈.၁၂) ရာခိုင်နှုန်းက ဆန္ဒမဲပေးခဲ့ကြပြီး ယင်းသို့ ဆန္ဒမဲပေးသူများအနက် (၉၂.၄၈) ရာခိုင်နှုန်းက ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံ အခြေခံဥပဒေမူကြမ်းကို အတည်ပြုရန်နှင့် ဥပဒေနှင့်အညီ ထောက်ခံကြောင်း အစီရင်ခံထားပါသည်။

၂။ ထို့ကြောင့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေကို ပြည်လုံးကျွတ်ဆန္ဒခံယူပွဲကြီးက အတည်ပြုပြဋ္ဌာန်းလိုက်ကြောင်း ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၇/၂၀၀၈)ဖြင့် ၂၀၀၈ ခုနှစ်၊ မေလ ၂၉ ရက်တွင် ထုတ်ပြန်ကြေညာခဲ့သည်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အလံနှင့်အလံ၏အဓိပ္ပာယ်

၂၀၁၀ ပြည့်နှစ် အောက်တိုဘာလ ၂၁ ရက်တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက မြန်မာနိုင်ငံတော်အလံကို ပြောင်းလဲခဲ့သည်။ နိုင်ငံတော်အလံသစ်မှာ ထောင့်မှန်စတုဂံဖြစ်ပြီး အလျား ၉ ပေ၊ အနံ ၆ ပေရှိသည်။ အောက်ခံအရောင်မှာ အဝါရောင်၊ အစိမ်းရောင်နှင့် အနီရောင်တို့ ဖြစ်သည်။ အဝါရောင်၊ အစိမ်းရောင်နှင့် အနီရောင်တို့မှာ အလံတော်၏ အနံဖြစ်သော ၆ ပေကို သုံးပုံတစ်ပုံစီ အညီအမျှရှိသည်။ အဝါရောင်၊ အစိမ်းရောင်နှင့်အနီရောင် အောက်ခံပေါ်တွင် ရောင်ခြည်လက်တံငါးခုပါသော ကြယ်ဖြူကြီး တစ်လုံးရှိသည်။

အလံတော်ရှိ အဝါရောင်သည် စည်းလုံးခြင်း၊ ညီညွတ်ခြင်း၊ ဥာဏ်ပညာကြီးမားခြင်း၊ ပျော်ရွှင်ခြင်းနှင့် တိုင်းရင်းသားအားလုံး ချစ်ခင်ရင်းနှီးစွာ စည်းလုံးညီညွတ်မှုရှိခြင်းဟူသော အဓိပ္ပာယ်ကိုဆောင်ပါသည်။

အလံတော်ရှိ အစိမ်းရောင်သည် မြေဆီသြဇာကြွယ်ဝခြင်း၊ ညီညွတ်မျှတခြင်းနှင့် အေးချမ်းသာယာ၍ စိမ်းလန်းစိုပြည်သည့်နိုင်ငံဖြစ်ခြင်းဟူသောအဓိပ္ပာယ်ကို ဆောင်ပါသည်။

အလံတော်ရှိ အနီရောင်သည် ရဲရင့်ခြင်းနှင့် ပြတ်သားခြင်းဟူသောအဓိပ္ပာယ်ကို ဆောင်ပါသည်။

ကြယ်၏အရောင်ဖြစ်သော အဖြူရောင်သည် သန့်ရှင်းစင်ကြယ်ခြင်း၊ ဖြောင့်မတ်မှန်ကန်ခြင်း၊ ကရုဏာတရားပြည့်ဝခြင်းနှင့် စွမ်းအင်နှင့် ပြည့်စုံခြင်းဟူသော အဓိပ္ပာယ်ကို ဆောင်ပါသည်။

နိုင်ငံတော်အလံသစ်ကို ၂၀၁၀ ပြည့်နှစ် အောက်တိုဘာလ ၂၁ ရက် ညနေပိုင်းမှစတင်၍ တစ်နိုင်ငံလုံးရှိ အစိုးရရုံးများနှင့် ကျောင်းများတွင် စတင်လွှင့်ထူခဲ့သည်။

## နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်ပါ အမှတ်အသားများ

နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်ပါ အမှတ်အသားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်၏အလယ်တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်မြေပုံပါရှိသည်။ အရွက် ၁၄ ရွက်စီပါဝင်သော သပြေခက်များသည် မြေပုံ၏တစ်ဖက်တစ်ချက်စီတွင် ပါရှိသည်။

( ခ ) သပြေခက်များ၏ တစ်ဖက်တစ်ချက်တွင် အနုပညာမြောက် မြန်မာခြင်္သေ့ တစ်စီးစီရှိသည်။ လက်ဝဲဘက်မှ ခြင်္သေ့သည် လက်ဝဲဘက်သို့လည်းကောင်း၊ လက်ယာဘက်မှခြင်္သေ့သည် လက်ယာဘက်သို့လည်းကောင်း မျက်နှာမူလျက်ရှိသည်။

( ဂ ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဟူသောစာတန်းကို နိုင်ငံတော်အထိမ်းအမှတ်တံဆိပ် အောက်ခြေဖဲပြားပေါ်တွင် ဖော်ပြထားသည်။ ပြည်ထောင်စုဟူသော စာတန်းကို လက်ဝဲဘက်ရှိ ခြင်္သေ့အောက်တွင်လည်းကောင်း၊ သမ္မတဟူသော စာတန်းကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြေပုံအောက်ရှိ အလယ်ဗဟိုတွင်လည်းကောင်း မြန်မာနိုင်ငံတော်ဟူသောစာတန်းကို လက်ယာဘက်ရှိ ခြင်္သေ့အောက်တွင်လည်းကောင်း ထားရှိသည်။

(ဃ) နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်၏ထိပ်တွင် ကြယ်လက်တံငါးခုရှိသော ကြယ်တစ်လုံးသည် အထက်သို့မတ်မတ်ညွှန်းလျက်ရှိသည်။

( င ) ကြယ်၏တစ်ဖက်တစ်ချက်တွင် မြန်မာ့ပန်းပုံသဏ္ဌာန်ပန်းခက်ပြားရှိသည်။

## နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ၏ ရှေ့လုပ်ငန်းစဉ် (၅) ရပ်

၁။ လွတ်လပ်ပြီး တရားမျှတသော ပါတီစုံဒီမိုကရေစီ အထွေထွေရွေးကောက်ပွဲ အောင်မြင်စွာ ကျင်းပနိုင်ရေး ပြည်ထောင်စုတစ်ဝန်းလုံး တည်ငြိမ်အေးချမ်း၍ တရားဥပဒေစိုးမိုးရေး အပြည့်အဝရရှိလာအောင် အလေးထားဆောင်ရွက်သွားမည်။

၂။ တိုင်းရင်းသားပြည်သူတစ်ရပ်လုံးနှင့် အကျိုးဝင်သော စိုက်ပျိုးမွေးမြူရေးကို အခြေခံသည့် ကုန်ထုတ်လုပ်ငန်းများအား မြှင့်တင်၍ နိုင်ငံ့စီးပွားမြင့်မားရေးနှင့် ပြည်သူလူထု တစ်ရပ်လုံး၏ လူမှုစီးပွားဘဝမြင့်မားရေး ဆက်လက်ကြိုးပမ်းဆောင်ရွက်သွားမည်။

၃။ နိုင်ငံတော်၏ပကတိအနှစ်သာရဖြစ်သော ပြည်တွင်းငြိမ်းချမ်းရေးနှင့် ရရှိထားသည့် ပြည်တွင်းငြိမ်းချမ်းရေးရလဒ်များ တည်ငြိမ်မှုရှိစေရေးအတွက် (NCA)ပါ သဘောတူညီချက်များအတိုင်း ဖြစ်နိုင်သမျှ အလေးထားလုပ်ဆောင်သွားမည်။

၄။ စစ်မှန်စည်းကမ်းပြည့်ဝသည့် ပါတီစုံဒီမိုကရေစီစနစ် ခိုင်မာစေရေးနှင့် ဒီမိုကရေစီနှင့် ဖက်ဒရယ်စနစ်ကိုအခြေခံသည့် ပြည်ထောင်စုတည်ဆောက်ရေးလုပ်ငန်းစဉ်များကို အရှိန်အဟုန်ဖြင့် ဆက်လက်ဆောင်ရွက်သွားမည်။

၅။ ဆန္ဒမဲပေးပိုင်ခွင့်ရှိသူအားလုံး၏ အခွင့်အရေးများ နစ်နာမှုမရှိစေရေးနှင့် နည်းလမ်းကျနမှန်ကန်မှုရှိသည့် အထွေထွေရွေးကောက်ပွဲတစ်ရပ်ဖြစ်စေရေး ဆောင်ရွက်ခြင်း၊ အရေးပေါ်ကာလဆိုင်ရာ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ခြင်းတို့ ပြီးစီးပါက လွတ်လပ်ပြီး တရားမျှတသောပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲကျင်းပ၍ထွက်ပေါ်လာသည့် အစိုးရအား နိုင်ငံတော်တာဝန်လွှဲအပ်နိုင်ရေး ဆက်လက်ဆောင်ရွက်သွားမည်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်<br>နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ ဦးတည်ချက် (၉) ရပ်

၁။ **နိုင်ငံရေး**

(က) စစ်မှန်၍ စည်းကမ်းပြည့်ဝသော ပါတီစုံဒီမိုကရေစီစနစ် ခိုင်မာစေရေးနှင့် ဒီမိုကရေစီနှင့် ဖက်ဒရယ်စနစ်ကို အခြေခံသည့် ပြည်ထောင်စုကို တည်ဆောက်နိုင်ရေး။

( ခ ) တစ်နိုင်ငံလုံး ထာဝရငြိမ်းချမ်းရေးရရှိရေးအတွက် တစ်နိုင်ငံလုံး ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေးသဘောတူစာချုပ် (NCA)ပါအတိုင်း အလေးထားလုပ်ဆောင်ရေး။

( ဂ ) ပြည်သူလူထု၏ လူမှုစီးပွားဘဝ လုံခြုံရေးအတွက် ပြည်ထောင်စုတစ်ဝန်းလုံး တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေး အပြည့်အဝ ရရှိစေရန် အလေးထား လုပ်ဆောင်ရေး။

၂။ **စီးပွားရေး**

(က) တိုင်းပြည်သာယာဝပြောရေးနှင့် စားရေရိက္ခာဖူလုံရေးတို့အတွက် တိုင်းရင်းသား ပြည်သူတစ်ရပ်လုံးနှင့် အကျုံးဝင်သော စိုက်ပျိုးရေးနှင့် မွေးမြူရေးကို ခေတ်မီ နည်းစနစ်များဖြင့် တိုးတက်အောင်ဆောင်ရွက်ပြီး အခြားစီးပွားရေးကဏ္ဍများ ကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး။

( ခ ) တိုးတက်ကောင်းမွန်လာသည့် စီးပွားရေးမောင်းနှင်အားကို မဏ္ဍိုင်ပြု၍ MSME စက်မှုလုပ်ငန်းများကို အားပေးဆောင်ရွက်ကာ ပို့ကုန်ကဏ္ဍမြှင့်တင်ရေး။

( ဂ ) ပြည်တွင်းစားသုံးဆီဖူလုံရေးအတွက် ဆီထွက်သီးနှံစိုက်ပျိုးမှုကို အားပေးမြှင့်တင် ပြီး ပန်းတိုင်ရည်မှန်းချက်အတိုင်း ထွက်ရှိအောင် ဆောင်ရွက်၍ နိုင်ငံအတွင်း ဖူလုံမှုမှသည် ပြည်ပသို့ တင်ပို့နိုင်သည်အထိ ကြိုးပမ်းဆောင်ရွက်ရေး။

၃။ **လူမှုရေး**

(က) တစ်နိုင်ငံလုံး အသိပညာ၊ အတတ်ပညာမြင့်မားတိုးတက်စေရေး၊ ကုန်ထုတ်လုပ်မှု အထောက်အကူပြုပညာရှင်များ ထွန်းကားလာစေရေးအတွက် လူတိုင်း လက်လှမ်းမီသည့် ဘက်စုံပညာရေးစနစ်ကို အကောင်အထည်ဖော်ဆောင်ရေး။

( ခ ) တစ်မျိုးသားလုံး သက်ရှည်ကျန်းမာကြံ့ခိုင်ရေးအတွက် ပြည်သူအားလုံး အကျုံးဝင် မည့် ကျန်းမာရေးကဏ္ဍနှင့် အားကစားကဏ္ဍ မြှင့်တင်ဆောင်ရွက်ရေး။

( ဂ ) နိုင်ငံ၏ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းစဉ်များ၌ လူငယ်များအနေဖြင့် အဓိကစွမ်းအားစု အဖြစ် ပါဝင်နိုင်ရေး ဗလငါးတန်နှင့်ပြည်စုံသော လူငယ်များဖြစ်စေရန် လူငယ် ကဏ္ဍကို မြှင့်တင်ဆောင်ရွက်ရေး။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတအဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ

| စဉ် | အမည် | မွေး – ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၁။ | စဝ်ရွှေသိုက် | ၁၈၉၆–၁၉၆၂ | ၄–၁–၁၉၄၈ မှ ၁၆–၃–၁၉၅၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၂။ | ဒေါက်တာဘဦး | ၁၈၈၇–၁၉၆၃ | ၁၆–၃–၁၉၅၂ မှ ၁၃–၃–၁၉၅၇ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၃။ | မန်းဝင်းမောင် | ၁၉၁၆–၁၉၈၉ | ၁၃–၃–၁၉၅၇ မှ ၂–၃–၁၉၆၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| မိုလ်ချုပ်ကြီးနေဝင်း ဦးဆောင်သည့် တော်လှန်ရေးကောင်စီသည် ၂–၃–၁၉၆၂ မှ ၂–၃–၁၉၇၄ ရက်အထိ တပ်မတော်အစိုးရဖြင့် အုပ်ချုပ်ခဲ့ပါသည်။ | | | | |
| ၄။ | ဦးနေဝင်း | ၁၉၁၀–၂၀၀၂ | ၂–၃–၁၉၆၂ မှ ၉–၁၁–၁၉၈၁ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၅။ | ဦးစန်းယု | ၁၉၁၈–၁၉၉၆ | ၉–၁၁–၁၉၈၁ မှ ၂၅–၇–၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |

<table>
<tr><th>စဉ်</th><th>အမည်</th><th>မွေး – ဆုံး</th><th>ကာလ</th><th>ကိုယ်စားပြုနိုင်ငံရေးပါတီ</th></tr>
<tr><td>၆။</td><td>ဦးစိန်လွင်</td><td>၁၉၂၄–၂၀၀၄</td><td>၂၅–၇–၁၉၈၈ မှ<br>၁၂–၈–၁၉၈၈ ထိ</td><td>မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ</td></tr>
<tr><td colspan="5">ဦးအေးကို(ယာယီသမ္မတ) သည် ၁၂–၈–၁၉၈၈ မှ ၁၉–၈–၁၉၈၈ ရက်အထိ နိုင်ငံတော်သမ္မတရာထူးကို<br>ခေတ္တတာဝန်ထမ်းဆောင်ခဲ့ပါသည်။</td></tr>
<tr><td>၇။</td><td>ဒေါက်တာမောင်မောင်</td><td>၁၉၂၅–၁၉၉၄</td><td>၁၉–၈–၁၉၈၈မှ<br>၁၈–၉–၁၉၈၈ ထိ</td><td>မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ</td></tr>
<tr><td colspan="5">ဗိုလ်ချုပ်မှူးကြီးစောမောင် ဦးဆောင်သည့် နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့သည်<br>၁၈–၉–၁၉၈၈ မှ ၂၃–၄–၁၉၉၂ အထိ တပ်မတော်အစိုးရဖြင့်လည်းကောင်း၊ ဗိုလ်ချုပ်မှူးကြီးသန်းရွှေသည်<br>၂၃–၄–၁၉၉၂ မှ ၁၅–၁၁–၁၉၉၇ အထိ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ (တပ်မတော်အစိုးရ)ဖြင့်လည်းကောင်း၊<br>၁၅–၁၁–၁၉၉၇ မှ ၃၀–၃–၂၀၁၁ အထိ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ<br>(တပ်မတော်အစိုးရ)ဖြင့်လည်းကောင်း အသီးသီးအုပ်ချုပ်ခဲ့ပါသည်။</td></tr>
<tr><td>၈။</td><td>ဦးသိန်းစိန်</td><td>၁၉၄၅–</td><td>၃၀–၃–၂၀၁၁ မှ<br>၃၀–၃–၂၀၁၆</td><td>ပြည်ထောင်စုကြံ့ခိုင်ရေးနှင့် ဖွံ့ဖြိုးရေးပါတီ</td></tr>
<tr><td>၉။</td><td>ဦးထင်ကျော်</td><td>၁၉၄၆–</td><td>၃၀–၃–၂၀၁၆ မှ<br>၂၁–၃–၂၀၁၈ ထိ</td><td>အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်</td></tr>
<tr><td>၁၀။</td><td>ဦးဝင်းမြင့်</td><td>၁၉၅၁–</td><td>၃၀–၃–၂၀၁၈ မှ<br>၃၁–၁–၂၀၂၁ အထိ</td><td>အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်</td></tr>
<tr><td colspan="5">ဗိုလ်ချုပ်မှူးကြီးမင်းအောင်လှိုင် ဦးဆောင်သည့် နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီသည်<br>၁–၂–၂၀၂၁ မှ ယနေ့အထိ အုပ်ချုပ်လျက်ရှိပါသည်။</td></tr>
</table>

## မြန်မာနိုင်ငံ၏ ဝန်ကြီးချုပ်များအဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ

| စဉ် | အမည် | မွေး – ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၁။ | ဦးနု (ပထမအကြိမ်) | ၁၉၀၇–၁၉၉၅ | ၄–၁–၁၉၄၈ မှ<br>၁၂–၆–၁၉၅၆ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၂။ | ဦးဗဆွေ | ၁၉၁၅–၁၉၈၇ | ၁၂–၆–၁၉၅၆ မှ<br>၁–၃–၁၉၅၇ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၃။ | ဦးနု (ဒုတိယအကြိမ်) | ၁၉၀၇–၁၉၉၅ | ၁–၃–၁၉၅၇ မှ<br>၂၉–၁၀–၁၉၅၈ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၄။ | ဦးနေဝင်း (ပထမအကြိမ်) | ၁၉၁၀–၂၀၀၂ | ၂၉–၁၀–၁၉၅၈ မှ<br>၄–၄–၁၉၆၀ ထိ | တပ်မတော် |
| ၅။ | ဦးနု (တတိယအကြိမ်) | ၁၉၀၇–၁၉၉၅ | ၄–၄–၁၉၆၀ မှ<br>၂–၃–၁၉၆၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၆။ | ဦးနေဝင်း<br>(ဒုတိယအကြိမ်) | ၁၉၁၀–၂၀၀၂ | ၂–၃–၁၉၆၂ မှ<br>၄–၃–၁၉၇၄ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၇။ | ဦးစိန်ဝင်း | ၁၉၁၉–၁၉၉၃ | ၄–၃–၁၉၇၄ မှ<br>၂၉–၃–၁၉၇၇ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |

| စဉ် | အမည် | မွေး–ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၈။ | ဦးမောင်မောင်ခ | ၁၉၂၀–၁၉၉၅ | ၂၉–၃–၁၉၇၇ မှ ၂၆–၇–၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၉။ | ဦးထွန်းတင် | ၁၉၃၀–၂၀၂၀ | ၂၆–၇–၁၉၈၈ မှ ၁၈–၉–၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၁၀။ | ဗိုလ်ချုပ်မှူးကြီးစောမောင် | ၁၉၂၈–၁၉၉၇ | ၂၁–၉–၁၉၈၈ မှ ၂၃–၄–၁၉၉၂ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၁။ | ဗိုလ်ချုပ်မှူးကြီးသန်းရွှေ | ၁၉၃၃– | ၂၃–၄–၁၉၉၂ မှ ၂၅–၈–၂၀၀၃ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၂။ | ဗိုလ်ချုပ်ကြီးခင်ညွန့် | ၁၉၃၉– | ၂၅–၈–၂၀၀၃ မှ ၁၈–၁၀–၂၀၀၄ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၃။ | ဗိုလ်ချုပ်ကြီးစိုးဝင်း | ၁၉၄၉–၂၀၀၇ | ၁၉–၁၀–၂၀၀၄ မှ ၁၂–၁၀–၂၀၀၇ ထိ | တပ်မတော် (နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ) |
| ၁၄။ | ဗိုလ်ချုပ်ကြီး သိန်းစိန် | ၁၉၄၅– | ၁၂–၁၀–၂၀၀၇ မှ ၂၉–၃–၂၀၁၁ | တပ်မတော် (နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ) |
| ၁၅။ | ဗိုလ်ချုပ်မှူးကြီးမင်းအောင်လှိုင် | ၁၉၅၆– | ၁–၈–၂၀၂၁ မှ ယနေ့ထိ | တပ်မတော် (နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ) |

## နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ

| | | |
|---|---|---|
| ၁။ | ဗိုလ်ချုပ်မှူးကြီးမင်းအောင်လှိုင် | ဥက္ကဋ္ဌ |
| ၂။ | ဒုတိယဗိုလ်ချုပ်မှူးကြီးစိုးဝင်း | ဒုတိယဥက္ကဋ္ဌ |
| ၃။ | ဒုတိယဗိုလ်ချုပ်ကြီးအောင်လင်းဒွေး | အတွင်းရေးမှူး |
| ၄။ | ဒုတိယဗိုလ်ချုပ်ကြီးရဲဝင်းဦး | တွဲဖက်အတွင်းရေးမှူး |
| ၅။ | ဗိုလ်ချုပ်ကြီးမြထွန်းဦး | အဖွဲ့ဝင် |
| ၆။ | ဗိုလ်ချုပ်ကြီးတင်အောင်စန်း | အဖွဲ့ဝင် |
| ၇။ | ဗိုလ်ချုပ်ကြီးမောင်မောင်အေး | အဖွဲ့ဝင် |
| ၈။ | ဒုတိယဗိုလ်ချုပ်ကြီးရာပြည့် | အဖွဲ့ဝင် |
| ၉။ | ဒုတိယဗိုလ်ချုပ်ကြီးညိုစောဝ | အဖွဲ့ဝင် |
| ၁၀။ | ဦးဂဏ္ဍာမောင်လွင် | အဖွဲ့ဝင် |
| ၁၁။ | ဒေါ်ခွဲဘူ | အဖွဲ့ဝင် |
| ၁၂။ | ပိုးရယ်အောင်သိန်း | အဖွဲ့ဝင် |
| ၁၃။ | မန်းငြိမ်းမောင် | အဖွဲ့ဝင် |
| ၁၄။ | ဒေါက်တာမှုထန် | အဖွဲ့ဝင် |
| ၁၅။ | ဒေါက်တာဘာရွှေ | အဖွဲ့ဝင် |
| ၁၆။ | ခွန်စံလွင် | အဖွဲ့ဝင် |
| ၁၇။ | ဦးရွှေကြိမ်း | အဖွဲ့ဝင် |
| ၁၈။ | ဦးရန်ကျော် | အဖွဲ့ဝင် |

## ပြည်ထောင်စုအစိုးရအဖွဲ့

နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီသည် ချမှတ်ထားသည့် ရှေ့လုပ်ငန်းစဉ် (၅) ရပ်နှင့် ဦးတည်ချက် (၉) ရပ်ကို ပိုမိုမြန်ဆန်ထိရောက်စွာ အကောင်အထည်ဖော်ဆောင်ရွက်ရန် အလို့ငှာ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၄၁၉ အရ ပြည်ထောင်စုအစိုးရအဖွဲ့ကို ၂၀၂၄ ခုနှစ်၊ ဖေဖော်ဝါရီလ ၁ ရက် ရက်စွဲပါအမိန့်အမှတ် ၁၇/၂၀၂၄ အရ အောက်ပါပုဂ္ဂိုလ်များဖြင့် ထပ်မံပြင်ဆင်ဖွဲ့စည်းခဲ့ပါသည် –

| | | |
|---|---|---|
| ၁။ | ဗိုလ်ချုပ်မှူးကြီးမင်းအောင်လှိုင် | နိုင်ငံတော်ဝန်ကြီးချုပ် |
| ၂။ | ဒုတိယဗိုလ်ချုပ်မှူးကြီးစိုးဝင်း | ဒုတိယဝန်ကြီးချုပ် |
| ၃။ | ဗိုလ်ချုပ်ကြီးမြထွန်းဦး | ဒုတိယဝန်ကြီးချုပ်နှင့် ပြည်ထောင်စုဝန်ကြီး၊ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန |
| ၄။ | ဗိုလ်ချုပ်ကြီးတင်အောင်စန်း | ဒုတိယဝန်ကြီးချုပ်နှင့် ပြည်ထောင်စုဝန်ကြီး၊ ကာကွယ်ရေးဝန်ကြီးဌာန |

၅။ ဒုတိယဗိုလ်ချုပ်ကြီးရာပြည့်	ပြည်ထောင်စုဝန်ကြီး၊ ပြည်ထဲရေးဝန်ကြီးဌာန

၆။ ဦးဝင်းရှိန်	ဒုတိယဝန်ကြီးချုပ်နှင့် ပြည်ထောင်စုဝန်ကြီး စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

၇။ ဦးသန်းဆွေ	ဒုတိယဝန်ကြီးချုပ်နှင့် ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံခြားရေးဝန်ကြီးဌာန

၈။ ဦးကိုကိုလှိုင်	ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံး၊ ဝန်ကြီးဌာန(၁)

၉။ ဦးအောင်နိုင်ဦး	ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံး၊ ဝန်ကြီးဌာန(၂)

၁၀။ ဦးအောင်ကျော်ဟိုး	ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံး၊ ဝန်ကြီးဌာန(၃)

၁၁။ ဗိုလ်ချုပ်ကြီးမိုးအောင်	ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံး၊ ဝန်ကြီးဌာန(၄)

၁၂။ ဒုတိယဗိုလ်ချုပ်ကြီးထွန်းထွန်းနောင်	ပြည်ထောင်စုဝန်ကြီး၊ နယ်စပ်ရေးရာဝန်ကြီးဌာန

၁၃။ ဒေါက်တာကံဇော်	ပြည်ထောင်စုဝန်ကြီး၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန

၁၄။ ဒေါက်တာသီတာဦး	ပြည်ထောင်စုဝန်ကြီး၊ ဥပဒေရေးရာဝန်ကြီးဌာန

၁၅။ ဦးမောင်မောင်အုန်း	ပြည်ထောင်စုဝန်ကြီး၊ ပြန်ကြားရေးဝန်ကြီးဌာန

၁၆။ ဦးတင်ဦးလွင်	ပြည်ထောင်စုဝန်ကြီး၊ သာသနာရေးနှင့်ယဉ်ကျေးမှုဝန်ကြီးဌာန

၁၇။ ဦးမင်းနောင်	ပြည်ထောင်စုဝန်ကြီး၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

၁၈။ ဦးလှမိုး	ပြည်ထောင်စုဝန်ကြီး၊ သမဝါယမနှင့်ကျေးလက်ဖွံ့ဖြိုးရေးဝန်ကြီးဌာန

၁၉။ ဦးခင်မောင်ရီ	ပြည်ထောင်စုဝန်ကြီး၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

၂၀။ ဦးဉာဏ်ထွန်း	ပြည်ထောင်စုဝန်ကြီး၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

၂၁။ ဦးကိုကိုလွင်	ပြည်ထောင်စုဝန်ကြီး၊ စွမ်းအင်ဝန်ကြီးဌာန

၂၂။ ဒေါက်တာချာလီသန်း	ပြည်ထောင်စုဝန်ကြီး၊ စက်မှုဝန်ကြီးဌာန

၂၃။ ဦးမြင့်ကြိုင်	ပြည်ထောင်စုဝန်ကြီး၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

၂၄။ ဦးမြင့်နောင်	ပြည်ထောင်စုဝန်ကြီး၊ အလုပ်သမားဝန်ကြီးဌာန

၂၅။ ဦးထွန်းအုံ	ပြည်ထောင်စုဝန်ကြီး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

| | | |
|---|---|---|
| ၂၆။ | ဒေါက်တာညွန့်ဖေ | ပြည်ထောင်စုဝန်ကြီး၊ ပညာရေးဝန်ကြီးဌာန |
| ၂၇။ | ဒေါက်တာမျိုးသိန်းကျော် | ပြည်ထောင်စုဝန်ကြီး၊ သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာန |
| ၂၈။ | ဒေါက်တာသက်ခိုင်ဝင်း | ပြည်ထောင်စုဝန်ကြီး၊ ကျန်းမာရေးဝန်ကြီးဌာန |
| ၂၉။ | ဦးမင်းသိန်းဇံ | ပြည်ထောင်စုဝန်ကြီး၊ အားကစားနှင့်လူငယ်ရေးရာဝန်ကြီးဌာန |
| ၃၀။ | ဦးမျိုးသန့် | ပြည်ထောင်စုဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန |
| ၃၁။ | ဒေါက်တာစိုးဝင်း | ပြည်ထောင်စုဝန်ကြီး၊ လူမှုဝန်ထမ်းကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန |
| ၃၂။ | ဒေါက်တာသက်သက်ခိုင် | ပြည်ထောင်စုဝန်ကြီး၊ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန |
| ၃၃။ | Jeng Phang နော်တောင် | ပြည်ထောင်စုဝန်ကြီး၊ တိုင်းရင်းသားလူမျိုးများရေးရာဝန်ကြီးဌာန |
| ၃၄။ | ဦးဇော်သန်းသင်း | အမြဲတမ်းအတွင်းဝန်၊ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး |

## နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ ဗဟိုအကြံပေးအဖွဲ့ဖွဲ့စည်းခြင်း

နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီသည် ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၄၁၉ အရ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ ဗဟိုအကြံပေးအဖွဲ့ကို အောက်ပါပုဂ္ဂိုလ်များဖြင့် ဖွဲ့စည်းလိုက်သည်–

| | | |
|---|---|---|
| ၁။ | ဦးစောထွန်းအောင်မြင့် | အဖွဲ့ခေါင်းဆောင် |
| ၂။ | ဦးသိန်းညွန့် | အဖွဲ့ဝင် |
| ၃။ | ဦးခင်မောင်ဆွေ | အဖွဲ့ဝင် |
| ၄။ | ဒေါ်အေးနုစိန် | အဖွဲ့ဝင် |
| ၅။ | ဦးမောင်းဟာ | အဖွဲ့ဝင် |
| ၆။ | ဦးစိုင်းလုံးစိုင် | အဖွဲ့ဝင် |
| ၇။ | စောဒန်နီယယ် | အဖွဲ့ဝင် |
| ၈။ | ဒေါက်တာဗညားအောင်မိုး | အဖွဲ့ဝင် |
| ၉။ | ဒေါက်တာမောင်မောင်နိုင် | အဖွဲ့ဝင် |

## နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌ၏ အကြံပေးပုဂ္ဂိုလ်ခန့်အပ်ခြင်း

နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီသည် ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၄၁၉ အရ အောက်ပါပုဂ္ဂိုလ်အား နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌ၏ အကြံပေးပုဂ္ဂိုလ်အဖြစ် ခန့်အပ်၍ ပြည်ထောင်စုဝန်ကြီးအဆင့် သတ်မှတ်တာဝန်ပေးလိုက်သည်–

ဒုတိယဗိုလ်ချုပ်ကြီးညိုစော အကြံပေးပုဂ္ဂိုလ်

## အစိုးရဝန်ကြီးဌာနများ

၁။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
Ministry of Transport and Communication

၂။ ကာကွယ်ရေးဝန်ကြီးဌာန
Ministry of Defence

၃။ ပြည်ထဲရေးဝန်ကြီးဌာန
Ministry of Home Affairs

၄။ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
Ministry of Planning and Finance

၅။ နိုင်ငံခြားရေးဝန်ကြီးဌာန
Ministry of Foreign Affairs

၆။ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံးဝန်ကြီးဌာန(၁)
Ministry 1 at Office of Chairman of the State Administration Council

၇။ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံးဝန်ကြီးဌာန(၂)
Ministry 2 at Office of Chairman of the State Administration Council

၈။ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံးဝန်ကြီးဌာန(၃)
Ministry 3 at Office of Chairman of the State Administration Council

၉။ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံးဝန်ကြီးဌာန(၄)
Ministry 4 at Office of Chairman of the State Administration Council

၁၀။ နယ်စပ်ရေးရာဝန်ကြီးဌာန
Ministry of Border Affairs

၁၁။ ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
Ministry of Investment and Foreign Economic Relations

၁၂။ ဥပဒေရေးရာဝန်ကြီးဌာန
Ministry of Legal Affairs

၁၃။ ပြန်ကြားရေးဝန်ကြီးဌာန
Ministry of Information

၁၄။ သာသနာရေးနှင့် ယဉ်ကျေးမှုဝန်ကြီးဌာန
Ministry of Religious Affairs and Culture

၁၅။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
Ministry of Agriculture, Livestock and Irrigation

၁၆။ သမဝါယမနှင့် ကျေးလက်ဖွံ့ဖြိုးရေးဝန်ကြီးဌာန
Ministry of Cooperatives and Development of Rural Areas

၁၇။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
Ministry of Natural Resources and Environmental Conservation

၁၈။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
Ministry of Electricity

၁၉။ စွမ်းအင်ဝန်ကြီးဌာန
Ministry of Energy

၂၀။ စက်မှုဝန်ကြီးဌာန
Ministry of Industry

၂၁။ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
Ministry of Immigration and Population

၂၂။ အလုပ်သမားဝန်ကြီးဌာန
Ministry of Labour

၂၃။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
Ministry of Commerce

၂၄။ ပညာရေးဝန်ကြီးဌာန
Ministry of Education

၂၅။ သိပ္ပံနှင့် နည်းပညာဝန်ကြီးဌာန
Ministry of Science and Technology

၂၆။ ကျန်းမာရေးဝန်ကြီးဌာန
Ministry of Health

၂၇။ အားကစားနှင့် လူငယ်ရေးရာဝန်ကြီးဌာန
Ministry of Sports and Youth Affairs

၂၈။ ဆောက်လုပ်ရေးဝန်ကြီးဌာန
Ministry of Construction

၂၉။ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
Ministry of Social Welfare, Relief and Resettlement

၃၀။ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန
Ministry of Hotels and Tourism

၃၁။ တိုင်းရင်းသားလူမျိုးများရေးရာဝန်ကြီးဌာန
Ministry of Ethnic Affairs

# ပြည်ထောင်စုဝန်ကြီးများ

| | | |
|---|---|---|
| ၁။ | ဗိုလ်ချုပ်ကြီးမြထွန်းဦး | ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန |
| ၂။ | ဗိုလ်ချုပ်ကြီးတင်အောင်စန်း | ကာကွယ်ရေးဝန်ကြီးဌာန |
| ၃။ | ဒုတိယဗိုလ်ချုပ်ကြီးရာပြည့် | ပြည်ထဲရေးဝန်ကြီးဌာန |
| ၄။ | ဦးဝင်းရှိန် | စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၅။ | ဦးသန်းဆွေ | နိုင်ငံခြားရေးဝန်ကြီးဌာန |
| ၆။ | ဦးကိုကိုလှိုင် | ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံး၊ ဝန်ကြီးဌာန(၁) |
| ၇။ | ဦးအောင်နိုင်ဦး | ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံး၊ ဝန်ကြီးဌာန(၂) |
| ၈။ | ဦးအောင်ကျော်ဟိုး | ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံး၊ ဝန်ကြီးဌာန(၃) |
| ၉။ | ဗိုလ်ချုပ်ကြီးမိုးအောင် | ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံး၊ ဝန်ကြီးဌာန(၄) |
| ၁၀။ | ဒုတိယဗိုလ်ချုပ်ကြီးထွန်းထွန်းနောင် | နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၁၁။ | ဒေါက်တာကံဇော် | ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန |
| ၁၂။ | ဒေါက်တာသီတာဦး | ဥပဒေရေးရာဝန်ကြီးဌာန |
| ၁၃။ | ဦးမောင်မောင်အုန်း | ပြန်ကြားရေးဝန်ကြီးဌာန |
| ၁၄။ | ဦးတင်ဦးလွင် | သာသနာရေးနှင့်ယဉ်ကျေးမှုဝန်ကြီးဌာန |
| ၁၅။ | ဦးမင်းနောင် | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၁၆။ | ဦးလှမိုး | သမဝါယမနှင့်ကျေးလက်ဖွံ့ဖြိုးရေးဝန်ကြီးဌာန |
| ၁၇။ | ဦးခင်မောင်ရီ | သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန |
| ၁၈။ | ဦးဉာဏ်ထွန်း | လျှပ်စစ်စွမ်းအားဝန်ကြီးဌာန |
| ၁၉။ | ဦးကိုကိုလွင် | စွမ်းအင်ဝန်ကြီးဌာန |
| ၂၀။ | ဒေါက်တာချာလီသန်း | စက်မှုဝန်ကြီးဌာန |
| ၂၁။ | ဦးမြင့်ကြိုင် | လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန |
| ၂၂။ | ဦးမြင့်နောင် | အလုပ်သမားဝန်ကြီးဌာန |
| ၂၃။ | ဦးထွန်းအုံ | စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန |
| ၂၄။ | ဒေါက်တာညွန့်ဖေ | ပညာရေးဝန်ကြီးဌာန |
| ၂၅။ | ဒေါက်တာမျိုးသိန်းကျော် | သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာန |
| ၂၆။ | ဒေါက်တာသက်ခိုင်ဝင်း | ကျန်းမာရေးဝန်ကြီးဌာန |

၂၇။ ဦးမင်းသိန်းဇံ — အားကစားနှင့်လူငယ်ရေးရာဝန်ကြီးဌာန
၂၈။ ဦးမျိုးသန့် — ဆောက်လုပ်ရေးဝန်ကြီးဌာန
၂၉။ ဒေါက်တာစိုးဝင်း — လူမှုဝန်ထမ်းကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
၃၀။ ဒေါက်တာသက်သက်ခိုင် — ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
၃၁။ Jeng Phang နော်တောင် — တိုင်းရင်းသားလူမျိုးများရေးရာဝန်ကြီးဌာန

## ဒုတိယဝန်ကြီးများ

| | | | |
|---|---|---|---|
| ၁။ | ဦးခင်လတ် | = | နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီရုံး |
| ၂။ | ဗိုလ်မှူးချုပ်လူမွန် | = | ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန |
| ၃။ | ဦးအောင်ကျော်ထွန်း | = | ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန |
| ၄။ | ဦးအောင်မြိုင် | = | ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန |
| ၅။ | ဗိုလ်ချုပ်အောင်လင်းထွန်း | = | ကာကွယ်ရေးဝန်ကြီးဌာန |
| ၆။ | ဒုတိယဗိုလ်ချုပ်ကြီး နီလင်းအောင် | = | ပြည်ထဲရေးဝန်ကြီးဌာန |
| ၇။ | ဗိုလ်ချုပ်တိုးရီ | = | ပြည်ထဲရေးဝန်ကြီးဌာန |
| ၈။ | ဦးမောင်မောင်ဝင်း | = | စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၉။ | ဒေါ်သန်းသန်းလင်း | = | စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၁၀။ | ဦးလွင်ဦး | = | နိုင်ငံခြားရေးဝန်ကြီးဌာန |
| ၁၁။ | ဦးထင်ကျော်သူ | = | နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံးဝန်ကြီးဌာန(၂) |
| ၁၂။ | ဗိုလ်ချုပ်ခွန်သန့်ဇော်ထူး | = | နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံးဝန်ကြီးဌာန(၄) |
| ၁၃။ | ဗိုလ်ချုပ်ဖြိုးသန့် | = | နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၁၄။ | ဒေါက်တာဝါဝါမောင် | = | ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန |
| ၁၅။ | ဒေါက်တာထိန်လင်းဦး | = | ဥပဒေရေးရာဝန်ကြီးဌာန |
| ၁၆။ | ဦးရဲတင့် | = | ပြန်ကြားရေးဝန်ကြီးဌာန |
| ၁၇။ | ဗိုလ်ချုပ်ဇော်မင်းထွန်း | = | ပြန်ကြားရေးဝန်ကြီးဌာန |
| ၁၈။ | ဦးအေးထွန်း | = | သာသနာရေးနှင့် ယဉ်ကျေးမှုဝန်ကြီးဌာန |
| ၁၉။ | ဒေါ်နုမြဇံ | = | သာသနာရေးနှင့် ယဉ်ကျေးမှုဝန်ကြီးဌာန |
| ၂၀။ | ဒေါက်တာအောင်ကြီး | = | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၂၁။ | ဒေါက်တာတင်ထွဋ်ဦး | = | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |

**မြန်မာနိုင်ငံ ကော်ဖီအသင်းနှင့် ပြင်ဦးလွင် ကော်ဖီဥယျာဉ် ဆောင်ရွက်နေမှု အခြေအနေများကို သွားရောက်ကြည့်ရှုစစ်ဆေးစဉ် ပြောကြားသည့် အမှာစကား (၁၉-၄-၂၀၂၂)**

- မိမိတို့နိုင်ငံတွင် စိုက်ပျိုးရေး၊ မွေးမြူရေးကဏ္ဍဖွံ့ဖြိုးတိုးတက်စေရန်ရည်ရွယ်၍ စိုက်ပျိုးမွေးမြူရေးသိပ္ပံ၊ ကောလိပ်များကို တိုးချဲ့ ဖွင့်လှစ်ဆောင်ရွက်လျက်ရှိပြီး လူသားအရင်းအမြစ်များ ပေါ်ထွက်လာစေရန် ဆောင်ရွက်လျက်ရှိကြောင်း၊ စိုက်ပျိုးရေးအတွက် လိုအပ်သည့် မြေဩဇာကဲ့သို့သောသွင်းအားစုများကို မွေးမြူရေးမှ ရရှိလာသည့် စွန့်ပစ်ပစ္စည်းများ၊ သဘာဝမြေဩဇာများ၊ စိုက်ပျိုးရေးစွန့်ပစ်ကုန်များမှ ထုတ်လုပ်၍ အသုံးချနိုင်ရေး လုပ်ဆောင်နိုင်ရမည်ဖြစ်ကြောင်း၊ အောင်မြင်အောင် ဆောင်ရွက်ကြစေလိုပြီး တိုင်းပြည်အတွက်လည်း ဝင်ငွေတိုးပွားလာမည်ဖြစ်ကြောင်း။
- ကော်ဖီမျိုးများကို စိုက်ပျိုးရာတွင် မျိုးအများအပြားဆောင်ရွက်မည့်အစား လုပ်ငန်းရှင်များနှင့် ကော်ဖီစိုက်တောင်သူများ အကျိုးဖြစ်ထွန်းစေနိုင်မည့် အရည်အသွေးတည်ငြိမ်ပြီး ဈေးနှုန်းခိုင်မာသင့်တင့်သည့် မျိုးများကို ရွေးချယ်ဆောင်ရွက်ကြရန် လိုကြောင်းနှင့် လေ့လာသူများကိုလည်း ကော်ဖီစိုက်ပျိုးရေးကို စိတ်ပါဝင်စားလာစေရေး စနစ်တကျ လမ်းညွှန်ရှင်းလင်းပြသရန်လိုကြောင်း၊ ပြင်ဦးလွင်ကော်ဖီဥယျာဉ်အနေဖြင့် ကော်ဖီစိုက်လုပ်ငန်းရှင်များကို အကျိုးဖြစ်ထွန်းစေနိုင်မည့် အကြံဉာဏ်များကို ပေးနိုင်ရမည်ဖြစ်ပြီး မြန်မာ့ကော်ဖီကို ကမ္ဘာ့ဈေးကွက်သို့ ထိုးဖောက်နိုင်ရေးဆောင်ရွက်ရာတွင် အထောက်အကူပေးနိုင်ရမည်ဖြစ်ကြောင်း။

**မြန်မာ့အသံနှင့်ရုပ်မြင်သံကြား MRTV Media Worldwide Mobile Satellite Data Application Services MRTV App & Web စတင်ဖွင့်လှစ်ခြင်းအခမ်းအနားတွင် ပြောကြားသည့် အမှာစကား (၄-၅-၂၀၂၂)**

- မီဒီယာကဏ္ဍအနေဖြင့်လည်း ပြည်သူများအတွက် ဒီမိုကရေစီနှင့် ပတ်သက်သည့် အသိပညာ၊ အတွေးအခေါ်များရရှိစေရန်နှင့် လူငယ်လူရွယ်များအားလုံး ပညာရေးလမ်းကြောင်းပေါ်တွင် ကောင်းမွန်စွာရပ်တည်နိုင်ရန်၊ ခေတ်ပညာတတ်လူငယ်များဖြစ်စေရေး ပံ့ပိုးပေးရန်၊ စေ့ဆော်တိုက်တွန်းပေးရန် လိုအပ်သလို ကျင့်ဝတ်သိက္ခာစောင့်ထိန်းပြီး နိုင်ငံတော်နှင့်ပြည်သူအကျိုးကို ဦးထိပ်ထားကာ တိုင်းရင်းသားပြည်သူများ၏ လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်အောင်ဖော်ဆောင်ပေးရန် လိုအပ်သည်ကိုလည်း ပြောကြားထားပြီးဖြစ်ကြောင်း။
- သတင်းအချက်အလက်နည်းပညာတိုးတက်နေသည့် ယခုလိုအချိန်တွင် သတင်းမီဒီယာများ၏ သက်ရောက်မှုသည် အလွန်ထိရောက်မှုရှိသည့်အတွက် နိုင်ငံကြီးအချို့၏ မဟာဗျူဟာများတွင်နိုင်ငံငယ်များ၏မီဒီယာများကို နည်းလမ်းမျိုးစုံဖြင့် ချုပ်ကိုင်လွှမ်းမိုးနိုင်မည့် အစီအမံများပါဝင်နေသည့်အတွက် မိမိတို့အားလုံးဉာဏ်အမြော်အမြင်များ၊ အသိတရားများဖြင့် လုပ်ဆောင်ကြရမည့် အချိန်အခါပင်ဖြစ်ပါကြောင်း၊ ဒီမိုကရေစီလူ့အဖွဲ့အစည်းတစ်ရပ်တွင် လွတ်လပ်စွာထုတ်ဖော်ပြောဆိုနိုင်မှု၊ ကောင်းမွန်သည့် အုပ်ချုပ်မှုစနစ်နှင့် ဖွံ့ဖြိုးတိုးတက်မှုတို့သည် မရှိမဖြစ်ရှိနေရမည်ဖြစ်ပါကြောင်း၊ ထိုသို့ရှိရန်အတွက် သတင်းမီဒီယာများ၏ အခန်းကဏ္ဍသည် လွန်စွာအရေးကြီးသည်ဟု ယူဆမိပါကြောင်း။

- မီဒီယာများအနေဖြင့်လည်း ကျင့်ဝတ်သိက္ခာနှင့်အညီ ပြည်သူလူထုကို သတင်းအချက်အလက်များ မှန်မှန်ကန်ကန်ရရှိအောင် ဆောင်ရွက်ပေးကြခြင်းဖြင့် ပြည်သူ့အကျိုးပြုမီဒီယာများဖြစ်အောင် ရပ်တည်ဆောင်ရွက်ပေးကြရန် အသိပေးတိုက်တွန်းလိုပါကြောင်း။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၂၂)တွင် ပြောကြားသည့် အမှာစကား (၅-၅-၂၀၂၂)

- မိမိတို့နိုင်ငံအနေဖြင့် ဒီမိုကရေစီလမ်းကြောင်းပေါ်တွင် လျှောက်လှမ်းနိုင်ရေး ဆောင်ရွက်လျက်ရှိပြီး နိုင်ငံသားအားလုံးတွင် ဒီမိုကရေစီအခွင့်အရေးများရှိကြောင်း၊ နိုင်ငံ့ဝန်ထမ်းများသည်လည်း နိုင်ငံသားဖြစ်သည့်အတွက် ဒီမိုကရေစီအခွင့်အရေးရှိသော်လည်း နိုင်ငံတကာအတွေ့အကြုံများ၊ မိမိတို့နိုင်ငံ၏အတွေ့အကြုံများနှင့်ဖွဲ့စည်းပုံအခြေခံဥပဒေအရ နိုင်ငံ့ဝန်ထမ်းများအနေဖြင့် နိုင်ငံတော်၏ တာဝန်ကို ထမ်းဆောင်နေချိန်တွင် ပါတီနိုင်ငံရေးကင်းရှင်းရန်လိုအပ်ကြောင်း၊ နိုင်ငံ့ဝန်ထမ်းများအနေဖြင့် မိမိတို့တာဝန်အလျောက် တာဝန်ထမ်းဆောင်၍ ပြည်သူများအနေဖြင့်လည်း ပြည်သူတစ်ဦးအနေဖြင့် တိကျစွာလိုက်နာနေထိုင်မည်ဆိုပါက မိမိတို့နိုင်ငံ၏ ဒီမိုကရေစီအုပ်ချုပ်ရေးယန္တရားကောင်းမွန်လာမည်ဟု ယုံကြည်ကြောင်း၊ ဝန်ကြီးဌာနများအနေဖြင့် ပြည်သူလူထုမှ ဒီမိုကရေစီအခွင့်အရေးများကိုကျယ်ကျယ်ပြန့်ပြန့်သိရှိ၍လုပ်ငန်းများဆောင်ရွက်နိုင်ရေး ဦးဆောင်မှုပေးကြရန်လိုကြောင်း။
- မိမိတို့နိုင်ငံတွင်အလုပ်အကိုင်အခွင့်အလမ်းများစွာရှိသော်လည်း လုပ်ငန်းများအပြည့်အဝဆောင်ရွက်မှုမရှိသည်ကို တွေ့ရှိရကြောင်း၊ မိမိတို့နိုင်ငံတွင် အသားတင်စိုက်ဧက ၃၃ သန်းကျော်ရှိသော်လည်း သီးထပ်သီးနှံစိုက်ပျိုးခြင်းနည်းပါးပြီး တစ်ရာသီသာ စိုက်ပျိုးသည့် မြေဧကများပိုမိုများပြားကြောင်း၊ မြေသယံဇာတများကို သီးထပ်သီးနှံများစိုက်ပျိုးနိုင်မည်ဆိုပါက ထုတ်ကုန်နှစ်ဆတိုးတက်လာမည်ဖြစ်ကြောင်း၊ အဓိကသီးနှံဖြစ်သည့် စပါး၊ ပဲမျိုးစုံနှင့်ဆီထွက်သီးနှံများကို သီးထပ်အနေဖြင့် စိုက်ပျိုးနိုင်မည်ဆိုပါက ပြည်တွင်းဆီလိုအပ်မှုကို များစွာအထောက်အကူပြုနိုင်မည်ဖြစ်ပြီး ပြည်ပမှ ဆီတင်သွင်းမှုများကို လျှော့ချနိုင်မည်ဖြစ်ကြောင်း၊ စိုက်ပျိုးရေးအတွက် လိုအပ်သည့်ရေနှင့် သွင်းအားစုများရရှိအောင်လည်း ဆောင်ရွက်ပေးရမည်ဖြစ်ကြောင်း၊ စိုက်ပျိုးရေးကို အခြေခံသည့် အချို့ထုတ်ကုန်ပစ္စည်းများသည် တိရစ္ဆာန်အစားအစာများပြန်လည်ရရှိပြီး စိုက်ပျိုးရေးနှင့် မွေးမြူရေးလုပ်ငန်းများအပြန်အလှန်အကျိုးပြုနိုင်မည်ဖြစ်သည့်အပြင် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုများပြားလာမည်ဖြစ်ကြောင်း။
- လုပ်ငန်းတစ်ခုအောင်မြင်ရေးအတွက် လူမှုဆက်ဆံရေးသည် အရေးကြီးကြောင်း၊ တိုင်းပြည်နှင့် ပြည်သူကို ကိုယ်စားပြုသည့် အစိုးရတစ်ရပ်အဖြစ်ခံယူ၍ တိုင်းပြည်ဖွံ့ဖြိုးတိုးတက်ရေးကြိုးပမ်းဆောင်ရွက်ရန်လိုကြောင်း၊ အဆင့်ဆင့်သော အစိုးရဝန်ထမ်းများပြည်သူ့ဆက်ဆံရေးကောင်းမွန်ရန်အတွက် ကြပ်မတ်ဆောင်ရွက်ပေးရန်လိုကြောင်း၊ လုပ်ငန်းများအောင်မြင်မှုရရှိရေး မိမိလက်အောက်မှ လိုက်ပါပူးပေါင်းဆောင်ရွက်နိုင်ရန် ကောင်းမွန်သည့်ခေါင်းဆောင်မှုပေးနိုင်ရန်လိုသကဲ့သို့ တည်တည်ကြည်ကြည်ဖြင့်

ပြောဆိုလုပ်ကိုင်ဆောင်ရွက်ရန်လိုကြောင်း၊ အလားတူလုပ်ငန်းများဆောင်ရွက်ရာတွင် အခက်အခဲများ မဖြစ်ပေါ်စေရေးကိန်းဂဏန်းများ မှန်ကန်မှုရှိရန်လိုအပ်ကြောင်း၊ ပြည်သူများကို အသိပေးသင့်သည့် အချက်အလက်များကို မှန်မှန်ကန်ကန်ဖြင့် ထုတ်ပြန်ပေးရန်နှင့် အစိုးရအဖွဲ့သို့ တင်ပြရာတွင်လည်း ကိန်းဂဏန်းများမှန်ကန်မှုရှိရန်နှင့် အချက်အလက်များမှန်ကန်မှုရှိရန် အရေးကြီးကြောင်း၊ ကိန်းဂဏန်းနှင့် အချက်အလက်များမှန်ကန်မှုရှိမှသာ မိမိတို့အစိုးရ၏ လုပ်ငန်းအောင်မြင်မှုအတွက် များစွာအထောက်အကူပြုမည်ဖြစ်ကြောင်း။

## နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ အစည်းအဝေးအမှတ်စဉ် (၄/၂၀၂၂)တွင် ပြောကြားသည့် အမှာစကား (၁၂-၅-၂၀၂၂)

- တွေ့ဆုံဆွေးနွေးမှုများ ဆောင်ရွက်ရာတွင်လည်း နှစ်ဖက်ညှိနှိုင်းမှုများပြုလုပ်၍ ဆောင်ရွက်သွားရန်ဖြစ်ကြောင်း၊ ညှိနှိုင်းမှုများဆောင်ရွက်ရာတွင်လည်း ဒီမိုကရေစီ၏ အနှစ်သာရကို ပျက်ယွင်းမှုမရှိစေရန်နှင့် ရသင့်ရထိုက်သည့် အခွင့်အရေးများရရှိစေရေး နှစ်ဖက်မျှတမှုရှိအောင်ဆောင်ရွက်ရန်လိုကြောင်း၊ သို့မှသာ နိုင်ငံတော်၏ အဓိကလိုအပ်ချက်ဖြစ်သည့် လွတ်လပ်မှု၏အရသာ၊ ဒီမိုကရေစီ၏ အနှစ်သာရကို ခံစားနိုင်မည်ဖြစ်ကြောင်း။
- မိမိတို့အနေဖြင့် ပြည်သူများ၏ ဆန္ဒဖြစ်သည့် ပါတီစုံဒီမိုကရေစီ လမ်းကြောင်းပေါ်တွင် လျှောက်လှမ်းနိုင်ရေးကြိုးပမ်းဆောင်ရွက်ခဲ့ကြောင်း၊ တပ်မတော်သည် ပြည်သူများမှ ပေါက်ဖွားလာခြင်းဖြစ်သကဲ့သို့ နိုင်ငံတော်၏ အစိတ်အပိုင်းတစ်ခုလည်းဖြစ်ကြောင်း၊ ဒီမိုကရေစီစနစ်ဆိုသည်မှာ အများဆန္ဒနှင့်အညီ ရွေးချယ်တင်မြှောက်သည့် အစိုးရစနစ်ဖြစ်ပြီး ပြည်သူ့အုပ်ချုပ်ရေးစနစ်ဖြစ်ကြောင်း၊ တိုင်းရင်းသားနယ်မြေများအလိုက် လိုအပ်ချက်များ၊ တောင်းဆိုချက်များနှင့် အခွင့်အာဏာများ ခွဲဝေခံစားခြင်း၊ မျှဝေခံစားခြင်းများရရှိစေရန် ဆောင်ရွက်ရန်လိုကြောင်း၊ ထို့ကြောင့် ပါတီစုံဒီမိုကရေစီစနစ်၊ ဒီမိုကရေစီနှင့် ဖက်ဒရယ်စနစ်ကို အခြေခံသည့် ပြည်ထောင်စုစနစ်ကို သွားရမည်ဖြစ်ကြောင်း။
- နိုင်ငံအရေးမှာ ကိုယ့်ပြည်တွင်းအရေးမှာ ပြည်ပက ပါဝင်နေသမျှကာလပတ်လုံး တိုင်းပြည်တည်ငြိမ်အေးချမ်းဖို့ဆိုတာ တော်တော်ခက်ပါကြောင်း၊ မြန်မာနိုင်ငံရဲ့ အရေးကို မြန်မာနိုင်ငံသားတွေပဲ ဆုံးဖြတ်ဖို့ဖြစ်ကြောင်း၊ တခြားပြည်ပနိုင်ငံတွေကနေပြီးတော့ ဝင်ရောက်စွက်ဖက်ပြီး ဆုံးဖြတ်ရအောင် ဆောင်ရွက်ပေးလို့ ဘယ်လိုမှမဖြစ်နိုင်ကြောင်း။
- ပြည်ထောင်စုအတွင်းမှာ နေထိုင်ကြသည့် ပြည်ထောင်စုတိုင်းရင်းသားအားလုံး ပြည်ထောင်စုစိတ်ဓာတ်နှင့် လုပ်မယ်ဆိုရင် တိုင်းပြည်အတွက်ရည်မှန်းချက်ပန်းတိုင်ကို ဘယ်လိုပဲဖြစ်ဖြစ် အောင်မြင်မယ်ဆိုသည့် အမြင်ရှိတယ်ဆိုလျှင် ပြည်ထောင်စုစိတ်ဓာတ်နဲ့ လုပ်ကြမယ်ဆိုလျှင် ဒီငြိမ်းချမ်းရေးဆွေးနွေးပွဲသည် မအောင်မြင်စရာမရှိကြောင်း။
- ငြိမ်းချမ်းရေးသည်အရေးကြီးသည့်အတွက် ငြိမ်းချမ်းရေးကို ဦးစားပေးဆောင်ရွက်လျက်ရှိကြောင်း၊ မိမိတို့အစိုးရလက်ထက်တွင် ငြိမ်းချမ်းရေးအုတ်မြစ်တစ်ခုချမှတ်နိုင်ရန် ဆောင်ရွက်လျက်ရှိကြောင်း၊ ငြိမ်းချမ်းရေးအတွက် ဆွေးနွေးရာတွင် ယုံကြည်မှု၊ ရိုးသားမှု

နှင့် ပြည်ထောင်စုအကျိုးကို ရေးရှုဆောင်ရွက်ရန်လိုအပ်ကြောင်း၊ ဒီမိုကရေစီနှင့် ဖက်ဒရယ်စနစ်ကို စဉ်းစားဆောင်ရွက်ရာတွင် တစ်နိုင်ငံလုံးအတိုင်းအတာဖြင့် ချိန်ထိုး စဉ်းစားဆောင်ရွက်ကြရမည်ဖြစ်ကြောင်း။

- ဒီမိုကရေစီစနစ်ဆိုသည်မှာ ပြည်သူကရွေးချယ်သည့် အုပ်ချုပ်ရေးစနစ်ဖြစ်ပြီး ဖက်ဒရယ်စနစ်ဆိုသည်မှာ လုပ်ပိုင်ခွင့်အာဏာနှင့် ရပိုင်ခွင့်များကို မျှဝေခွဲဝေခံစားစေခြင်းဖြစ်ကြောင်း၊ ဖက်ဒရယ်ဆိုသည်မှာ မတူကွဲပြားနေသည့် တိုင်းဒေသကြီးများ၊ ပြည်နယ်များ၊ လူမျိုးများ၊ လူမျိုးစုများကို စုစည်းလုပ်ကိုင်ရာမှ လုပ်ကိုင်နိုင်ခွင့်များကို ခွဲဝေကျင့်သုံးသည့် အယူအဆသဘောတရားဖြစ်ပြီး ပေါင်းစည်းနေထိုင်ခြင်း၊ မျှဝေခံစားခြင်းဖြစ်ကြောင်း။
- မိမိတို့နိုင်ငံ၏ အဓိကလိုအပ်ချက်သည် တိုင်းပြည်သာယာဝပြောရေး၊ စားရေရိက္ခာပေါများရေးပင်ဖြစ်ကြောင်း၊ သာယာဝပြောရေးဆိုသည်မှာ ငြိမ်းချမ်းရေးကို အခြေခံ၍ အလုပ် အကိုင်အခွင့်အလမ်းများအားလုံးကို ဒီမိုကရေစီနည်းလမ်းနှင့်အညီ ဆောင်ရွက်နိုင်မည်ဆိုပါက တိုင်းပြည်သာယာဝပြောမည်ဖြစ်ကြောင်း။

## နေပြည်တော်ကောင်စီနယ်မြေ ဖွံ့ဖြိုးတိုးတက်ရေးအစည်းအဝေးတွင် ပြောကြားသည့် အမှာစကား (၁၉-၅-၂၀၂၂)

- စိုက်ပျိုးရေလုံလောက်စွာရရှိရေးအတွက် ဆောင်ရွက်ရာတွင် သိုလှောင်ထားသည့်ရေများကိုလည်း စနစ်တကျဖြင့် အသုံးချရန်လိုကြောင်း၊ ရေကို အဟောသိကံ အသုံးမပြုဘဲ ရှိသည့်ရေကို အကျိုးရှိရှိအသုံးချရန်နှင့် ရေရရှိအောင် ဖန်တီးဆောင်ရွက်ရန်လိုကြောင်း၊ ရေရရှိရေးဆောင်ရွက်ရာတွင် ရေဝေရေလဲသစ်တောဧရိယာများကို စနစ်တကျဖြင့် ထိန်းသိမ်းထားရှိ၍ ရာသီဥတုကောင်းမွန်အောင် ဆောင်ရွက်ခြင်းနှင့် ရေဖလှယ်ခြင်း လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရန်လိုကြောင်း၊ ထိုသို့ဆောင်ရွက်ရန် အတွက် စီမံခန့်ခွဲမှုများ ကောင်းမွန်ရန်လိုကြောင်း၊ စီမံခန့်ခွဲမှုများကောင်းမွန်အောင် ဆောင်ရွက်နိုင်ခြင်းဖြင့် နေပြည်တော်ကောင်စီနယ်မြေအတွင်း စိုက်ပျိုးမွေးမြူရေး လုပ်ငန်းများမှ ထွက်ကုန်ကိုအခြေခံသည့် ကုန်ထုတ်လုပ်မှုကို အောင်မြင်အောင် ဆောင်ရွက်နိုင်မည်ဖြစ်ကြောင်း။
- နေပြည်တော်ကောင်စီနယ်မြေအတွင်း လမ်းပန်းဆက်သွယ်မှုကောင်းမွန်သကဲ့သို့ လျှပ်စစ်ဓာတ်အားလည်း လုံလောက်စွာရရှိကြောင်း၊ ထို့ကြောင့် နေပြည်တော်ကို Green City၊ Clean City၊ Smart City ဖြစ်အောင်ဆောင်ရွက်ပြီး ကုန်ထုတ်လုပ်မှု လုပ်ငန်းများကိုလည်း စံပြအဖြစ်ဆောင်ရွက်နိုင်မည်ဆိုပါက မိမိတို့နိုင်ငံအတွက် အခွင့်အလမ်းများ များစွာတိုးတက်လာမည်ဖြစ်ကြောင်း။

## ရန်ကုန်တိုင်းစစ်ဌာနချုပ် စိုက်ပျိုးမွေးမြူရေးစခန်းသို့ သွားရောက်ကြည့်ရှုစစ်ဆေးစဉ် ပြောကြားသည့် အမှာစကား (၂၇-၅-၂၀၂၂)

- တိုင်းဒေသကြီးအတွင်း နိုင်ငံ့ဝန်ထမ်းများနှင့် ပြည်သူလူထုသို့ စိုက်ပျိုးမွေးမြူရေး ထုတ်ကုန်များကို ဈေးနှုန်းသက်သာစွာဖြင့် ဝယ်ယူစားသုံးနိုင်ရေး၊ တိုင်းစစ်ဌာနချုပ်နှင့်

တိုင်းဒေသကြီးအစိုးရအဖွဲ့တို့ ပေါင်းစပ်ညှိနှိုင်းဆောင်ရွက်ကြရန်လိုကြောင်း၊ ပုဂ္ဂလိက စိုက်ပျိုးမွေးမြူရေးလုပ်ငန်းများဖွံ့ဖြိုးတိုးတက်ရေးအတွက်လည်းအားပေးဆောင်ရွက်ရန် လိုကြောင်း၊ စိုက်ပျိုးရေးကိုအခြေခံသည့် မွေးမြူရေးလုပ်ငန်းများကို ဆောင်ရွက်ပြီး တစ်ဖက်နှင့်တစ်ဖက် အပြန်အလှန်အကျိုးပြုနိုင်ရမည်ဖြစ်ကြောင်း။

## ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄/၂၀၂၂)တွင် ပြောကြားသည့် အမှာစကား (၃၁-၅-၂၀၂၂)

- ကျောင်းသားကျောင်းသူများ ပညာသင်ကြားနိုင်ရေးအတွက် ၂၀၂၁ ခုနှစ်တွင် ကျောင်းများ ပြန်လည်ဖွင့်လှစ်နိုင်ရေး ကြိုးပမ်းဆောင်ရွက်ခဲ့ပြီး ကိုဗစ်-၁၉ ရောဂါကူးစက်မှုများကြောင့် ပြန်လည်ပိတ်ထားခဲ့ရမှုများလည်း ဖြစ်ပေါ်ခဲ့ကြောင်း၊ အဆိုပါအချိန်တွင် ကျန်းမာရေးဝန်ထမ်းများ၏ CDM ပြုလုပ်မှုများ၊ အကြမ်းဖက် PDF များက အကြမ်းဖက် တိုက်ခိုက်မှုများကြောင့် အခက်အခဲများဖြစ်ပေါ်ခဲ့သော်လည်း ၂၀၂၂ ခုနှစ်၊ မတ်လ နောက်ဆုံးပတ်အတွင်း အတန်းတင်စာမေးပွဲများကို ကျင်းပပေးနိုင်ခဲ့ကြောင်း၊
- မိမိတို့အစိုးရအနေဖြင့် ရရှိသည့်ငွေအင်အားဖြင့် နိုင်ငံဖွံ့ဖြိုးတိုးတက်ရေးအတွက် ဆောင်ရွက်လျက်ရှိကြောင်း၊ နိုင်ငံတော်၏ငွေများကို အတတ်နိုင်ဆုံးချွေတာသုံးစွဲရန် နှင့် မဖြစ်မနေ သုံးစွဲရမည်ဆိုပါက စည်းမျဉ်း၊ စည်းကမ်းဥပဒေနှင့်အညီ စနစ်တကျဖြင့် စိစစ်သုံးစွဲကြရန်လိုကြောင်း၊ နိုင်ငံ၏ ကုန်သွယ်မှုလိုအပ်ချက်အရ အချို့သော ပြည်ပ သွင်းကုန်တင်သွင်းခြင်းများကို ကန့်သတ်ခဲ့ရကြောင်း၊ စက်သုံးဆီ၊ စားဆီတို့နှင့် ပတ်သက်၍ ကမ္ဘာ့ဈေးကွက်အခြေအနေအရ ဈေးနှုန်းမြင့်တက်ခြင်းများ ရှိခဲ့သော်လည်း လုံးဝပြတ်လပ်ခြင်းများမရှိအောင် စီမံခဲ့ကြောင်း။
- အားကစားသမားများအနေဖြင့်လည်း စည်းကမ်းစနစ်တကျနေထိုင်ပြီး စားသောက် နေထိုင်မှုစနစ်တကျရှိရန်လိုကြောင်း၊ အားကစားသမားများအနေဖြင့် ကြံ့ခိုင်မှုပိုင်းဆိုင်ရာ များနှင့် ကိုယ်ခန္ဓာဖွံ့ဖြိုးမှုများ အားနည်းသည်ကို တွေ့ရှိရ၊ ကိုယ်ခန္ဓာဖွံ့ဖြိုးမှုအတွက် စားသောက်မှုအပိုင်းကို ပြင်ဆင်ရန် လိုအပ်သည်များကို လုပ်ဆောင်ရမည်ဖြစ်ကြောင်း၊ သက်ဆိုင်ရာ ဝန်ကြီးဌာနများနှင့် တိုင်းဒေသကြီး/ပြည်နယ်များအလိုက် အားကစားပွဲများ ဆောင်ရွက်ရာတွင်လည်း တိုင်းပြည်အတွက် အကျိုးရှိစေရေး စနစ်တကျဖြင့် စီစဉ်ဆောင် ရွက်ရန်လိုကြောင်း။

## အလုပ်သမားနေ့အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာ (၁-၅-၂၀၂၂)

- နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ၏ ဦးတည်ချက်(၉)ရပ်အနက် စီးပွားရေးဦးတည် ချက်(၃)ရပ်တွင် တစ်ရပ်အပါအဝင်ဖြစ်သည့် ပြည်တွင်းစီးပွားရေးလုပ်ငန်းများကို အားပေးကူညီပြီး နိုင်ငံတော်၏ ထုတ်ကုန်များစွာ ထုတ်လုပ်နိုင်သည့် အလုပ်အကိုင် အခွင့်အလမ်းများ ဆောင်ရွက်ဖော်ဆောင်ရေးဟူသည့် ဦးတည်ချက်အရ ကုန်ထုတ်လုပ်မှု တိုးတက်၍ နိုင်ငံတော်၏ စီးပွားရေးကို ဖွံ့ဖြိုးတိုးတက်စေရန်သာမက အလုပ်သမား များ အလုပ်အကိုင်ရရှိရေး၊ လုပ်ငန်းခွင်အေးချမ်းသာယာရေးနှင့် အစိုးရ၊ အလုပ်ရှင်၊ အလုပ်သမား သုံးပွင့်ဆိုင်ပူးပေါင်းဆောင်ရွက်မှုဖြင့် နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်စေရေး ကို အလေးထားဖော်ဆောင်ပေးလျက်ရှိကြောင်း။

- အသေးစားနှင့်အလတ်စား စက်မှုလုပ်ငန်းများဖွံ့ဖြိုးတိုးတက်လာစေရန်ပြည်တွင်းပြည်ပ ရင်းနှီးမြှုပ်နှံမှုများ ပိုမိုဝင်ရောက်လာစေပြီး နည်းပညာ၊ ဈေးကွက်နှင့် အလုပ်အကိုင် အခွင့်အလမ်းများရရှိနိုင်ရန်၊ ရင်းနှီးမြှုပ်နှံမှု အထောက်အပံ့များ ရရှိနိုင်ရန်တို့အတွက် နိုင်ငံတော်အစိုးရက ပံ့ပိုးကူညီဆောင်ရွက်ပေးလျက်ရှိကြောင်း၊ စက်မှုလုပ်ငန်းနှင့် ဝန်ဆောင်မှု လုပ်ငန်းများပိုမိုကျယ်ပြန့်လာပြီး အလုပ်အကိုင်အခွင့်အလမ်းများ ဆောင်ရွက် ပေးလျက်ရှိကြောင်း။
- မြန်မာရွှေ့ပြောင်းအလုပ်သမားများ ပြည်ပနိုင်ငံများသို့ လုံခြုံစိတ်ချစွာ ရွှေ့ပြောင်းသွား လာလုပ်ကိုင်နိုင်ရန်နှင့် ကာကွယ်စောင့်ရှောက်မှုများ ထိရောက်စွာ ပေးနိုင်ရန် ထိုင်းနိုင်ငံ၊ ကိုရီးယားသမ္မတနိုင်ငံ၊ ဂျပန်နိုင်ငံတို့နှင့် နည်းပညာအလုပ်သင် သင်တန်းသားဆိုင်ရာ ပူးပေါင်းဆောင်ရွက်ရေး စာချွန်လွှာနှင့် ကျွမ်းကျင်လုပ်သားဆိုင်ရာ ပူးပေါင်းဆောင်ရွက်မှု စာချွန်လွှာများ လက်မှတ်ရေးထိုးဆောင်ရွက်လျက်ရှိကြောင်း။
- မြန်မာနိုင်ငံသည် ဖွံ့ဖြိုးဆဲနိုင်ငံတစ်နိုင်ငံဖြစ်ခြင်းကြောင့် မိသားစုစားဝတ်နေရေးကို အထောက်အကူပြုမည့်လုပ်ငန်းများတွင် လုပ်ကိုင်လျက်ရှိသော အသက်(၁၈)နှစ်အောက် ကလေးများလည်း အလုပ်လုပ်နိုင်ရန် ရည်ရွယ်ပြီး အသက်(၁၈)နှစ်အောက် ကလေးများ အတွက် တားမြစ်ထားသည့် ဘေးအန္တရာယ်ဖြစ်စေသော လုပ်ငန်းအမျိုးအစားများနှင့် လုပ်ငန်းခွင်များစာရင်းအတည်ပြုပြဋ္ဌာန်းနိုင်ရေးဆောင်ရွက်လျက်ရှိကြောင်း။

## (၇)ကြိမ်မြောက် အရှေ့ဖျားစီးပွားရေးဖိုရမ် (The 7th Eastern Economic Forum – 2022)၏ မျက်နှာစုံညီ အစည်းအဝေး Plenary Session ၌ တက်ရောက်ပါဝင် ဆွေးနွေးစဉ် ပြောကြားသည့်စကား (၇-၉-၂၀၂၂)

- အာရှဒေသတွင်းနိုင်ငံများအကြား ကောင်းမွန်ခိုင်မာသော ဆက်ဆံရေးအား တည်ထောင် နိုင်ခြင်းဖြင့် မြောက်ပိုင်းမှ တောင်ပိုင်းသို့ဆက်သွယ်သော နိုင်ငံတကာသယ်ယူပို့ဆောင် ရေးလမ်းကြောင်းတစ်ခု (International North South Transport Corridor–INSTC) ကို ဖော်ဆောင်နိုင်မည်ဖြစ်ရာ ထိုမှတစ်ဆင့် ပိုမိုကောင်းမွန်သည့် ကုန်သွယ်မှု၊ ရင်းနှီး မြှုပ်နှံမှုတို့ ထွန်းကားလာမည်ဖြစ်ပြီး အာရှ-ပစိဖိတ်ဒေသ၏ ပထဝီနိုင်ငံရေးအရ တည်ငြိမ်မှုရှိရေးကိုလည်း ပိုမိုခိုင်မာအားကောင်းလာစေမည်ဖြစ်ကြောင်း။
- မြန်မာနိုင်ငံသည် ခေတ်အဆက်ဆက်ကပင် ပြည်တွင်းစားနပ်ရိက္ခာဖူလုံသည့်အပြင် ပိုလျှံသော စိုက်ပျိုးရေး၊ မွေးမြူရေးထွက်ကုန်များအား အိမ်နီးချင်းနိုင်ငံများ၊ ကမ္ဘာ့နိုင်ငံ များသို့ တင်ပို့ရောင်းချလျက်ရှိပါကြောင်း၊ ထို့ကြောင့် မြန်မာနိုင်ငံသည် အခြေခံစားနပ် ရိက္ခာထုတ်လုပ်သည့် ပင်မနိုင်ငံတစ်ခုအဖြစ် ရပ်တည်နိုင်ခဲ့သည့် အစဉ်အလာကောင်းများ ကို ပိုင်ဆိုင်ထားသည့် နိုင်ငံတစ်နိုင်ငံဖြစ်ကြောင်း အခွင့်ကြုံခိုက် ပြောကြားလိုပါကြောင်း။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အသေးစား၊ အငယ်စားနှင့် အလတ်စား စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေးဗဟိုကော်မတီ (၁/၂၀၂၂)အစည်းအဝေးတွင် ပြောကြားသည့်အမှာစကား (၂၃-၉-၂၀၂၂)

- MSMEလုပ်ငန်းများကို အားပေးဆောင်ရွက်ခြင်းသည် ပုဂ္ဂလိကကို ဗဟိုပြုသည့် စီးပွားရေးလုပ်ငန်းများကို အားပေးဆောင်ရွက်ခြင်းပင်ဖြစ်သည်ကို တွေ့ရမည်

ဖြစ်ကြောင်း၊ မိမိတို့နိုင်ငံသည် ဈေးကွက်စီးပွားရေးစနစ်၊ ပါတီစုံဒီမိုကရေစီစနစ်ကို ကျင့်သုံးသည့်နိုင်ငံဖြစ်ကြောင်း၊ ဈေးကွက်စီးပွားရေးစနစ်တွင် ပုဂ္ဂလိကအခန်းကဏ္ဍ၊ လူတစ်ဦးချင်း၏ အခန်းကဏ္ဍသည် တိုင်းပြည်တစ်ခု၏ အဓိကမောင်းနှင်အား ဖြစ်ကြောင်း။

- ဝန်ထုပ်ဝန်ပိုးဖြစ်စေမည့် ရင်းနှီးမြှုပ်နှံမှုကြီးမားသည့်လုပ်ငန်းများနှင့် လတ်တလော ပုဂ္ဂလိကရင်းနှီးမှုလုပ်ဆောင်ရန်အတွက် အင်အားနည်းနေသေးသည့် လုပ်ငန်းများကို မဆုံးရှုံးစေရန် အစိုးရအနေဖြင့် ပါဝင်ဆောင်ရွက်ပေးရမည်ဖြစ်ကြောင်း၊ မည်သည့် နိုင်ငံတွင်မဆို စီးပွားရေးနှင့်ပတ်သက်၍ အစိုးရမှ အချို့သော အခန်းကဏ္ဍများတွင် ပါဝင်ဆောင်ရွက်ရမှုများရှိကြောင်း၊ မိမိတို့နိုင်ငံတွင်လည်း နိုင်ငံ၏အခြေအနေအရ လိုအပ်သည့်အခန်းကဏ္ဍများတွင် အစိုးရအနေဖြင့် ပါဝင်ဆောင်ရွက်နေရဦးမည်ဖြစ် ကြောင်း။
- စီးပွားရေးနှင့်ပတ်သက်သည့်မူဝါဒမှာ ပြည်တွင်းစီးပွားရေးကို အားပေးခြင်းနှင့် ကုန် ထုတ်လုပ်မှုကိုအားပေးခြင်းပင်ဖြစ်ကြောင်း၊ တိုင်းပြည်၏အားသည် ပြည်တွင်းမှာသာ ရှိကြောင်း၊ပြည်ပအားကိုအားကိုးခြင်းထက်ပြည်တွင်းအားဖြင့်ဆောင်ရွက်ခြင်းသည်သာ အကောင်းဆုံး ဖြစ်ကြောင်း၊ ပြည်တွင်းအားဖြင့်ဆောင်ရွက်ရာတွင်လည်း အကျိုးရှိ ထိရောက်သည့်လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ တိုင်းပြည်၏စီးပွားရေးကို ပြည်တွင်းစီးပွားရေးအားဖြင့် အကောင်အထည်ဖော် ဆောင်ရွက်သွားရမည်ဖြစ်ကြောင်း။
- ပြည်နယ်နှင့်တိုင်းဒေသကြီးအားလုံးတွင်စက်မှုဇုန်များအကောင်အထည်ဖော်ဆောင်ရွက် ရမည်ဖြစ်ကြောင်း၊ အချို့သောဒေသများတွင် စက်မှုဇုန်များအကောင်အထည်ဖော် ဆောင်ရွက်နိုင်မှုမရှိသေးကြောင်း၊မိမိတို့ဒေသနှင့်ကိုက်ညီသည့် ကုန်ထုတ်လုပ်မှုလုပ်ငန်း များ ဆောင်ရွက်နိုင်ရေး၊ စက်မှုဇုန်များ အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ် ကြောင်း၊ မိမိတို့နိုင်ငံတွင် ခရိုင်များတိုးချဲ့ဖွဲ့စည်းထားရာ အဓိကကျသည့် ခရိုင်များတွင် စက်မှုဇုန်များ၊ စက်မှုရပ်ကွက်များဖော်ဆောင်ပေးရန်လိုကြောင်း၊ ထိုသို့ဆောင်ရွက်ပေး မည်ဆိုပါက အဆိုပါဒေသကို အခြေခံသည့် ထွက်ကုန်ပစ္စည်းများ ထုတ်လုပ်မှုသည် များစွာဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပြီး ရောင်းကုန်ပစ္စည်းများ တိုးတက်များပြားလာမည် ဖြစ်ကြောင်း၊ ဒေသများအလိုက် MSME ကို အခြေခံသည့် စက်မှုလုပ်ငန်းများကို အကောင် အထည်ဖော်ဆောင်ရွက်ပေးရမည်ဖြစ်ကြောင်း၊ ထိုသို့ဆောင်ရွက်နိုင်ပါက ဒေသတွင်း အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်များလာပြီး မြို့ပြများနှင့် ပြည်ပနိုင်ငံများသို့ သွားရောက်အလုပ်လုပ်ကိုင်မှုများ လျော့ပါးသွားမည်ဖြစ်ကြောင်း။

**နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ အစည်းအဝေး(၈/၂၀၂၂)တွင် ပြောကြားသည့် အမှာစကား (၂၇-၉-၂၀၂၂)**

- အခြေခံဥပဒေပြင်ဆင်ရေးနှင့်ပတ်သက်၍ ပါတီများဘက်မှ အဆိုပြုချက်များလည်း ရှိကြောင်း၊ အလားတူတပ်မတော်အနေဖြင့် တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့များနှင့် ငြိမ်းချမ်းရေးရရှိရေးတွေ့ဆုံဆွေးနွေးနေမှုများရှိကြောင်း၊ ထိုသို့ဆောင်ရွက်နေခြင်းမှာ

နိုင်ငံရေးအရ တည်ငြိမ်အေးချမ်းမှုရရှိရန် ကြိုးပမ်းဆောင်ရွက်နေခြင်းဖြစ်ပြီး နောင်လာမည့် လွှတ်တော်သက်တမ်းတွင် နိုင်ငံရေးပါတီများနှင့် တွေ့ဆုံဆွေးနွေးခဲ့သည့် သဘောတူညီချက်များနှင့် တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့များနှင့် တွေ့ဆုံဆွေးနွေးခဲ့သည့် သဘောတူညီချက်များကို ပေါင်းစပ်၍ လွှတ်တော်တွင် ဆွေးနွေးဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ထိုသို့ဆောင်ရွက်နိုင်မည်ဆိုပါက ငြိမ်းချမ်းရေးလုပ်ငန်းစဉ်အတွက် ပိုမိုလျင်မြန်စေမည်ဖြစ်ကြောင်း။

- ငြိမ်းချမ်းရေးနှင့်ပတ်သက်၍ ပထမအဆင့်တွေ့ဆုံဆွေးနွေးခဲ့ပြီး ဒုတိယအဆင့်တွေ့ဆုံဆွေးနွေးမှုများကို ပြုလုပ်လျက်ရှိကြောင်း၊ ဖွဲ့စည်းပုံအခြေခံဥပဒေ(၂၀၀၈ ခုနှစ်) နှင့် တစ်နိုင်ငံလုံးပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေးသဘောတူစာချုပ် (NCA)ကို မျက်ကွယ်ပြု၍ မရကြောင်း၊ ပြည်ပ ပယောဂများကြောင့် တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့အစည်းများအနေဖြင့် ဝိဝါဒကွဲပြားမှုများရှိကြောင်း၊ လက်နက်ကိုင်တိုင်းရင်းသားအဖွဲ့များ၏ တောင်းဆိုချက်များတွင် ဖွဲ့စည်းပုံအခြေခံဥပဒေပြင်ဆင်ရေးဆိုင်ရာ ကိစ္စရပ်များ ပါဝင်ကြောင်း၊ အဆိုပါကိစ္စရပ်နှင့်ပတ်သက်၍ ဆောင်ရွက်၍ရသည်များရှိကြောင်း။
- နှစ်ဖက်ဖြစ်ချင်သည်နှင့် ဖြစ်သင့်သည်များကို ညှိနှိုင်း၍သဘောတူညီချက်ရရှိမည်ဆိုပါက ပြင်ဆင်ရေးလုပ်ငန်းများနှင့်ပတ်သက်၍ ဥပဒေနှင့်အညီ ဆောင်ရွက်၍ရကြောင်း၊ ဖွဲ့စည်းပုံအခြေခံဥပဒေနှင့်ပတ်သက်၍ ပြင်ဆင်လိုသည်များကို လွှတ်တော်၌ မဲခွဲဆုံးဖြတ်၍ ဆောင်ရွက်ခြင်းသည် ဒီမိုကရေစီနိုင်ငံတစ်ခုအနေဖြင့် ဖွဲ့စည်းပုံအခြေခံဥပဒေအပေါ်တွင် လေးစားစွာဖြင့် ဆောင်ရွက်သည့်သိက္ခာကို ဖော်ဆောင်နိုင်မည်ဖြစ်ကြောင်း၊ လွှတ်တော်လမ်းကြောင်းမှသာ အခြေခံဥပဒေပြင်ဆင်ရေးလုပ်ငန်းများကို ဆောင်ရွက်နိုင်မည်ဖြစ်ပြီး အခြားလမ်းကြောင်းများမှ ဆောင်ရွက်၍မရကြောင်း၊ အားလုံးမှ တိုင်းရင်းသားစည်းလုံးညီညွတ်မှုကို တညီတညွတ်တည်းရှိခဲ့သည်ကို ပြသခဲ့သည့် ပင်လုံစိတ်ဓာတ်ကို အခြေခံဆောင်ရွက်ရမည်ဖြစ်ကြောင်း။
- မိမိတို့အနေဖြင့် လွတ်လပ်ပြီး တရားမျှတသည့် ရွေးကောက်ပွဲတစ်ခုကျင်းပနိုင်ရေး ဆောင်ရွက်လျက်ရှိကြောင်း၊ တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့များနှင့် ကြိုတင်သဘောတူညီချက်များရရှိ၍ဆောင်ရွက်လျက်ရှိပြီးဖြစ်နိုင်သည်များကိုဆွေးနွေးလျက်ရှိကြောင်း။

## ၂၀၂၂ ခုနှစ်၊ ကမ္ဘာ့ခရီးသွားလုပ်ငန်းနေ့ အထိမ်းအမှတ်အခမ်းအနားတွင် ပြောကြားသည့် အမှာစကား (၂၇-၉-၂၀၂၂)

- ခရီးသွားလုပ်ငန်း၏ သဘောသဘာဝအရ လုပ်ငန်းနယ်ပယ်ပေါင်းစုံတွင် အကျိုးဖြစ်ထွန်းစေပါကြောင်း၊ မြို့ပြနှင့်ကျေးလက်ဒေသများတွင်ရှိသည့် အမျိုးသမီးများ၊ လူငယ်များနှင့် ကျေးလက်နေပြည်သူများကို အလုပ်အကိုင်အခွင့်အလမ်းများရရှိစေနိုင်သည့်အပြင် မိမိတို့ တိုင်းရင်းသားလူမျိုးများ၏ ရိုးရာဓလေ့များ၊ ယဉ်ကျေးမှုအမွေအနှစ်များ၊ သဘာဝအရင်းအမြစ်များနှင့် အလှအပများကို ဖွင့်လှစ်ပြသနိုင်သည့် အခွင့်အလမ်းများကိုလည်း ရရှိစေမည်ဖြစ်ပါကြောင်း၊ ထို့ကြောင့်မြန်မာနိုင်ငံ၏ ခရီးသွားလုပ်ငန်းကဏ္ဍကို ပိုမိုကောင်းမွန်စေရေး စီမံခန့်ခွဲပေးနိုင်ရန်အတွက် တာဝန်သိပြီး ရေရှည်ဖွံ့ဖြိုးတိုးတက်ရေးကို ဦးတည်ဆောင်ရွက်ပေးနိုင်ရန်အတွက် အစိုးရနှင့် ပုဂ္ဂလိကကဏ္ဍမှ တာဝန်ရှိသူများ

အတူတကွပူးပေါင်းလုပ်ဆောင်ကြရမည်ဖြစ်ပါကြောင်း။

- အားလုံးသိရှိကြသည့်အတိုင်း မြန်မာနိုင်ငံအနေဖြင့် ခရီးသွားလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန်အတွက် အရင်းအမြစ်များစွာ ပိုင်ဆိုင်ထားသည့်နိုင်ငံဖြစ်ပါကြောင်း၊ တောင်ပေါ်၊ မြေပြန့်၊ ကမ်းရိုးတန်း၊ မြစ်ဝှမ်း၊ ပင်လယ်ကမ်းခြေများစသည့် မတူကွဲပြားထူးခြားလှပသည့် သဘာဝရှုခင်းများ၊ သမိုင်းဝင်ရှေးဟောင်းယဉ်ကျေးမှု အမွေအနှစ်များ၊ အရောင်အသွေးစုံလင်သည့် တိုင်းရင်းသားလူမျိုးများ၏ ရိုးရာဓလေ့များနှင့် လူနေမှုဘဝပုံစံများသည် ကမ္ဘာလှည့်ခရီးသည်များကိုဆွဲဆောင်နိုင်သည့် အရာများဖြစ်ကြပါကြောင်း။

**မန္တလေးစက်မှုဇုန်အတွင်းရှိ အသေးစား၊ အငယ်စားနှင့် အလတ်စားစီးပွားရေး MSME လုပ်ငန်းရှင်များအား ရတနာပုံခန်းမ၌ တွေ့ဆုံ၍ MSME လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ဆွေးနွေးစဉ်ပြောကြားသည့် အမှာစကား (၂၉-၉-၂၀၂၂)**

- တိုင်းပြည်သာယာဝပြောရေးနှင့် စားရေရိက္ခာပေါများရေးကို အမျိုးသားရည်မှန်းချက်အဖြစ် ဆောင်ရွက်ရမည်ဖြစ်ပြီး လုပ်ကိုင်ဆောင်ရွက်နေသူများအားလုံး အေးချမ်းလုံခြုံစွာဖြင့် လုပ်ကိုင်နေထိုင်ဆောင်ရွက်နေခြင်းသည် တိုင်းပြည်သာယာဝပြောရေးဖြစ်ကြောင်း။
- တိုင်းပြည်သာယာဝပြောရေးနှင့် စားရေရိက္ခာပေါများရေးအတွက် နိုင်ငံအတွင်း နေထိုင်သူများက ဆောင်ရွက်ရခြင်းဖြစ်ပြီး ပြည်တွင်းအလုပ်အကိုင်အခွင့်အလမ်းပေါများရေးနှင့် ပြည်တွင်းစီးပွားရေးကောင်းမွန်စေရေး ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ ကုန်ကြမ်းများပေါများရေး၊ သွင်းအားစုများလုံလောက်စွာရရှိရေး၊ အရင်းအနှီးများရရှိရေးနှင့် လူသားအရင်းအမြစ်များလုံလောက်စွာ ရရှိရန်လိုကြောင်း။

**(၁၁)ကြိမ်မြောက် အာဆီယံမသန်စွမ်းသူများ အားကစားပြိုင်ပွဲတွင် ဆုရရှိခဲ့သောတပ်မတော်မှ အားကစားသမားများနှင့် ဆုရရှိအောင် စွမ်းဆောင်ပေးနိုင်ခဲ့သည့်နည်းပြများ၊ နိုင်ငံတကာတပ်မတော်အားကစားပြိုင်ပွဲ (International Army Games-2022)နှင့် နိုင်ငံတကာဗိုလ်လောင်းများ အားကစားပြိုင်ပွဲ (3rd World Cated Games- 2022) တို့တွင် ဆုရရှိခဲ့ကြသူများအား ဂုဏ်ပြုဆုများ ပေးအပ်ချီးမြှင့်ခြင်းအခမ်းအနားတွင် ပြောကြားသည့် အမှာစကား (၂၉-၉-၂၀၂၂)**

- တပ်မတော်၏အဓိကတာဝန်သည် နိုင်ငံတော်ကာကွယ်ရေးတာဝန်ပင်ဖြစ်ကြောင်း၊ ကာကွယ်ရေးဆိုရာတွင် နိုင်ငံတော်၏ လွတ်လပ်ရေးနှင့် အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲရေး၊ ပြည်တွင်းပြည်ပရန်စွယ်မှန်သမျှကို ကာကွယ်စောင့်ရှောက်ရေးတို့အပြင် နိုင်ငံတော်နှင့် တပ်မတော်၏ဂုဏ်ကိုလည်း ကာကွယ်စောင့်ရှောက်ရမည်ဖြစ်ကြောင်း၊ ထို့ကြောင့် မိမိတို့တပ်မတော်သားများအနေဖြင့် အားကစားပြိုင်ပွဲများတွင် ဝင်ရောက်ယှဉ်ပြိုင်ပြီး အောင်မြင်မှုကို ဆွတ်ခူးနိုင်ခဲ့ခြင်းသည် နိုင်ငံတော်ကို ကာကွယ်စောင့်ရှောက်နေခြင်းပင်ဖြစ်ကြောင်း။
- အားကစားဆိုသည်မှာ နိုင်ငံတစ်နိုင်ငံ လူမျိုးတစ်မျိုး၏ ကျန်းမာကြံ့ခိုင်မှု၊ ဖွဲ့လုံ့လ ဝီရိယကြီးမားမှုနှင့် စည်းလုံးညီညွတ်မှုကို ပေါ်လွင်စေနိုင်ကြောင်း၊ အားကစားပြိုင်ပွဲများကို ဝင်ရောက်ယှဉ်ပြိုင်ရာတွင် တပ်မတော်သားများအနေဖြင့် တိုင်းချစ်ပြည်ချစ်စိတ်ကို

အရင်းခံသည့် အားကစားစိတ်ဓာတ်နှင့် ဝင်ရောက်ယှဉ်ပြိုင်လျက်ရှိကြောင်း၊ တိုင်းပြည်ချစ်စိတ်ရှိမှလည်း တိုင်းပြည်ကိုကာကွယ်လိုစိတ်များ ပေါ်ပေါက်လာမည်ဖြစ်ကြောင်း၊ ထိုကဲ့သို့ တိုင်းပြည်ချစ်စိတ် တိုင်းပြည်ကာကွယ်လိုစိတ်အပေါ် အရင်းခံ၍ ဝင်ရောက်ယှဉ်ပြိုင်ပြီး အောင်မြင်မှုရရှိအောင် စွမ်းဆောင်နိုင်ခဲ့မှုအပေါ် အသိအမှတ်ပြု ဂုဏ်ယူကြောင်း။

**(၂၆) မိုင် ဘက်စုံစိုက်ပျိုးမွေးမြူရေးဇုန် အကောင်အထည်ဖော်ဆောင်ရွက်နေမှုအား သွားရောက်ကြည့်ရှုစစ်ဆေးစဉ် ပြောကြားသည့် အမှာစကား (၁-၁၀-၂၀၂၂)**

- (၂၆)မိုင်ဘက်စုံစိုက်ပျိုးမွေးမြူရေးဇုန်၏ မူလအဓိကရည်ရွယ်ချက်သည် ပြည်တွင်းရော်ဘာလိုအပ်ချက်များကို ဖြည့်ဆည်းပေးနိုင်ရေးဖြစ်သည့်အတွက် ရော်ဘာထုတ်ကုန်စက်ရုံများ၏ လိုအပ်ချက်များ ပြည့်မီစေရေးရည်မှန်းချက်ထား ဆက်လက်ဆောင်ရွက်သွားရမည်ဖြစ်ကြောင်း။
- ဇုန်အတွင်း ရော်ဘာစိုက်ပျိုးရန် သတ်မှတ်ပေးထားသည့်မြေနေရာများ၌ ရော်ဘာကိုသာ အတတ်နိုင်ဆုံးစိုက်ပျိုးရေး ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ စိုက်ပျိုးမွေးမြူရေးဇုန်မှ ထွက်ရှိသည့် ထုတ်ကုန်ပစ္စည်းများကို ဈေးကွက်လိုအပ်ချက်အပေါ်မူတည်၍ ပြည်သူများ ဈေးနှုန်းသက်သာစွာဖြင့် ဝယ်ယူသုံးစွဲနိုင်ရေး ဆောင်ရွက်သွားကြရန်လိုကြောင်း။

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ် (UMFCCI)နှင့် ရန်ကုန်တိုင်းဒေသကြီးအတွင်းရှိ အသေးစား၊ အငယ်စားနှင့် အလတ်စား စီးပွားရေး (MSME) လုပ်ငန်းရှင်များအား ရန်ကုန်မြို့ရှိ ဇေယျာသီရိဗိမာန် ဧည့်ခန်းမဆောင်၌ တွေ့ဆုံ၍ စီးပွားရေးလုပ်ငန်းများဖွံ့ဖြိုးတိုးတက်ရေးအတွက် ဆွေးနွေးပြောကြားသည့် အမှာစကား (၃-၁၀-၂၀၂၂)**

- ဆီထွက်သီးနှံများ စိုက်ပျိုးမှုနှင့်ပတ်သက်၍ မြေ၊ ရေနှင့် လူစွမ်းအားအရင်းအမြစ်များရှိပြီးဖြစ်ပြီး အမှန်တကယ်အလုပ်လုပ်ရန် လိုအပ်လျက်ရှိကြောင်း၊ ဆီထွက်ကုန်များအနက် မြေပဲသီးနှံတစ်ခုသာလျှင် အထွက်နှုန်းကောင်းမွန်ပြီး အခြားဆီထွက်သီးနှံများမှာ ပန်းတိုင်အထွက်နှုန်းရည်မှန်းချက် မပြည့်မီသည်ကို တွေ့ရကြောင်း၊ ဆီထွက်သီးနှံများအား ပန်းတိုင်ရည်မှန်းချက် အထွက်နှုန်းပြည့်မီအောင် ဆောင်ရွက်နိုင်မည်ဆိုပါက ပြည်တွင်းဆီထုတ်လုပ်မှု တိုးတက်လာမည်ဖြစ်ကြောင်း၊ ပြည်တွင်းဆီလိုအပ်ချက် ပြည့်မီဖူလုံစေရေးအတွက် လိုအပ်သည်များကို နိုင်ငံတော်မှ ဖြည့်ဆည်းပေးသွားမည်ဖြစ်ကြောင်း။
- မိမိတို့နိုင်ငံတွင် ဆီစားသုံးမှုများပြားခြင်းနှင့် ပြည်တွင်းဆီထုတ်လုပ်မှု နည်းပါးခြင်းကြောင့် ပြည်တွင်းစားသုံးဆီလိုအပ်ချက် များပြားနေခြင်းဖြစ်ကြောင်း၊ စက်သုံးဆီများ လျှော့ချနိုင်ရန်အတွက် လျှပ်စစ်ဓာတ်အားသုံးအများပြည်သူသယ်ယူပို့ဆောင်ရေးစနစ်များကို အကောင်အထည်ဖော်ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရာတွင်လောင်စာနှင့်ဓာတ်ငွေ့များအသုံးပြုခြင်းထက်နေရောင်ခြည်စွမ်းအင်သုံးနှင့် လေစွမ်းအင်သုံးလျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းများကို ဆောင်ရွက်ရမည်ဖြစ်ကြောင်း။

## မြန်မာ့ဆန်စပါးညီလာခံ-၂၀၂၂ ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့် အမှာစကား (၆-၁၀-၂၀၂၂)

- မြန်မာနိုင်ငံတွင် စပါးမျိုး(၉၀)ကျော် စိုက်ပျိုးလျက်ရှိရာတွင် ပြည်တွင်းဈေးကွက်အကြိုက် စပါးမျိုး (၅၀)ခန့်နှင့် ပြည်ပဈေးကွက်အကြိုက် စပါးမျိုး(၂၀)ကျော်ရှိ စိုက်ပျိုးထုတ်လုပ်သူ တောင်သူများအနေဖြင့် စပါးမျိုးမြောက်များစွာစိုက်ပျိုးနေမည့်အစား ရေလိုအပ်ချက်နည်းပြီး ရေကြီးနစ်မြုပ်မှုဒဏ်၊ ပိုးမွှားဒဏ်ခံနိုင်သည့်ဒေသ၊ ရေမြေရာသီဥတုနှင့်ကိုက်ညီသော ဈေးကွက်ဝင် မျိုးကောင်းမျိုးသန့် စပါးမျိုးများကို ရွေးချယ်စိုက်ပျိုးရန်လိုအပ်ပြီး ပြည်တွင်းဆန်စပါးစိုက်ပျိုးထုတ်လုပ်မှုတွင် မျိုးသန့်စိုက်ပျိုးသည့်ဓလေ့မှ . အရည်အသွေးကောင်းသည့် မျိုးစေ့များဝယ်ယူသုံးစွဲစိုက်ပျိုးနိုင်သည့် အခြေအနေရောက်ရှိနိုင်ရန်ကိုလည်း ကြိုးပမ်းကြရမည်ဖြစ်ကြောင်း။
- မြန်မာနိုင်ငံသည် ကမ္ဘာ့အလယ်တွင် တစ်ချိန်က ဆန်အများဆုံးတင်ပို့သည့် နိုင်ငံအဖြစ် မှတ်တမ်းတင်ခံခဲ့ရသော နိုင်ငံဖြစ်သည့်အတွက် ယခင်အခြေအနေကို ပြန်လည် ရောက်ရှိအောင် စိုက်ပျိုးသူလယ်သမားကြီးများ၊ သိုလှောင်ကြိတ်ခွဲသူများ၊ ကုန်သည်ကြီးများ၊ ပြည်ပတင်ပို့သည့်ကုမ္ပဏီများ၊ တစ်ဆင့်ခံရောင်းဝယ်သူများ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်များ၊ မြန်မာနိုင်ငံဆန်စပါးအသင်းချုပ်နှင့် ဆန်စပါးနယ်ပယ်မှ အသင်းအဖွဲ့များက သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် တက်ညီလက်ညီ ပူးပေါင်းဆောင်ရွက်သွားကြရန်နှင့် မြန်မာနိုင်ငံဆန်စပါးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် နိုင်ငံတော်အနေဖြင့် လိုအပ်ချက်များကို ပံ့ပိုးကူညီဆောင်ရွက်သွားကြမည်ဖြစ်ကြောင်း။

## ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၇/၂၀၂၂)တွင် ပြောကြားသည့် အမှာစကား (၇-၁၀-၂၀၂၂)

- ကုန်ထုတ်လုပ်မှုလုပ်ငန်းများဆောင်ရွက်ရန်အတွက် လူသားအရင်းအမြစ်လိုအပ်မှုနှင့် ပတ်သက်၍ တစ်နိုင်ငံလုံးဝိုင်းဝန်းဆောင်ရွက်ရန်လိုကြောင်း၊ အခြေခံပညာပြီးမြောက်မှု မရှိသေးသည့် လုပ်ငန်းဆောင်ရွက်နေသူများကိုလည်း အလယ်တန်းပညာ၊ အထက်တန်းပညာအလိုက် စိုက်ပျိုးမွေးမြူရေးနှင့် လုပ်ငန်းခွင်သင်တန်းများ ဖွင့်လှစ်ဆောင်ရွက်ပေးရန်လိုကြောင်း၊ အခြေခံပညာအထက်တန်းပြီးဆုံးသူများကိုလည်း စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် စက်မှုပညာရပ်များကို ဆက်လက်သင်ကြားနိုင်အောင် နိုင်ငံတော်အနေဖြင့် စီမံဆောင်ရွက်နေကြောင်း။
- MSMEနှင့်ပတ်သက်လို့ ကိန်းဂဏန်းတွေ ဖွဲ့စည်းမှုတွေ ပြန်လည်လုပ်ဖို့လိုသလို တစ်ဖက်ကလည်း တကယ်အဓိကကျတဲ့ ခရိုင်တွေ ပြည်နယ်နှင့်တိုင်းတွေမှာ MSME တွေ ပီပီပြင်ပြင်နှင့် အလုပ်လုပ်နိုင်ဖို့လိုကြောင်း။
- ရုံးလုပ်ငန်းနှင့် အချိန်ကုန်နေလို့မရဘူး၊ ကုန်ထုတ်လုပ်မှုတွေ ကျွန်တော်တို့သွားရမယ်။ အဓိကကျတဲ့ ခရိုင်၊ ပြည်နယ်နှင့် တိုင်း၊ မြို့ကြီးတွေကတော့ အားလုံးက MSME တွေရှိရမယ်။ ခရိုင်အဆင့်တွေမှာလည်း အဓိကထုတ်ကုန် ပစ္စည်းရှိတဲ့ ခရိုင်တွေမှာ One Region One Product တွေ လုပ်ရမယ်။ ဒေသအလိုက် ခရိုင်ပေါင်း(၁၂၀)ကျော်ရှိတယ်။

ပစ္စည်းပေါင်း အမျိုးပေါင်း (၁၂၀)ကျော်လောက်က ကောင်းနေရမယ်။ One Region One Product ဒီလိုမျိုးတွေနဲ့ နိုင်ငံမှာ ထုတ်ကုန်ပစ္စည်းထုတ်မယ်ဆို ဒါတွေလည်း တစ်ဖက်ကလည်း ကုန်ထုတ်လုပ်မှုတွေ စီးပွားရေးလုပ်ငန်းတွေ အဲဒါတွေနဲ့လည်း တစ်ချိန်ကြရင် Tourist Attraction လည်းဖြစ်ကြောင်း။

## တစ်နိုင်ငံလုံး ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေး သဘောတူစာချုပ် NCA ချုပ်ဆိုခြင်း (၇) နှစ်မြောက် နှစ်ပတ်လည်နေ့တွင် ပြောကြားသည့် မိန့်ခွန်း (၁၅-၁၀-၂၀၂၂)

- နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီအစိုးရအနေနဲ့ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်တွေကို ဆောင်ရွက်ရာမှာ လက်တွေ့ကျတဲ့ ဖြစ်နိုင်တဲ့ လုပ်ငန်းဆောင်ရွက်ချက်တွေကို ဦးစား ပေးဆောင်ရွက်လျက်ရှိကြောင်း၊ တပ်မတော်အနေနဲ့ (၂၀၁၈)ခုနှစ်၊ ဒီဇင်ဘာလ (၂၁) ရက်နေ့ကစပြီး ယခုနှစ်ကုန်ပိုင်းအထိ ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေးနှင့် ထာဝရငြိမ်းချမ်းရေး အတွက် ထုတ်ပြန်ချက်ပေါင်း (၂၁)ကြိမ်ထုတ်ပြန်ပြီး ပစ်ခတ်တိုက်ခိုက်မှုရပ်စဲပေးခဲ့ပါ ကြောင်း၊ ယနေ့ တပ်မတော်က နိုင်ငံတော်တာဝန်ကို ထမ်းဆောင်နေရချိန်မှာ ငြိမ်းချမ်း ရေးလုပ်ငန်းစဉ်တွေ လက်တွေ့ကျကျ တိုးတက်လာနိုင်စေရေး၊ နိုင်ငံတော်နှင့် တပ်မတော်အကြီးအကဲကိုယ်တိုင် တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့အစည်းတွေနဲ့ တွေ့ဆုံဆွေးနွေးမှုတွေ ပြုလုပ်နေကြောင်း။
- ငြိမ်းချမ်းရေးနှင့်ပတ်သက်ပြီး အစိုးရအနေနဲ့စည်းလုံးညီညွတ်ရေးနှင့် ငြိမ်းချမ်းရေး ဖော်ဆောင်မှု ဗဟိုကော်မတီ၊ လုပ်ငန်းကော်မတီ၊ ညှိနှိုင်းရေးကော်မတီဆိုပြီး ကော်မတီ (၃)ရပ်ဖွဲ့စည်းပြီး ငြိမ်းချမ်းရေးဆိုင်ရာ လုပ်ငန်းတွေကို ဆောင်ရွက်ခဲ့ကြောင်း။

## ပြင်ဦးလွင်တပ်နယ်ရှိ တက္ကသိုလ်များနှင့် လေ့ကျင့်ရေးကျောင်းများ၏ လေ့ကျင့်ရေး ဆိုင်ရာ ညှိနှိုင်းအစည်းအဝေးတွင် ပြောကြားသည့် အမှာစကား (၁၆-၁၀-၂၀၂၂)

- တပ်မတော်တွင် ခေါင်းဆောင်မှုပညာရပ်သည် အလွန်အရေးကြီးပြီး အမိန့်နာခံတတ်မှု၊ စစ်စည်းကမ်းကောင်းမွန်မှုတို့ပြည့်စုံသည့် နောက်လိုက်ကောင်းဖြစ်ခဲ့မှသာလျှင် ခေါင်းဆောင် အဖြစ်သို့ရောက်ရှိချိန်၌လည်း ပြည့်စုံကောင်းမွန်သည့် ခေါင်းဆောင်တစ်ဦး ဖြစ်လာနိုင်မည်ဖြစ်ကြောင်း။
- စွမ်းရည်ရှိသည့်တပ်မတော်ဖြစ်စေရေးလေ့ကျင့်ပေးနေမှုများသည်သင်တန်းကျောင်းများ အလိုက် အခြေခံအားဖြင့် တူညီမှုရှိကြောင်း၊ အခြေခံစစ်ပညာမှအစပြု၍ အဆင့်အလိုက် လျော်ညီစွာတတ်မြောက်ရမည့် အတတ်ပညာ၊ အသိပညာများရရှိရေး သင်ကြားပေး လျက်ရှိကြောင်း။

## အရှေ့တောင်ပိုင်းစစ်ဌာနချုပ် မော်လမြိုင်တပ်နယ်မှ အရာရှိစစ်သည်မိသားစုများအား တွေ့ဆုံပြောကြားသည့် အမှာစကား (၁၆-၁၀-၂၀၂၂)

- မည်သည့်အလုပ်ကို လုပ်ကိုင်သည်ဖြစ်စေ အာရုံစိုက်၍ ခွန်အားစိုက်ထုတ်မည်ဆိုပါက အောင်မြင်မှုကို ရရှိမည်ဖြစ်သဖြင့် အားပြည့်အင်ပြည့်ဖြင့် အားထည့်ဆောင်ရွက်တတ် သည့် အလေ့အကျင့်ကို မွေးမြူဆောင်ရွက်ကြရန်လိုကြောင်း။
- ထိုသို့ဆောင်ရွက်နိုင်ရေးအတွက် စိတ်ဓာတ်၊ စည်းကမ်းကောင်းမွန်ရမည်ဖြစ်ပြီး

စိတ်ဓာတ်၊ စည်းကမ်းနှင့် အားထည့်ဆောင်ရွက်တတ်သည့် အလေ့အကျင့်တို့ကို ပေါင်းစပ်လိုက်ပါက စုစည်းညီညွတ်သည့်အားကို ရရှိမည်ဖြစ်ပြီး လုပ်ငန်းများအောင်မြင်မည်ဖြစ်ကြောင်း၊ စုစည်းသည့်အင်အားဖြင့် ဆောင်ရွက်ပါက အောင်မြင်မှုကို ရရှိနိုင်မည်ဖြစ်သည့်အတွက် တပ်တွင်းစည်းလုံးညီညွတ်ရေးကို တည်ဆောက်ကြရမည်ဖြစ်ကြောင်း။

## (၂၃)ကြိမ်မြောက် မြန်မာ့ရိုးရာယဉ်ကျေးမှု အဆို၊ အက၊ အရေး၊ အတီး ပြိုင်ပွဲ ဂုဏ်ပြုမှတ်တမ်းလွှာပေးအပ်ပွဲနှင့် ဂုဏ်ပြုညစာစားပွဲအခမ်းအနားတွင် ပြောကြားသည့် အမှာစကား (၁၈-၁၀-၂၀၂၂)

- နှစ်စဉ်ကျင်းပခဲ့ရာမှ မကျင်းပခဲ့သည်မှာ ကြာပြီဖြစ်သည့် မြန်မာ့ရိုးရာယဉ်ကျေးမှု အဆို၊ အက၊ အရေး၊ အတီး ပြိုင်ပွဲကြီးကို အမျိုးဂုဏ်၊ ဇာတိဂုဏ် မြင့်မားရေး၊ ရိုးရာယဉ်ကျေးမှု အမွေအနှစ်များနှင့် အမျိုးသားယဉ်ကျေးမှု စရိုက်လက္ခဏာများ ဖော်ထုတ်ထိန်းသိမ်း ဖော်ဆောင်နိုင်ရန်နှင့် နိုင်ငံချစ်စိတ်၊ ပြည်ထောင်စုစိတ်ဓာတ်များ နိုးကြားတက်ကြွစေပြီး ထာဝရငြိမ်းချမ်းရေးဖော်ဆောင်ရာတွင် ယဉ်ကျေးမှုကဏ္ဍမှ အထောက်အကူ ပေးနိုင်ရန် ရည်ရွယ်ကျင်းပခဲ့ခြင်းဖြစ်ကြောင်း။
- ရှည်လျားသည့် သမိုင်းကြောင်းတစ်လျှောက် အစွန့်ရှည်တည်တံ့ခဲ့သည့် မိမိတို့၏ အနုသုခုမပညာရပ်များကို "မဟာ"ဟူသည့် ကြီးကျယ်မြင့်မြတ်သော ဂုဏ်ထူးဝိသေသနှင့် မဟာဂီတဟု ခေတ်အဆက်ဆက်တွင် တန်ဖိုးထားခဲ့ကြပါကြောင်း၊ ထိုသို့တန်ဖိုးထားခဲ့ကြသည့် စာသားတေးသွားများကို ၁၉၅၃ ခုနှစ်တွင် ဝိဝါဒကွဲပြားမှုမရှိစေရန် "နိုင်ငံတော်မူ" အဖြစ် သတ်မှတ်နိုင်ရေးအတွက် ပညာရှင်ကြီးများပါဝင်သည့် အဖွဲ့ကို ဖွဲ့စည်းပြီး ဆောင်ရွက်ခဲ့သည်ဟု လေ့လာသိရှိရပါကြောင်း။
- "စိတ်ပျို့ရင် ကိုယ်နုတယ်" ဟူသည့် ဆိုစကားရှိသကဲ့သို့ မိမိတို့နှစ်သက်မြတ်နိုးသည့် အနုပညာအလုပ်များနှင့် ထိတွေ့နေရလျှင် မိမိတို့သိရှိတတ်မြောက်ထားသည့် ပညာများ ဖြန့်ဝေနေရလျှင် အသက်ရှည်ဆေးတစ်ခုသဖွယ်ဖြစ်သည်ဟု နားလည်ထားမိကြသည့်အတွက် ဘက်ပေါင်းစုံမှ ဝိုင်းဝန်းဆွေးနွေးစဉ်းစားပြီး ကြိုတင်ပြင်ဆင်မှုများ ပြုလုပ်၍ ယခုပြိုင်ပွဲကြီးကို ကျင်းပခဲ့ခြင်းဖြစ်ကြောင်း။

## နေပြည်တော်ကောင်စီနယ်မြေအတွင်းရှိ အသေးစား၊ အငယ်စားနှင့် အလတ်စား စီးပွားရေး (MSME)လုပ်ငန်းရှင်များအားတွေ့ဆုံ၍ ဒေသတွင်း စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ပြောကြားသည့် အမှာစကား (၂၂-၁၀-၂၀၂၂)

- မိမိတို့နိုင်ငံအတွင်းရှိ စိုက်ပျိုးရေး၊ မွေးမြူရေးလုပ်ငန်းများနှင့် မြေပေါ်မြေအောက် သယံဇာတပစ္စည်းများကို ထုတ်ကုန်များအဖြစ် ထုတ်လုပ်၍ ပြည်ပနိုင်ငံများသို့ တင်ပို့ရောင်းချခြင်းဖြင့် နိုင်ငံခြားဝင်ငွေရရှိမည်ဖြစ်ကြောင်း၊ မိမိတို့နိုင်ငံသည် ကျေးလက်နေပြည်သူ (၇၀)ရာခိုင်နှုန်းကျော်ရှိပြီး စိုက်ပျိုးရေး၊ မွေးမြူရေးလုပ်ငန်းများကို အခြေခံပြီး စီးပွားရေးလုပ်ငန်းများကို ဆောင်ရွက်ကြခြင်းဖြစ်ကြောင်း ။
- စိုက်ပျိုးရေး၊ မွေးမြူရေးလုပ်ငန်းသည် မိမိတို့နိုင်ငံ၏ စီးပွားရေးအတွက် အခြေခံအကျဆုံး စီးပွားရေးလုပ်ငန်းဖြစ်သဖြင့် စိုက်ပျိုးရေးနှင့် မွေးမြူရေးကို အခြေခံသည့် ကုန်ထုတ်လုပ်မှုများ ထုတ်လုပ်နိုင်ရေး အလေးထားအားပေးဆောင်ရွက်နေခြင်းဖြစ်ကြောင်း။

- အသေးစား၊ အငယ်စားနှင့် အလတ်စား စီးပွားရေး (MSME)လုပ်ငန်းများ ဖွံ့ဖြိုး တိုးတက်ရေးအတွက် ရင်းနှီးမတည်ငွေများကို သက်သာသောအတိုးနှုန်းများဖြင့် ထုတ်ချေးပေးနိုင်ရေး စီမံလျက်ရှိကြောင်း၊ ပျဉ်းမနားဒေသသည် ဝါးများပေါများသည့် ဒေသတစ်ခုဖြစ်ပြီး ဝါးထွက်ကုန်ထုတ်လုပ်ခြင်းများကို ဆောင်ရွက်လျက်ရှိကြောင်း၊ သို့သော် ယခု နောက်ပိုင်းတွင် ထုတ်ယူသုံးစွဲမှုများပြားခြင်းကြောင့် ဝါးတောများ ပြန်လည်စိုက်ပျိုးထိန်းသိမ်းကြရန်လိုအပ်ကြောင်း။

## ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၈/၂၀၂၂)တွင် ပြောကြားသည့် အမှာစကား (၁-၁၁-၂၀၂၂)

- ဒေသတွင်းမှထွက်ရှိသည့်ကုန်ကြမ်းဖြင့် ကုန်ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်သည့် MSME လုပ်ငန်းသည် ပိုမိုအကျိုးဖြစ်ထွန်းသည်ကို တွေ့ရကြောင်း၊ စိုက်ပျိုးရေးနှင့် မွေးမြူရေးလုပ်ငန်းများမှထွက်ရှိသည့် ကုန်ကြမ်းများစွာရှိကြောင်း၊ မွေးမြူရေးလုပ်ငန်းများကို စနစ်တကျလှောင်မွေးသည့်စနစ်ဖြင့် မွေးမြူမည်ဆိုပါက ပိုမိုအောင်မြင်ဖြစ်ထွန်းမည်ဖြစ်ကြောင်း။
- စိုက်ပျိုးရေးလုပ်ငန်းများမှ မွေးမြူရေးလုပ်ငန်းများအတွက် လိုအပ်သည့် တိရစ္ဆာန်အစာများကိုထုတ်လုပ်၍ရကြောင်း၊တိုင်းဒေသကြီးနှင့်ပြည်နယ်များအလိုက်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းများကို စံပြအဖြစ် အောင်မြင်ဖြစ်ထွန်းအောင် ဆောင်ရွက်ကြရန်လိုကြောင်း။

## ၂၀၂၁ ခုနှစ်အတွက် အမျိုးသားစာပေတစ်သက်တာဆု၊ အမျိုးသားစာပေဆုနှင့် စာပေဗိမာန်စာမူဆု ဆုနှင်းသဘင်အခမ်းအနားတွင် ပြောကြားသည့်အမှာစကား (၂၃-၁၁-၂၀၂၂)

- စာပေသည် “ခေတ်ရဲ့ကြေးမုံ”ဟု ပညာရှိများက ကမ္ဗည်းတပ်ကြကြောင်း၊ မြန်မာစာပေသမိုင်းတွင် နန်းသုံးတော်ဝင်စာပေများအပြင် ကျေးလက်ပြည်သူအလွှာစုံအထိ ပြည်သူ့အကျိုးပြုစာပေများသည် ခေတ်အဆက်ဆက်၏ ကြေးမုံပြင်တွင် အထင်အရှား ကျန်ရစ်ခဲ့ကြောင်း၊
- မြန်မာစာပေလောက ရှင်သန်ဖွံ့ဖြိုးရေးအတွက် ကြိုးပမ်းကြရာတွင် စာပေကို ပြုစုရေးသားကြသည့် စာဆိုတော်ကြီးများ၏ အခန်းကဏ္ဍသည် အရေးပါသကဲ့သို့ စာပေပညာရှင်ကြီးများကို အားပေးချီးမြှောက်ပေးသည့် နိုင်ငံတော်အစိုးရနှင့် ပုဂ္ဂလိကအဖွဲ့အစည်းများ၊ စေတနာရှင်လူပုဂ္ဂိုလ်များ၏ စေတနာသည်လည်း တစ်ထောင့်တစ်နေရာမှ ပါဝင်လျက်ရှိကြောင်း။
- ယနေ့အခမ်းအနားတွင် အမျိုးသားစာပေဆုအတွက် ၂၀၂၁ ခုနှစ်အတွင်း ပထမအကြိမ်ပုံနှိပ်ထုတ်ဝေခဲ့သည့် စာအုပ်ပေါင်း (၄၆၆)အုပ်ထဲမှ ဘာသာရပ် (၁၉)ခုအနက် ဘာသာရပ် (၉)ခု၊ စာပေဗိမာန်စာမူဆုတွင် ပြိုင်ပွဲဝင်စာမူ (၂၆၂)စောင်အနက် ဘာသာရပ် (၁၄)ခုထဲမှ ဆုချီးမြှင့်ရန်ထိုက်တန်သည့် စာမူပေါင်း (၂၈)ခုကို ဆုများချီးမြှင့်ပေးသွားမည်ဖြစ်ပါကြောင်း။
- ဆုရရှိသူများထဲတွင် နိုင်ငံသိစာရေးဆရာကြီးများ၊ ဌာနဆိုင်ရာဝန်ထမ်းများ၊ ဆရာဝန်

များ၊ တပ်မတော်အရာရှိများ၊ အငြိမ်းစားဝန်ထမ်းများ ပါဝင်ကြသကဲ့သို့ ဝါသနာကို အရင်းတည်ပြီး မွေ့လျော်ရာစာပေနယ်ကို တိုးဝင်ရန် ကြိုးပမ်းလာကြသည့် စာပေဝါသနာရှင်များ ဆုဆွတ်ခူးရရှိခဲ့သည်ကို တွေ့ရသဖြင့် ကျေနပ်အားရ ဖြစ်မိပါကြောင်း။

- ပြည်သူများကို အသိပညာဗဟုသုတနှင့် စိတ်ဓာတ်မြင့်မားရေးကို စာပေအနုပညာရှင်ကြီးများအားဖြင့် ဆောင်ရွက်ပေးခြင်းဖြင့် မိမိတို့နိုင်ငံကြီးသည် အေးချမ်းသာယာ ဖွံ့ဖြိုးတိုးတက်လာမည်မှာ မလွဲကေန်ပင်ဖြစ်သည်ဟု တိုက်တွန်းမှာကြားလိုပါကြောင်း။

## (၂၁)ကြိမ်မြောက် မြန်မာ့တိုင်းရင်းဆေးသမားတော်များညီလာခံနှင့် မြန်မာ့တိုင်းရင်းဆေးပညာနှီးနှောဖလှယ်ပွဲသို့ Video Message ဖြင့် ပေးပို့ပြောကြားသည့် ဂုဏ်ပြုအမှာစကား (၈-၁၂-၂၀၂၂)

- သိမ်မွေ့နက်နဲတဲ့ မြန်မာ့တိုင်းရင်းဆေးပညာရပ်များ၊ ကုထုံးများ၊ တန်ဖိုးမဖြတ်နိုင်တဲ့ ဆေးကျမ်းများနှင့် အာနိသင်ထက်မြက်တဲ့ ဆေးဝါးများရဲ့ အနှစ်သာရ အဆီအနှစ်တွေကို စုစည်းပြီး အမျိုးသားအမွေအနှစ်ဆေးပညာရပ် တစ်ရပ်အဖြစ် ဖြစ်ထွန်းရပ်တည်နေစေဖို့ စုပေါင်းစွမ်းအားနဲ့ အားထုတ်ကြိုးပမ်းဆောင်ရွက်သွားကြဖို့ကို ထပ်လောင်းမှာကြားလိုကြောင်း။
- နိုင်ငံရဲ့ ရိုးရာအမွေအနှစ်ဖြစ်တဲ့ မြန်မာ့တိုင်းရင်းဆေးပညာရပ်ကို အရိုးပေါ်အရွက်မဖုံးစေဘဲ အမျိုးသားယဉ်ကျေးမှုတစ်ရပ်အနေနဲ့ ထိန်းသိမ်းစောင့်ရှောက်သွားဖို့လည်း လိုအပ်ကြောင်း။
- အခုနှစ်ညီလာခံမှာ တိုင်းရင်းဆေးသမားတော်များညီလာခံ ကိုယ်စားလှယ်ကြီးများအနေနဲ့ မြန်မာ့တိုင်းရင်းဆေးလောက ဘက်စုံအဆင့်အတန်းမြင့်မားရေးနဲ့ မြန်မာ့တိုင်းရင်းဆေးပညာ အရည်အသွေးဖွံ့ဖြိုးတိုးတက်မှု ပိုမိုရရှိစေရန်၊ မြန်မာ့တိုင်းရင်းဆေးဆရာတို့ရဲ့ အရည်အချင်းနဲ့ ကျင့်ဝတ်ဂုဏ်သိက္ခာ ပိုမိုမြင့်မားလာစေရန်၊ မြန်မာ့တိုင်းရင်းဆေးပညာနဲ့ တိုင်းရင်းဆေးဝါးထုတ်လုပ်မှုနည်းပညာတွေ ပိုမိုဖွံ့ဖြိုးတိုးတက်စေရန်၊ ပြည်တွင်းပြည်ပရှိ ဆက်စပ်နှီးနွှယ်ပညာရှင်များ၊ အဖွဲ့အစည်းများနဲ့ ပူးပေါင်းဆောင်ရွက်ရန်ဆိုတဲ့ မှန်ကန်ကောင်းမွန်တဲ့ ရည်ရွယ်ချက်များကို အခြေခံပြီးဆွေးနွေး၊ တိုင်ပင်နှီးနှောဖလှယ်ကြမှာဖြစ်လို့ အကျိုးရှိမယ့်ရလဒ်ကောင်းတွေ ထွက်ပေါ်လာမည်ဟု ယုံကြည်မိပါကြောင်း။

## အပြည်ပြည်ဆိုင်ရာ အဂတိလိုက်စားမှုတိုက်ဖျက်ရေးနေ့အခမ်းအနားတွင် ပြောကြားသည့်အမှာစကား(၉-၁၂-၂၀၂၂)

- အဂတိလိုက်စားမှုတိုက်ဖျက်ရေး၏ အနှစ်သာရသည် အများပြည်သူ၏ အကျိုးစီးပွားကို ကာကွယ်ပေးရန်နှင့် အဂတိကင်းစင်သည့် လူ့အဖွဲ့အစည်းဖြစ်စေရန်ဖြစ်ကြောင်း၊ ပြည်သူ့ဝန်ထမ်းများနှင့် နိုင်ငံ့ဝန်ထမ်းများသည် နိုင်ငံတော်အစိုးရနှင့် ပြည်သူများအကြား ပေါင်းကူးတံတားများသဖွယ် ဆက်သွယ်ဆက်ဆံပြီး ယုံကြည်မှုတည်ဆောက်ပေးရသူများလည်းဖြစ်ကြောင်း။
- ကောင်းမွန်သည့် အုပ်ချုပ်ရေးကိုပုံဖော်ရာတွင် အဂတိလိုက်စားမှုတိုက်ဖျက်ရေး

လုပ်ငန်းစဉ်များသည် အရေးပါသကဲ့သို့ ပြည်သူ့ဝန်ထမ်း၊ နိုင်ငံ့ဝန်ထမ်းများ၏ စည်းကမ်းလိုက်နာမှု၊ ဖြောင့်မတ်တည်ကြည်မှုနှင့် ကျင့်ဝတ်စောင့်ထိန်းမှုများမှ လမ်းချော်လွဲမှားသွားစေသည့် အဓိကအချက်မှာ အဂတိလိုက်စားမှုပင်ဖြစ်ကြောင်း။

- ထို့ကြောင့် နိုင်ငံ့ဝန်ထမ်းများအနေဖြင့် သတ်မှတ်ထားသည့် စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်း၊ ကျင့်ဝတ်များနှင့်အညီ လိုက်နာဆောင်ရွက်ကြမည်ဆိုပါက ပြည်သူများ၏ ယုံကြည်မှုကိုရရှိပြီး ကောင်းမွန်သည့် အုပ်ချုပ်ရေးစနစ်ကို ဖြစ်ပေါ်စေကာ နိုင်ငံတော် ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ကြောင်း။

## (၇၄)နှစ်မြောက် အပြည်ပြည်ဆိုင်ရာ လူ့အခွင့်အရေးအထိမ်းအမှတ် အခမ်းအနားတွင် ပြောကြားသည့်အမှာစကား (၁၀-၁၂-၂၀၂၂)

- လူ့အခွင့်အရေးကို လက်ခံရယူကျင့်သုံးကြရာတွင်လည်း လူ့အဖွဲ့အစည်းအတွက် တရားမျှတသည့် လိုအပ်ချက်များဖြစ်သော ကိုယ်ကျင့်တရားများ၊ အများပြည်သူအေးချမ်းသာယာရေးနှင့် အကျိုးစီးပွားဖြစ်ထွန်းရေးတို့ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် ဥပဒေအရ သတ်မှတ်ထားသည့် ကန့်သတ်ချက်များအတိုင်းသာ ကျင့်သုံးရမည်ဟုလည်း ယင်းကြေညာစာတမ်း၌ အထင်အရှားဖော်ပြပါရှိပြီးဖြစ်ကြောင်း။
- ထို့ကြောင့် လူ့အခွင့်အရေးကို ကျင့်သုံးကြရာတွင် မိမိတို့၏ လွတ်လပ်ခွင့်နှင့် အခွင့်အရေးများကို ရယူသကဲ့သို့ သူတစ်ပါး၏ လွတ်လပ်ခွင့်နှင့် အခွင့်အရေးကိုလည်း လေးစားတန်ဖိုးထားပြီး လိုက်နာဆောင်ရွက်ရမည့်တာဝန်များ၊ ကျင့်ဝတ်များကိုလည်း လျစ်လျူမရှုကြရန် မပျက်မကွက်ကြရန်လိုအပ်ကြောင်း။
- နိုင်ငံသူနိုင်ငံသားများ အခြေခံအခွင့်အရေးများကို ခံစားရရှိပြီး လူမှုစီးပွားဘဝ မြင့်မားတိုးတက်လာစေရေးအတွက် နိုင်ငံတစ်ဝန်းလုံး တည်ငြိမ်အေးချမ်းမှုရှိရေးသည် အဓိကကျပါကြောင်း၊ ထို့ကြောင့် တိုင်းရင်းသားလူမျိုးများ၏ အခွင့်အရေးများ တန်းတူညီမျှရေးနှင့် အမျိုးသားစည်းလုံးညီညွတ်ရေးကို ကြိုးပမ်းအကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိရာတွင် အမျိုးသားစည်းလုံးညီညွတ်ရေးနှင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအတွက် တိုင်းရင်းသားလက်နက်ကိုင် အဖွဲ့အစည်းအသီးသီးကို ဖိတ်ခေါ်တွေ့ဆုံပြီး ငြိမ်းချမ်းရေးဆွေးနွေးမှုများကို အလေးပေးဆောင်ရွက်နေသည်ကို အားလုံးအသိပင်ဖြစ်ပါကြောင်း။
- (၇၄)နှစ်မြောက်အပြည်ပြည်ဆိုင်ရာ လူ့အခွင့်အရေးနေ့မှစပြီး လာမည့်နှစ် အပြည်ပြည်ဆိုင်ရာ လူ့အခွင့်အရေးနေ့အထိ တစ်နှစ်တာကာလပတ်လုံးကို လူသားအားလုံးအတွက် အရေးပါသည့် အမွေအနှစ်ဖြစ်သော ကမ္ဘာ့လူ့အခွင့်အရေး ကြေညာစာတမ်းကို အလေးပေး ထင်ဟပ်ဖော်ညွှန်းဂုဏ်ပြုသည့် လှုပ်ရှားဆောင်ရွက်ချက်များဖြင့် လေးစားလိုက်နာဆောင်ရွက်သွားကြရန် တိုက်တွန်းမှာကြားလိုကြောင်း။

## တပ်မတော်ဆေးတက္ကသိုလ် ဗိုလ်လောင်းသင်တန်းအမှတ်စဉ်(၂၃)သင်တန်းဆင်းဂုဏ်ပြု စစ်ရေးပြအခမ်းအနားတွင် ပြောကြားသည့်မိန့်ခွန်း (၂၁-၁၂-၂၀၂၂)

- သစ္စာဆိုသည့်စကား၏အဓိပ္ပာယ်သည် ကိုယ်၊ နှုတ်၊ နှလုံး သုံးပါးလုံးဖြင့် မှန်ကန်စွာ

စောင့်ရှောက်ဆောင်ရွက်ခြင်းဖြစ်ပြီး သစ္စာတရားတည်ကြည်ခြင်းသည် အကျိုးရလဒ်ဖြင့် ပြည့်ဝနေမည်ဖြစ်သကဲ့သို့ သစ္စာတရားပျက်ယွင်းခြင်းသည် ဆုတ်ယုတ်ပျက်စီးခြင်းများနှင့်သာ ပြည့်နှက်နေမည်ဖြစ်ကြောင်း။

- အဆိုပါအချက်များကို သင်ခန်းစာယူပြီး မိမိအဖွဲ့အစည်းနှင့် မိမိအလုပ်အပေါ် ကတိသစ္စာမြဲကြရန်၊ မိမိတို့စောင့်ထိန်းရမည့် ဆေးပညာကျင့်ဝတ်များကို ခါးဝတ်ပုဆိုးသဖွယ်မြဲကြရန် အလေးအနက်ထားမှာကြားလိုကြောင်း။
- မိမိတို့တပ်မတော်သည် ခေတ်အဆက်ဆက် ပြည်သူနှင့်ပတ်သက်လာပါက "ပြည်သူသာအမိ၊ ပြည်သူသာအဖ"ဆိုသည့် ဆောင်ပုဒ်ကို ဦးထိပ်ထားဆောင်ရွက်ခဲ့သည့် အဖွဲ့အစည်းတစ်ခုဖြစ်ကြောင်း၊ "တပ်မတော်သည် အမျိုးသားရေးကို ဘယ်တော့မှ သစ္စာမဖောက်" ဟူသည့်ဆောင်ပုဒ်နှင့်အညီ နိုင်ငံတော်၏ အမျိုးသားနိုင်ငံရေးဦးဆောင်မှု အခန်းကဏ္ဍကိုလည်း မဖောက်မပြန် ခိုင်ခိုင်မာမာ ရပ်တည်နေသည့် အဖွဲ့အစည်းဖြစ်ကြောင်း။

## ၂၀၂၃ ခုနှစ် (၇၅)နှစ်မြောက် စိန်ရတုလွတ်လပ်ရေးနေ့အထိမ်းအမှတ် ဂုဏ်ထူးဆောင်ဘွဲ့များ ချီးမြှင့်အပ်နှင်းခြင်းအခမ်းအနားတွင် ပြောကြားသည့်အမှာစကား (၁-၁-၂၀၂၃)

- မိမိတို့နိုင်ငံတွင် လွတ်လပ်ရေးပြန်လည်ရရှိရန်အတွက် နှစ်ပေါင်း (၁၀၀) ကျော် မိမိတို့ မိဘဘိုးဘွားများ၏ အသက်၊ သွေး၊ ချွေး မြောက်မြားစွာစတေးပြီး အလွန်တရာ ခက်ခဲပင်ပန်းစွာ ကြိုးစားအားထုတ်ခဲ့ရသည့်အတွက် အလွယ်တကူရရှိခြင်းမဟုတ်သည်ကို မမေ့အပ်ပါကြောင်း၊ အမျိုးသားခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း၏ ခေါင်းဆောင်မှုအောက်တွင် တိုင်းရင်းသားအားလုံး ဖွဲ၊ လုံ့လ၊ သတ္တိအပြည့်နှင့် စွန့်လွှတ်စွန့်စားပြီး ညီညီညွတ်ညွတ်ကြိုးပမ်းခဲ့ကြသဖြင့် လွတ်လပ်ရေးကို အရယူနိုင်ခဲ့ခြင်းဖြစ်ပါကြောင်း။
- တည်ငြိမ်အေးချမ်းပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်သည့်နိုင်ငံဖြစ်စေရန် ဘက်စုံ၊ ထောင့်စုံမှ တည်ဆောက်သည့်နေရာတွင် နိုင်ငံတော်လုံခြုံရေး၊ ရပ်ရွာအေးချမ်းသာယာရေး၊ တရားဥပဒေစိုးမိုးရေးနှင့် နိုင်ငံတော်တည်ဆောက်ရေးတာဝန်များကို အများထက်ထူးကဲသာလွန်စွာ ကြိုးစားထမ်းဆောင်ခဲ့ကြသည့်ပုဂ္ဂိုလ်များကို ဂုဏ်ပြုချီးမြှင့်ခြင်းသည် ကောင်းမွန်သည့် အစဉ်အလာကောင်းတစ်ရပ်ဖြစ်ကြောင်း။
- ဂုဏ်ပြုချီးမြှင့်ထိုက်သူကို ဂုဏ်ပြုချီးမြှင့်ခြင်းသည် မင်္ဂလာတရားတော်နှင့်အညီ ဆောင်ရွက်ခြင်းလည်းဖြစ်ပါကြောင်း၊ မိမိတို့၏ဘဝတစ်သက်တာအတွင်း တိုင်းပြည်အတွက် ကြိုးပမ်းဆောင်ရွက်ခဲ့မှုများကို ယခုကဲ့သို့မှတ်တမ်းတင်ဂုဏ်ပြုချီးမြှင့်ခြင်းခံရသကဲ့သို့ ဆက်လက်ပြီးအနာဂတ်ကာလတွင်လည်း နိုင်ငံတော်ကြီးရေရှည်တည်တံ့ခိုင်မြဲရေး၊ အေးချမ်းသာယာရေး၊ ခေတ်မီဖွံ့ဖြိုးတိုးတက်ရေးအတွက် မိမိတို့၏ သားစဉ်မြေးဆက်များကိုပါ ယခုကဲ့သို့ ကြိုးပမ်းဆောင်ရွက်စေရန် စံနာမူနာကောင်းများ ပြကြပါဟု တိုက်တွန်းမှာကြားလိုကြောင်း။

## ၂၀၂၃ ခုနှစ် (၇၅)နှစ်မြောက် စိန်ရတုလွတ်လပ်ရေးနေ့ ဂုဏ်ပြုအခမ်းအနားတွင် ပြောကြားသည့်မိန့်ခွန်း(၄-၁-၂၀၂၃)

- လွတ်လပ်ရေးရပြီးစ ကာလကတည်းက ငြိမ်းချမ်းစွာအတူယှဉ်တွဲနေထိုင်ရေးမူကြီး ၅ ချက်

ကို နိုင်ငံခြားရေးမူဝါဒရဲ့အခြေခံအုတ်မြစ်အဖြစ် အစဉ်တစိုက် အသုံးပြုလာခဲ့ပါကြောင်း။

- ကျွန်တော်တို့အစိုးရအနေနဲ့ "ကျွန်တော်တို့ နိုင်ငံနယ်မြေကို အသုံးပြုပြီး အိမ်နီးချင်း မိတ်ဆွေနိုင်ငံတွေအပေါ် ဆန့်ကျင်မယ့်မည်သည့်အဖွဲ့အစည်းကိုမှ လက်ခံသွားမည် မဟုတ်"ဆိုတဲ့ အိမ်နီးချင်းနိုင်ငံများ၏တည်ငြိမ်အေးချမ်းမှု၊ အတူဖွံ့ဖြိုးတိုးတက်မှုတို့ကို အလေးထားတဲ့မူဝါဒကို လက်တွေ့ကျင့်သုံးလျက်ရှိပါကြောင်း။
- လွတ်လပ်ရေးရပြီးကတည်းက ပြည်တွင်းလက်နက်ကိုင် ပဋိပက္ခနဲ့ကြုံတွေ့ခဲ့ရတဲ့ ကျွန်တော်တို့နိုင်ငံနဲ့ ပြည်သူတွေရဲ့အကျိုးကို ရှေးရှုငဲ့ကွက်ပြီး သက်ဆိုင်သူအားလုံးက ပြည်တွင်းလက်နက်ကိုင်ပဋိပက္ခများချုပ်ငြိမ်းရေးကို (၇၅)နှစ်မြောက် စိန်ရတုလွတ်လပ်ရေးနေ့ကစပြီး အားသွန်ခွန်စိုက်ကြိုးပမ်းဆောင်ရွက်ခြင်းဖြင့် နောင်မျိုးဆက်သစ်များကို ငြိမ်းချမ်းရေးအမွေပေးခဲ့ကြပါစို့လို့ တိုက်တွန်းပြောကြားလိုကြောင်း။

## နေပြည်တော်ရှိ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီဥက္ကဋ္ဌရုံး အစည်းအဝေးခန်းမ၌ ပြည်ထောင်စုဝန်ကြီးများ၊ နေပြည်တော်ကောင်စီဥက္ကဋ္ဌ၊ တိုင်းဒေသကြီးနှင့် ပြည်နယ်ဝန်ကြီးချုပ်များ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသနှင့် တိုင်းဥက္ကဋ္ဌများအား တွေ့ဆုံစဉ် ပြောကြားသည့်အမှာစကား (၆-၁-၂၀၂၃)

- နိုင်ငံစီးပွားဖွံ့ဖြိုးတိုးတက်ရေးနှင့်ပတ်သက်၍ တပ်မတော်အစိုးရလက်ထက်ကတည်းက ဈေးကွက်စီးပွားရေးစနစ်ကို လမ်းခင်းဆောင်ရွက်ပေးခဲ့ကြောင်း၊ ၂၀၁၁ ခုနှစ် ဒီမိုကရေစီစနစ်စတင်လျှောက်လှမ်းချိန်၌လည်း ဈေးကွက်စီးပွားရေးစနစ်ကို ဆက်လက်ကျင့်သုံးခဲ့ရာ အစိုးရပထမသက်တမ်းငါးနှစ်အတွင်း နိုင်ငံ၏ GDP တိုးတက်မှုနှုန်းမှာ ၈ ဒသမ ၄ ရာခိုင်နှုန်းအထိ တိုးတက်ခဲ့ကြောင်း။
- မိမိတို့အနေဖြင့် ကိုဗစ်-၁၉ ရောဂါထိန်းချုပ်ရေးလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် ပြည်တွင်းစီးပွားရေးလုပ်ငန်းများကို အားပေးဆောင်ရွက်ခဲ့ရာ ၂၀၂၁-၂၀၂၂ ခုနှစ် ပထမ ၆ လတာကာလအတွင်း အပေါင်း ၂ ဒသမ ၄ ရာခိုင်နှုန်းသို့ ပြန်လည်ရောက်ရှိလာခဲ့သဖြင့် မိမိတို့နိုင်ငံ၏စီးပွားရေးမှာ ၈ ရာခိုင်နှုန်းခန့်ပြန်လည်တိုးတက်လာခြင်းဖြစ်ကြောင်း။
- ရွေးကောက်ပွဲနှင့်ပတ်သက်၍ ၂၀၂၀ ပြည့်နှစ်တွင် ဖြစ်ပေါ်ခဲ့သည့် မဲမသမာမှုများကို သင်ခန်းစာယူပြီး မဲစာရင်းများမှန်ကန်မှုရှိအောင် ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ ၂၀၁၅ ခုနှစ်တွင် ထုတ်ပြန်ခဲ့သည့် မဲစာရင်းသည် ၂၀၁၄ ခုနှစ်တွင် ကောက်ယူရရှိခဲ့သည့် သန်းခေါင်စာရင်းအပေါ်တွင်မူတည်၍ ဆောင်ရွက်ခဲ့ခြင်းဖြစ်သည့်အတွက် စာရင်းဇယားတိကျမှုရှိကြောင်း၊ လာမည့်ရွေးကောက်ပွဲတွင်လည်း စာရင်းဇယားမှန်ကန်စေရေးသည် အဓိကဖြစ်ကြောင်း၊ ထို့ကြောင့် စာရင်းဇယားများမှန်ကန်မှုရှိစေရေး ယခုအချိန်ကတည်းကပင် ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ လိုအပ်ပါက ပြည်လုံးကျွတ်သန်းခေါင်စာရင်းကောက်ယူ၍ စာရင်းဇယားများတိကျမှန်ကန်မှုရှိစေရန် ဆောင်ရွက်သွားရမည်ဖြစ်ကြောင်း။

**စစ်ကိုင်းတိုင်းဒေသကြီး ဟုမ္မလင်းခရိုင်အတွင်းရှိ ခရိုင်၊ မြို့နယ်အဆင့် ဌာနဆိုင်ရာ တာဝန်ရှိသူများ၊ မြို့မိ၊ မြို့ဖများ၊ အသေးစား၊ အငယ်စားနှင့် အလတ်စား စီးပွားရေး (MSME)လုပ်ငန်းရှင်များအား ဟုမ္မလင်းမြို့ မြို့တော်ခန်းမ၌ တွေ့ဆုံ၍ ဒေသဖွံ့ဖြိုး တိုးတက်ရေးဆိုင်ရာများကို ဆွေးနွေးပြောကြားသည့် အမှာစကား (၁၅-၁-၂၀၂၃)**

- ဟုမ္မလင်းဒေသသည် ဒေသဖွံ့ဖြိုးတိုးတက်ရေးအတွက် ဆောင်ရွက်နိုင်မည့်အခြေအနေများစွာကို ပိုင်ဆိုင်ထားရှိပြီးဖြစ်ကြောင်း၊ ဒေသတွင်းဖြစ်ထွန်းသည့် လက်ဖက်၊ ရော်ဘာ စိုက်ပျိုးခြင်းများကို အားပေးဆောင်ရွက်ကြရန်လိုကြောင်း၊ ရွှေအပါအဝင် သဘာဝမှ ပေးအပ်ထားသည့် သယံဇာတအရင်းအမြစ်များစွာကြွယ်ဝသည့် ဒေသတစ်ခုတစ်ခုလည်း ဖြစ်ကြောင်း၊ ဒေသဖွံ့ဖြိုးရေးအတွက် အဓိကလိုအပ်သည့် လျှပ်စစ်စွမ်းအားရရှိရေးကို လည်း ကြိုးပမ်းဆောင်ရွက်လျက်ရှိကြောင်း၊ စီးပွားရေးလုပ်ငန်းများကို အားပေး ဆောင်ရွက်မှသာလျှင် နိုင်ငံ့စီးပွားရေးသည်လည်း ဖွံ့ဖြိုးတိုးတက်မည်ဖြစ်သဖြင့် မိမိတို့အနေဖြင့် MSME လုပ်ငန်းများကို အားပေးဆောင်ရွက်နေခြင်းမှာ တိုင်းပြည်၏ စီးပွားရေးမြင့်တင်ရန်၊ ပြည်ပသွင်းကုန်များ အစားထိုးနိုင်ရန်နှင့် ပြည်ပသို့ ပြည်တွင်း ထုတ်ကုန်များတင်ပို့နိုင်ရန် စသည့်ရည်ရွယ်ချက်များဖြင့် ဆောင်ရွက်နေခြင်းဖြစ်ကြောင်း။
- မိမိတို့နိုင်ငံ၏ လူဦးရေ၅၇ ရာခိုင်နှုန်းခန့်သည် အလယ်တန်းပညာအရည်အချင်းအောက်၌ သာရှိကြောင်း၊ ၂၅ နှစ်အထက်လူဦးရေ ၈ ရာခိုင်နှုန်းခန့်သည် စာလုံးဝတတ်မြောက်ခြင်း မရှိသည်ကို စာရင်းဇယားအချက်အလက်များအရ တွေ့ရှိရကြောင်း။
- ကျောင်းနေအရွယ် ကလေးငယ်များအားလုံး ကျောင်းတက်ရောက်ရန်နှင့် ပညာသင်ကြား နိုင်ရန် လိုအပ်မည်ဖြစ်ကြောင်း၊ အစိုးရအနေဖြင့် ကျောင်းနေအရွယ်ကလေးများအားလုံး ပညာသင်ကြားနိုင်ရေး၊ ကျောင်းများ၊ ကောလိပ်များ၊ တက္ကသိုလ်များကို ဖွင့်လှစ်ပေးပြီး ဖြစ်သဖြင့် ကျောင်းတက်ရောက်ရန် အားပေးဆောင်ရွက်ကြစေလိုပြီး ပညာရေးကို အားပေးဆောင်ရွက်ကြစေလိုကြောင်း၊ လူတစ်ဦးချင်းစီ၏ လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက် ရေးအတွက်သည် တစ်ဦးချင်း၏ ကြိုးစားအားထုတ်မှုဖြင့်သာ သက်ဆိုင်သည်ဖြစ်သဖြင့် အခြေခံလိုအပ်ချက်ဖြစ်သည့် ပညာရေးကို အားပေးဆောင်ရွက်ကြစေလိုကြောင်း။

**(၈)ကြိမ်မြောက် မြန်မာ-ထိုင်း တပ်မတော်နှစ်ရပ်အကြား အဆင့်မြင့်အရာရှိကြီးများ အစည်းအဝေး 8th High Level Committee Meeting တွင် ပြောကြားသည့် အမှာစကား(၂၀-၁-၂၀၂၃)**

- မိမိတို့နှစ်နိုင်ငံသည် အိမ်နီးချင်းနိုင်ငံများဖြစ်သည်နှင့်အညီ ခိုင်မာပြီး ချစ်ခင်ရင်းနှီးသည့် ဆက်ဆံရေးကို ရှေးယခင်ကတည်းကပင် တည်ဆောက်ထားပြီးဖြစ်ကြောင်း၊ ယခု ပြုလုပ်သည့် မြန်မာ-ထိုင်း တပ်မတော်နှစ်ရပ်အကြား အဆင့်မြင့်အရာရှိကြီးများ အစည်းအဝေးမှ နှစ်နိုင်ငံတပ်မတော်နှစ်ရပ်အကြားယုံကြည်မှု၊ အပြန်အလှန်နားလည်မှု နှင့် ချစ်ကြည်ရင်းနှီးမှုတို့ကို ပိုမိုတိုးတက်အားကောင်းလာစေရန် တည်ဆောက်နိုင်မည်ဟု ယုံကြည်ပါကြောင်း။
- ယခုကဲ့သို့ မြန်မာ-ထိုင်း တပ်မတော်နှစ်ရပ်အကြား အဆင့်မြင့်အရာရှိများ အစည်း အဝေးကျင်းပနိုင်ခြင်းအားဖြင့် တပ်မတော်နှစ်ရပ်အကြား ပူးပေါင်းဆောင်ရွက်နိုင်မည့်

လမ်းကြောင်းနှင့် နည်းလမ်းများကို ချမှတ်နိုင်မည့်အပြင် နယ်စပ်ဒေသရှိ တပ်ဖွဲ့များအနေဖြင့်လည်း ချမှတ်ထားသည့် လမ်းကြောင်းများအတိုင်း ပူးပေါင်းဆောင်ရွက်မှုများ ဆက်လက်ဆောင်ရွက်နိုင်မည်ဖြစ်ကြောင်း။

- နယ်စပ်ဒေသတစ်လျှောက်ရှိ နှစ်နိုင်ငံပြည်သူများအတွက် အသက်အိုးအိမ်စည်းစိမ် လုံခြုံမှုနှင့် ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများကို တည်ဆောက်သွားနိုင်မည်ဟု ယုံကြည်ပါကြောင်း။

## ရခိုင်ပြည်နယ် သံတွဲမြို့နယ်အတွင်းရှိ ဟိုတယ်နှင့် ခရီးသွားလုပ်ငန်းရှင်များအား သံတွဲမြို့ရှိ Pristine Mermaid Resort ဧည့်ခန်းမဆောင်၌ တွေ့ဆုံဆွေးနွေး ပြောကြားသည့် အမှာစကား (၂၀-၁-၂၀၂၃)

- ငပလီလေဆိပ်အား အပြည်ပြည်ဆိုင်ရာလေဆိပ်အဖြစ် အဆင့်မြှင့်တင်နိုင်မည်ဆိုပါက ခရီးသွားလုပ်ငန်းအတွက် ပိုမိုအထောက်အကူပြုနိုင်သဖြင့် လေဆိပ်အား အဆင့်မြှင့်တင်နိုင်ရေး နိုင်ငံတော်မှ စီမံဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ မိမိတို့၏ရှိပြီးသားဖြစ်သည့် အားသာချက်များကို အသုံးချပြီး ခရီးသွားဧည့်သည်တို့၏ သဘောသဘာဝကိုသိရှိအောင် ဆောင်ရွက်ကာ ဒေသတွင်းသို့ ခရီးသွားများပိုမိုဝင်ရောက်စေရေး လုပ်ဆောင်ကြရန်လိုကြောင်း၊ ခရီးသွားလုပ်ငန်းသည် အသေးစား၊ အငယ်စားနှင့်အလတ်စားစီးပွားရေး MSME လုပ်ငန်းများတွင်ပါဝင်ပြီး နိုင်ငံတော်အနေဖြင့် MSME လုပ်ငန်းများကို အားပေးဆောင်ရွက်လျက်ရှိကြောင်း။
- ဒေသတွင်းရှိ ရှေးဟောင်းအမွေအနှစ်များ၊ ထိန်းသိမ်းစောင့်ရှောက်ရန်လိုအပ်သည့် အဆောက်အဦများ၊ ဘာသာရေးအဆောက်အဦများအားလုံး သန့်ရှင်းသာယာလှပစေရေး၊ မိမိတို့နေထိုင်ရာ ပတ်ဝန်းကျင်နှင့် လမ်းများအားလုံး သန့်ရှင်းသပ်ရပ်မှုရှိစေရေး၊ အမြင်တင့်တယ်မှုရှိစေရေး၊ ဒေသအလိုက်တာဝန်ရှိသူများနှင့် ဒေသခံများက ဝိုင်းဝန်းထိန်းသိမ်းဆောင်ရွက်ကြရန်လိုကြောင်း။
- အုပ်ချုပ်ရေးဆိုင်ရာ တာဝန်ရှိသူများအနေဖြင့် ဒေသဖွံ့ဖြိုးတိုးတက်ရေးနှင့် သာယာလှပရေးတို့အတွက် စည်းကမ်းပိုင်းဆိုင်ရာများကို ဥပဒေနှင့်အညီ တိကျစွာ ကိုင်တွယ်ဆောင်ရွက်ရန်လိုကြောင်း၊ ဒေသနှင့်တိုင်းပြည်၏ ရေရှည်အကျိုးကိုကြည့်၍ မိမိ၏ တာဝန်များကို ကျေပွန်အောင် တိတိကျကျဖြင့် အမုန်းခံ ဆောင်ရွက်သွားကြရန် လိုကြောင်း။

## နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီအစည်းအဝေး (၁/၂၀၂၃)တွင် ပြောကြားသည့် အမှာစကား (၂၃-၁-၂၀၂၃)

- မိမိတို့နိုင်ငံ၌ ၁၉၆၂ ခုနှစ်မှ ၁၉၈၈ ခုနှစ်အထိ ဗဟိုဦးစီးစနစ်၊ တစ်ပါတီစနစ်ဖြင့် သွားခဲ့ကြောင်း၊ ထို့ကြောင့် ဒီမိုကရေစီစနစ်ကို ဖော်ဆောင်ရာတွင် ၁၉၉၀ ပြည့်နှစ် ရွေးကောက်ပွဲဆောင်ရွက်ရန်အတွက် နိုင်ငံရေးပါတီများ မှတ်ပုံတင်ခြင်းဆောင်ရွက်ရာတွင် ပါတီစုံဒီမို

ကရေစီစနစ် အမြန်ဖြစ်ထွန်းနိုင်ရေး နိုင်ငံရေးပါတီများဖွဲ့စည်းခွင့်ကို လျှော့ပေါ့ပေး သကဲ့သို့ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီအစိုးရလက်ထက်တွင်လည်း နိုင်ငံသူ နိုင်ငံသားအားလုံး ဒီမိုကရေစီအတွေ့အကြုံကို ပိုမိုရရှိစေရန်အတွက် ပါတီများ မှတ်ပုံတင်ခြင်းဥပဒေနှင့်ပတ်သက်၍ လျှော့ပေါ့ဆောင်ရွက်ခဲ့ကြောင်း။

- ပါတီများအားလုံး ယခုထက်ပိုမို၍ ကျစ်လျစ်ခိုင်မာစွာ၊ စည်းစနစ်ကျစွာနှင့် ထုထည်ဖြင့် ဖွဲ့စည်းနိုင်ရန်လိုကြောင်း၊ နိုင်ငံရေးပါတီများ မှတ်ပုံတင်ခြင်းဥပဒေ ပြန်လည်သုံးသပ်ခြင်းများကို ပြင်ဆင်ပြဋ္ဌာန်းရန်လိုကြောင်း၊ ရှေ့လုပ်ငန်းစဉ်တွင်ပါရှိသည့်အတိုင်း ရွေးကောက်ပွဲကျင်းပနိုင်ရေးအတွက် နိုင်ငံရေးပါတီများ မှတ်ပုံတင်ခြင်းဥပဒေကို အတည်ပြုနိုင်ရန်အတွက် သုံးသပ်ဆွေးနွေး အကြံပြုကြစေလိုကြောင်း။
- ယနေ့အစည်းအဝေးသည် နိုင်ငံရေးပါတီများ၊ မှတ်ပုံတင်ခြင်းဥပဒေ ပြင်ဆင်ပြဋ္ဌာန်းနိုင်ရန် ကျင်းပပြုလုပ်ခဲ့ခြင်းဖြစ်ကြောင်း၊ ပါတီစုံဒီမိုကရေစီစနစ်ကို ကျင့်သုံးနေခြင်းဖြစ်သည့်အတွက် မည်သို့သောအခြေအနေရှိသည်ဖြစ်စေ၊ လွတ်လပ်၍ တရားမျှတသော ရွေးကောက်ပွဲကျင်းပနိုင်ရေး လုပ်ဆောင်ရမည်များကို ကြိုးပမ်းဆောင်ရွက်သွားရမည်ဖြစ်ကြောင်း။
- ပြည်သူများအားလုံး အကြားအလပ်မရှိ မဲပေးနိုင်ရန်လိုကြောင်း၊ ဆွေးနွေးပြီးသည့် EAOအဖွဲ့များနှင့်လည်း ပါတီစုံဒီမိုကရေစီစနစ်ခိုင်မာစေရေး၊ ဒီမိုကရေစီနှင့် ဖက်ဒရယ်စနစ်ကို အခြေခံသည့် ပြည်ထောင်စုစနစ်တည်ဆောက်ရေးကို မူအားဖြင့် သဘောတူညီမှုရရှိပြီးဖြစ်၍ နိုင်ငံအဝန်းအကြားအလပ်မရှိ ရွေးကောက်ပွဲကျင်းပနိုင်ရေး ပြည်သူအားလုံးခြိမ်းခြောက်မှု အကျပ်ကိုင်မှုမရှိဘဲ လွတ်လပ်စွာ ဆန္ဒဖော်ထုတ်မဲပေးနိုင်ရေး ဦးတည်ဆောင်ရွက်ရမည်ဖြစ်ကြောင်း။

## ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁/၂၀၂၃)တွင် ပြောကြားသည့် အမှာစကား (၂၇-၁-၂၀၂၃)

- မိမိတို့အတွက် အကြီးမားဆုံးစိန်ခေါ်မှုမှာ လျှပ်စစ်ဓာတ်အားလိုအပ်ချက်ဖြစ်ကြောင်း၊ ယခင်အစိုးရအဆက်ဆက်ကတည်းက ရေအားလျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးစီမံကိန်းများဖွံ့ဖြိုးတိုးတက်ရေးဆောင်ရွက်ခဲ့သော်လည်း အကြောင်းအမျိုးမျိုးကြောင့် အချို့စီမံကိန်းများ ဖျက်သိမ်းခံခဲ့ရကြောင်း၊ မိမိတို့အနေဖြင့် လျှပ်စစ်ဓာတ်အားများ လုံလောက်စွာ ထုတ်လုပ်ဆောင်ရွက်လျက်ရှိပြီး ၂၀၂၅ ခုနှစ်တွင် လျှပ်စစ်ဓာတ်အား လုံလောက်စွာ ရရှိနိုင်ရေး ရည်မှန်းချက်ထားဆောင်ရွက်လျက်ရှိကြောင်း၊ လျှပ်စစ်ဓာတ်အား လုံလောက်စွာရရှိမှသာ ကုန်ထုတ်လုပ်မှုလုပ်ငန်းများ၊ အများသုံးသယ်ယူပို့ဆောင်ရေးစနစ်များကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်မည်ဖြစ်ကြောင်း၊ သယ်ယူပို့ဆောင်ရေးလုပ်ငန်းများ၌ လျှပ်စစ်ဓာတ်အားများကို အသုံးပြုဆောင်ရွက်မည်ဆိုပါက စက်သုံးဆီသုံးစွဲမှုကို များစွာလျှော့ချနိုင်မည်ဖြစ်သောကြောင့် နိုင်ငံခြားငွေသုံးစွဲမှုများ လျော့ကျသွားမည်ဖြစ်ကြောင်း။

( ခ ) တစ်နိုင်ငံနှင့်တစ်နိုင်ငံ ကျူးကျော်တိုက်ခိုက်မှုမပြုလုပ်ရန်၊
To abide by mutual non–aggression.

( ဂ ) တစ်နိုင်ငံနှင့်တစ်နိုင်ငံ ပြည်တွင်းရေးကိစ္စများတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုလုပ်ရန်၊
Non–interference in each other’s internal affairs.

(ဃ) တစ်နိုင်ငံနှင့်တစ်နိုင်ငံ တန်းတူရည်တူရှိရန်နှင့် နှစ်ဦးနှစ်ဖက် အကျိုးဖြစ်ထွန်းရန်၊
Respect for mutual equality and to work for mutual benefit.

( င ) ငြိမ်းချမ်းစွာ အတူယှဉ်တွဲ နေထိုင်ရန်တို့ဖြစ်ပါသည်။
Peaceful co–existence.

မြန်မာနိုင်ငံသည် အထက်ပါ ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်ရေး အခြေခံမူကြီး(၅) ချက်ကိုကိုင်စွဲလျက် ကုလသမဂ္ဂအခြေခံမူများ၊ ရည်မှန်းချက်များနှင့်အညီ အောက်ပါအတိုင်း ဆောက်ရွက်ခဲ့ပါသည် –

(က) ကုလသမဂ္ဂ၏လှုပ်ရှားမှုများတွင် မိမိ၏အခြေခံမူနှင့်အညီ နိုးကြားတက်ကြွစွာ ပါဝင်လှုပ်ရှားခြင်း၊

( ခ ) လက်နက်ဖျက်သိမ်းရေးကို အစဉ်အားပေးထောက်ခံခြင်း၊

( ဂ ) လက်နက်အပြိုင်အဆိုင် ထုတ်လုပ်ရောင်းချမှုကို ဆန့်ကျင်ကန့်ကွက်ခြင်း၊

(ဃ) အမျိုးသားလွတ်မြောက်ရေး တိုက်ပွဲများကို အားပေးထောက်ခံခြင်း၊

( င ) နယ်ချဲ့ဝါဒီများ၏ ကျူးကျော်စွက်ဖက်မှုများကို ဆန့်ကျင်ကန့်ကွက်ခြင်း၊

( စ ) ကိုလိုနီစနစ်ဖျက်သိမ်းရေးကို အားပေးထောက်ခံခြင်း၊

(ဆ) ကိုလိုနီဝါဒ အသားအရောင်ခွဲခြားမှုနှင့် လူမျိုးခွဲခြားမှုစနစ်များကို ဆန့်ကျင်ကန့်ကွက်ခြင်း၊

( ဇ ) ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် ဆောင်ရွက်ချက်များကို အားပေးထောက်ခံခြင်း၊

(ဈ) နယ်ချဲ့ကျူးကျော်ရေးစစ်ပွဲများကို ဆန့်ကျင်ကန့်ကွက်ခြင်းတို့ ဆောင်ရွက်ခဲ့ပါသည်။

## ကမ္ဘာ့အဖွဲ့အစည်းများသို့ မြန်မာဝင်ရောက်ခဲ့သည့် ရက်စွဲများ

| | | |
|---|---|---|
| ၁။ | ကမ္ဘာ့စားနပ်ရိက္ခာနှင့်စိုက်ပျိုးရေးအဖွဲ့ (FAO) | ၁၁–၉–၁၉၄၇ |
| ၂။ | အပြည်ပြည်ဆိုင်ရာအလုပ်သမားအဖွဲ့ (ILO) | ၁၈–၅–၁၉၄၈ |
| ၃။ | ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (WHO) | ၁–၇–၁၉၄၈ |
| ၄။ | ကုန်သွယ်ရေးနှင့်စည်းကြပ်ခွန်အပေါ် အထွေထွေသဘောတူညီချက် | ၁၉၄၈ |
| ၅။ | အပြည်ပြည်ဆိုင်ရာကြေးနန်းဆက်သွယ်ရေးသမဂ္ဂ (ITU) | ၁–၁၀–၁၉၄၉ |
| ၆။ | ကုလသမဂ္ဂပညာရေး၊သိပ္ပံနှင့်ယဉ်ကျေးမှုအဖွဲ့ (UNESCO) | ၂၇–၆–၁၉၄၉ |

| | | |
|---|---|---|
| ၇။ | ကမ္ဘာ့မိုးလေဝသအဖွဲ့ (WMO) | ၁၉-၈-၁၉၄၉ |
| ၈။ | အပြည်ပြည်ဆိုင်ရာလေကြောင်းအဖွဲ့ (ICAO) | ၈-၇-၁၉၄၈ |
| ၉။ | ကမ္ဘာ့စာပို့လုပ်ငန်းသမဂ္ဂ (UPC) | ၄-၁၀-၁၉၄၉ |
| ၁၀။ | အပြည်ပြည်ဆိုင်ရာငွေကြေးရန်ပုံငွေအဖွဲ့ (IMF) | ၃-၁-၁၉၅၂ |
| ၁၁။ | ဘက်မလိုက်လှုပ်ရှားမှုအဖွဲ့ (NAMC) | ၂၉-၆-၁၉၅၄ |
| ၁၂။ | အပြည်ပြည်ဆိုင်ရာဘဏ္ဍာရေးကော်ပိုရေးရှင်းအဖွဲ့ (IFC) | ၃-၁၂-၁၉၅၆ |
| ၁၃။ | အပြည်ပြည်ဆိုင်ရာပြန်လည်တည်ဆောက်ရေးနှင့် ဖွံ့ဖြိုးရေးဘဏ် (IBRD) | ၃-၁-၁၉၅၂ |
| ၁၄။ | အပြည်ပြည်ဆိုင်ရာရေကြောင်းအဖွဲ့(IMO) | ၆-၇-၁၉၅၁ |
| ၁၅။ | အပြည်ပြည်ဆိုင်ရာအဏုမြူစွမ်းအင်အဖွဲ့(IAEA) | ၁၈-၁၀-၁၉၅၇ |
| ၁၆။ | အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးမှုအသင်း(IDA) | ၅-၁၁-၁၉၆၂ |
| ၁၇။ | ကုလသမဂ္ဂကုန်သွယ်ရေးနှင့်ဖွံ့ဖြိုးမှုညီလာခံ (UNCTAD) | ၃၀-၁၂-၁၉၆၄ |
| ၁၈။ | အပြည်ပြည်ဆိုင်ရာစိုက်ပျိုးရေးဖွံ့ဖြိုးမှုရန်ပုံငွေအဖွဲ့ (IFAD) | ၂၃-၁-၁၉၉၀ |
| ၁၉။ | ကုလသမဂ္ဂစက်မှုဖွံ့ဖြိုးရေးအဖွဲ့ (UNIDO) | ၁၂-၄-၁၉၉၀ |
| ၂၀။ | ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့ (WTO) | ၁-၁-၁၉၉၅ |
| ၂၁။ | အရှေ့တောင်အာရှနိုင်ငံများအသင်း (ASEAN) | ၂၃-၇-၁၉၉၇ |
| ၂၂။ | ဘင်းစ်တက်စီးပွားရေးပူးပေါင်းဆောင်ရွက်မှုအဖွဲ့ (BIMST-EC) | ၂၂-၁၂-၁၉၉၇ |
| ၂၃။ | ကမ္ဘာ့ဉာဏ်ရည်ဉာဏ်သွေးဆိုင်ရာအဖွဲ့အစည်း (WIPO) | ၁၅-၅-၂၀၀၁ |
| ၂၄။ | အပြည်ပြည်ဆိုင်ရာရွှေ့ပြောင်းအလုပ်သမားများအဖွဲ့အစည်း (၁၄၇)နိုင်ငံ(ION) | ၂၇-၁၀-၂၀၁၂ |
| ၂၅။ | နိုင်ငံတကာရွှေ့ပြောင်းသွားလာခြင်းဆိုင်ရာအဖွဲ့ (IOM) | ၂၇-၁၁-၂၀၁၂ |
| ၂၆။ | ဇီဝလက်နက်တားဆီးပိတ်ပင်ရေးစာချုပ်၏အဖွဲ့ဝင်နိုင်ငံ (၁၇၁) နိုင်ငံမြောက် | ၁-၁၂-၂၀၁၄ |

## နေစကြဝဠာအကြောင်း

နေသည် အနန္တစကြဝဠာကြီးအတွင်းတည်ရှိနေသော ကြယ်များအနက် တစ်လုံးဖြစ်သည်။ နေကိုကမ္ဘာအပါအဝင် ဂြိုဟ်ကြီးကိုးလုံးက (နောက်ပိုင်းတွင် ပလူတိုအား ဂြိုဟ်အဖြစ်မှ ပယ်ဖျက်ခဲ့သည်) မိမိတို့၏ ပတ်လမ်းကြောင်းများမှ လှည့်ပတ်နေသကဲ့သို့ နေသည်လည်း နဂါးငွေ့တန်းကြယ်စုကြီး၏ အလယ်ကိုဗဟိုပြု၍ လည်ပတ်နေသည်။

**နေ၏သက်တမ်း**

- နှစ်ပေါင်း ၄,၆၀၀,၀၀၀,၀၀၀ နှစ်။

**နေနှင့် ကမ္ဘာအကွာအဝေး**

- အနီးဆုံးအချိန်တွင် ၁၄၇,၁၀၀,၀၀၀ ကီလိုမီတာဝေးသည်။
- အဝေးဆုံးအချိန်တွင် ၁၅၂,၁၀၀,၀၀၀ ကီလိုမီတာဝေးသည်။

**နေ၏အပူချိန်**

- နေ၏မျက်နှာပြင်တွင် ၅,၅၀၀ ဒီဂရီစင်တီဂရိတ်
- နေ၏အတွင်းဘက်တွင် ၁၅,၀၀၀,၀၀၀ ဒီဂရီစင်တီဂရိတ်

**နေ၏ငင်းဝင်ရိုးပေါ်တွင်လည်ပတ်နှုန်း**

- တစ်လလျှင် တစ်ပတ်။

**နေ၏အချင်း**

- ၁,၃၉၂,၀၀၀ ကီလိုမီတာ (ကမ္ဘာ၏ ၁၀၉ဆ နီးပါးခန့်)

## ကမ္ဘာအကြောင်း

နေကိုလှည့်ပတ်နေသော ဂြိုဟ်များအနက် မာကျူရီနှင့် ဗီးနပ်စ်ဂြိုဟ်များပြီးလျှင် ကမ္ဘာသည် နေနှင့်တတိယအနီးဆုံးဖြစ်သည်။ နေစကြဝဠာအတွင်းရှိ ဂြိုဟ်များအနက် ပဉ္စမအကြီးဆုံးလည်း ဖြစ်သည်။ ကမ္ဘာ့မျက်နှာပြင်၏ ရာခိုင်နှုန်း ၇၀ မှာ ရေပြင်များဖြစ်ပြီး ရာခိုင်နှုန်း ၃၀မှာ ကုန်းမြေဖြစ်သည်။ ကမ္ဘာကြီးသည် ရွေ့လျားမှုသုံးမျိုးဖြင့်ရွေ့လျားနေသည် –

(၁) မိမိဝင်ရိုးပေါ်တွင် လည်ပတ်နေခြင်း၊

(၂) နေကို မိမိ၏ပတ်လမ်းကြောင်းဖြင့် လည်ပတ်နေခြင်း၊

(၃) အနန္တစကြာဝဠာ နဂါးငွေ့တန်းကြယ်စုကြီးအတွင်း နေစကြာဝဠာမှ နေနှင့်တကွ အခြားဂြိုဟ်များနှင့်အတူ ဖြတ်သန်းရွေ့လျားနေခြင်းတို့ ဖြစ်သည်။

### ကမ္ဘာ၏သက်တမ်း

- နှစ်ပေါင်းအနည်းဆုံး ၄ ဒသမ ၅ ဘီလီယံနှစ်ခန့်။

### ကမ္ဘာ၏အပူချိန်

- ပျမ်းမျှကမ္ဘာ့မျက်နှာပြင်အပူချိန်မှာ ၁၄ ဒီဂရီစင်တီဂရိတ်ဖြစ်သည်။

### ကမ္ဘာ၏ မိမိဝင်ရိုးပေါ်တွင်လည်ပတ်မှု

- ၂၃ နာရီ၊ ၅၆ မိနစ်၊ ၄.၀၉ စက္ကန့်လျှင် တစ်ပတ်နှုန်း။

### ကမ္ဘာ၏အချင်း

- ၁၂၇၁၃.၅၄ ကီလိုမီတာ

## လအကြောင်း

လသည် နေစကြာဝဠာအတွင်း ကမ္ဘာ၏အနီးဆုံးသော တစ်ခုတည်းဖြစ်သည့် အရန်လ ဖြစ်သည်။ လသည် ကိုယ်ပိုင်အလင်းရောင်မရှိဘဲ ကမ္ဘာကို ၂၇ ရက်၊ ၇ နာရီနှင့် ၄၃ မိနစ်တွင် တစ်ပတ်နှုန်းဖြင့် လှည့်ပတ်နေသည်။

### လ၏သက်တမ်း

- ၄,၆၀၀,၀၀၀,၀၀၀ (၄.၆ ဘီလီယံ)နှစ်ပေါင်း

### လ၏အချင်း

- ၃၄၇၆ ကီလိုမီတာ

### ကမ္ဘာနှင့် လအကွာအဝေး

- အနီးဆုံးအချိန်တွင် အကွာအဝေး ၃၅၆,၃၉၉ ကီလိုမီတာ
- အဝေးဆုံးအချိန်တွင် အကွာအဝေး ၄၀၆,၆၉၉ ကီလိုမီတာ

## ကမ္ဘာ့တိုက်ကြီးများ

### အာရှတိုက်

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၄၄၅၇၉၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၂၉ ဒသမ ၉ ရာခိုင်နှုန်း |

၃။ ပင်လယ်ရေမျက်နှာပြင် အမြင့်ဆုံးနေရာ = ဧဗရက်တောင်၊ တရုတ်နိုင်ငံ – နီပေါနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အထက် ၈၈၄၈မီတာ၊ ၂၉၀၂၉ ပေ)

၄။ ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ = ပင်လယ်ကမ်းခြေ၊ အစ္စရေးနိုင်ငံ – ဂျော်ဒန်နိုင်ငံ – ပါလက်စတိုင်းနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အောက် ၄၂၇ မီတာ၊ ၁၄၀၁ ပေ)

## အာဖရိကတိုက်

၁။ ဧရိယာ = ၃၀၃၇၀၀၀၀ စတုရန်းကီလိုမီတာ

၂။ ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ရာခိုင်နှုန်း = ၂၀ ဒသမ ၄ ရာခိုင်နှုန်း

၃။ ပင်လယ်ရေမျက်နှာပြင် အထက် အမြင့်ဆုံးနေရာ = ကီလီမန်ဂျာရိုတောင်၊ တန်ဇန်းနီးယားနိုင်ငံ၊ (ပင်လယ်ရေမျက်နှာပြင်အထက် ၅၈၉၅ မီတာ၊ ၁၉၃၄၁ ပေ)

၄။ ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ = အက်ဆယ်ရေကန်၊ ဂျီဘူတီနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အောက် ၁၅၅ မီတာ၊ ၅၀၉ ပေ)

## မြောက်အမေရိကတိုက်

၁။ ဧရိယာ = ၂၄၇၀၉၀၀၀ စတုရန်းကီလိုမီတာ

၂။ ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း = ၁၆ ဒသမ ၅ ရာခိုင်နှုန်း

၃။ ပင်လယ်ရေမျက်နှာပြင် အထက်အမြင့်ဆုံးနေရာ = ဒီနာလီတောင်၊ အလာစကာ ပြည်နယ်၊ အမေရိကန်ပြည်ထောင်စု၊(ပင်လယ်ရေမျက်နှာပြင် အထက် ၆၁၉၀ မီတာ၊ ၂၀၃၃၅ ပေ)

၄။ ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ = ဒက်သ်တောင်ကြား၊ ကာလီဖိုးနီးယား ပြည်နယ်၊ အမေရိကန်ပြည်ထောင်စု၊(ပင်လယ်ရေမျက်နှာပြင် အောက် ၈၆ မီတာ၊ ၂၈၂ ပေ)

## တောင်အမေရိကတိုက်

၁။ ဧရိယာ = ၁၇၈၄၀၀၀၀ စတုရန်းကီလိုမီတာ

၂။ ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း = ၁၂ ရာခိုင်နှုန်း

၃။ ပင်လယ်ရေမျက်နှာပြင် = အာကွန်ကာဂွါတောင်၊ အာဂျင်တီးနားနိုင်ငံ

| | | | |
|---|---|---|---|
| | အထက်အမြင့်ဆုံးနေရာ | | (ပင်လယ်ရေမျက်နှာပြင်အထက် ၆၉၆၀ မီတာ၊ ၂၂၈၃၀ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | လာဂူနာဒီကာဗွန်ကန်၊ အာဂျင်တီးနားနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အောက် ၁၀၅ မီတာ၊ ၃၄၄ ပေ) |

## အန္တာတိကတိုက်

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၁၄၀၀၀၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၉ ဒသမ ၃ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် အထက်အမြင့်ဆုံးနေရာ | = | ဗီဆင်မက်ဆစ်တောင် (ပင်လယ်ရေမျက်နှာပြင် အထက် ၄၈၉၂ မီတာ၊ ၁၆၀၅၀ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | ဗက်စ်ဖိုးတောင်၊ ရေနက်ကန်(ပင်လယ်ရေမျက်နှာ ပြင်အောက် ၅၀ မီတာ၊ ၁၆၀ ပေ) |

## ဥရောပတိုက်

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၁၀၁၈၀၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၆ ဒသမ ၈ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် အထက်အမြင့်ဆုံးနေရာ | = | အဲလ်ဘရုစ်တောင်ထိပ်၊ အယ်လ်ပိုင်း တောင်တန်း၊ ရုရှားနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အထက် ၅၆၄၂ မီတာ၊ ၁၈၅၁၀ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | ကက်စပီယံပင်လယ်၊ ရုရှားနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အောက် ၂၈ မီတာ၊ ၉၂ ပေ) |

## ဩစတြေးလျတိုက်

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၈၆၀၀၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၅ ဒသမ ၇ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် အထက်အမြင့်ဆုံးနေရာ | = | ပန်ကတ်ဂျာရာတောင်၊ ပါပူရာပြည်နယ်၊ အင်ဒိုနီးရှားနိုင်ငံ(ပင်လယ်ရေမျက်နှာပြင် အထက် ၄၈၈၄ မီတာ၊ ၁၆၀၂၄ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | အီရီကန် (ပင်လယ်ရေမျက်နှာပြင်အောက် ၁၅ မီတာ၊ ၄၉ ပေ) |

## ကမ္ဘာ့သဘာဝရေကန်ကြီးများ

| စဉ် | အမည် | တည်နေရာ | ဧရိယာ | |
|---|---|---|---|---|
| | | | စတုရန်းမိုင် | စတုရန်း ကီလိုမီတာ |
| ၁။ | ကက်စပီယံပင်လယ် | အရှေ့အလယ်ပိုင်း | ၁၄၉၂၀၀ | ၃၈၆၄၀၀ |
| ၂။ | ဆူပရီးယားရေကန် | ကနေဒါ-အမေရိကန် | ၃၁၇၀၀ | ၈၂၁၀၀ |
| ၃။ | ဗစ်တိုးရီးယားရေကန် | အရှေ့ပိုင်းအာဖရိက | ၂၆၈၂၈ | ၆၉၄၈၅ |
| ၄။ | ဟူရွန်ရေကန် | ကနေဒါ-အမေရိကန် | ၂၃၀၀၀ | ၅၉၆၀၀ |
| ၅။ | မီချီဂန်ရေကန် | အမေရိကန် | ၂၂၃၀၀ | ၅၇၈၀၀ |
| ၆။ | အေရယ်ပင်လယ် | ကာဇက်စတန်-ဥဇဘက်ကစ္စတန် | ၁၃၀၀၀ | ၃၃၈၀၀ |
| ၇။ | တန်ဂန်ယီကရေကန် | အရှေ့ပိုင်းအာဖရိက | ၁၂၇၀၀ | ၃၂၉၀၀ |
| ၈။ | ဂရိတ်ဘဲယားရေကန် | ကနေဒါအနောက်မြောက်ပိုင်းနယ်မြေများ | ၁၂၀၂၈ | ၃၁၁၅၃ |
| ၉။ | မာလာဝီရေကန် | အရှေ့ပိုင်းအာဖရိက | ၁၁၄၃၀ | ၂၉၆၀၄ |
| ၁၀။ | ဂရိတ်ဆလေ့ဗ်ရေကန် | ကနေဒါအနောက်မြောက်ပိုင်းနယ်မြေများ | ၁၁၀၃၁ | ၂၈၅၇၀ |

## နိုဘယ်ဆု (၆) မျိုး

၁။ ဆေးဝါးထူးချွန်ဆု
၂။ စာပေဆု
၃။ ရူပဗေဒထူးချွန်ဆု
၄။ ဓာတုဗေဒထူးချွန်ဆု
၅။ ငြိမ်းချမ်းရေးဆု
၆။ စီးပွားရေးသိပ္ပံထူးချွန်ဆု

## တစ်ကမ္ဘာလုံးဆိုင်ရာ ရေအရင်းအမြစ်ပိုင်ဆိုင်မှုအခြေအနေ(ထုထည်ပမာဏ)

**ကုဗကီလိုမီတာ**

| စဉ် | နိုင်ငံအမည် | သုံးစွဲနိုင်သော ရေ အရင်းအမြစ် | မြေအောက် ရေ အရင်းအမြစ် | မြေပြင်ပေါ်ရှိ ရေပမာဏ ရေအရင်း အမြစ် | ပြန်လည် ဖြည့်တင်းနိုင်သော ရေအရင်းအမြစ် |
|---|---|---|---|---|---|
| ၁။ | ဘရာဇီးလ် | ၅၄၁၈ | ၁၈၇၄ | ၅၄၁၈ | ၈၂၃၃ |
| ၂။ | ကနေဒါ | ၂၈၅၀ | ၃၇၀ | ၂၈၄၀ | ၄၁၀၀ |
| ၃။ | ရုရှား | ၄၃၁၃ | ၇၈၈ | ၄၀၃၇ | ၄၀၆၇ |
| ၄။ | အမေရိကန် | ၂၀၀၀ | ၁၃၀၀ | ၁၈၆၂ | ၃၀၆၉ |
| ၅။ | တရုတ်ပြည်သူ့ သမ္မတနိုင်ငံ | ၂၈၇၉ | ၈၃၃ | ၂၇၇၅ | ၂၈၄၀ |
| ၆။ | ကိုလံဘီယာ | ၂၁၁၂ | ၅၁၀ | ၂၁၁၂ | ၂၁၃၂ |
| ၇။ | အင်ဒိုနီးရှား | ၂၈၃၈ | ၄၅၅ | ၂၇၉၃ | ၂၀၁၉ |
| ၈။ | ပီရူး | ၁၆၁၆ | ၃၀၃ | ၁၆၁၆ | ၁၉၁၃ |
| ၉။ | အိန္ဒိယ | ၁၂၆၁ | ၄၁၉ | ၁၂၂၂ | ၁၉၁၁ |
| ၁၀။ | ကွန်ဂို | ၉၀၀ | ၄၂၁ | ၈၉၉ | ၁၂၈၃ |
| ၁၁။ | ဗင်နီဇွဲလား | ၇၂၃ | ၂၂၇ | ၇၀၀ | ၁၂၃၃ |
| ၁၂။ | ဘင်္ဂလားဒေ့ရှ် | ၁၀၅ | ၂၁ | ၈၄ | ၁၂၂၇ |
| ၁၃။ | မြန်မာ | ၈၈၁ | ၁၅၆ | ၈၇၅ | ၁၁၆၈ |

## ကမ္ဘာ့သမုဒ္ဒရာကြီးများ

| စဉ် | အမည် | ဧရိယာစတုရန်း ကီလိုမီတာ | ပျမ်းမျှအနက်(ပေ) |
|---|---|---|---|
| ၁။ | ပစိဖိတ်သမုဒ္ဒရာ | ၁၆၈၇၂၃၀၀၀ | ၃၅၈၂၇ |
| ၂။ | အတ္တလန္တိတ်သမုဒ္ဒရာ | ၈၅၁၃၃၀၀၀ | ၃၀၂၄၆ |
| ၃။ | အိန္ဒိယသမုဒ္ဒရာ | ၇၀၅၆၀၀၀၀ | ၂၄၄၆၀ |
| ၄။ | အာတိတ်သမုဒ္ဒရာ | ၁၅၅၅၈၀၀၀ | ၁၈၄၅၆ |

## ကမ္ဘာ့အရှည်ဆုံးမြစ်ကြီးများ

| စဉ် | အမည် | စီးဝင်ရာမြေပြင် | မြစ်အရှည်(မိုင်) |
|---|---|---|---|
| ၁။ | နိုင်းမြစ် | မြေထဲပင်လယ် | ၄၁၃၀ |
| ၂။ | အမေဇုံမြစ် | အတ္တလန္တိတ်သမုဒ္ဒရာ | ၃၉၇၆ |
| ၃။ | ယန်စီမြစ် | အရှေ့တရုတ်ပင်လယ် | ၃၉၁၇ |
| ၄။ | မစ္စစ္စပီမြစ် | မက္ကဆီကိုပင်လယ်ကွေ့ | ၃၉၀၂ |
| ၅။ | ယန်နီဆိုင်မြစ် | ကာရာပင်လယ် | ၃၄၄၅ |
| ၆။ | မြစ်ဝါမြစ် | ဘိုဟိုင်းပင်လယ် | ၃၃၉၅ |
| ၇။ | အော့ဘ်အီရောတစ်မြစ် | အော့ဘ်ပင်လယ်ကွေ့ | ၃၃၆၄ |
| ၈။ | ရီယိုဒီလာပလာတာမြစ် | အတ္တလန္တိတ်သမုဒ္ဒရာ | ၃၀၃၀ |
| ၉။ | ကွန်ဂိုမြစ် | အတ္တလန္တိတ်သမုဒ္ဒရာ | ၂၉၂၂ |
| ၁၀။ | အေမာမြစ် | အိုကာတ်စ်ပင်လယ် | ၂၇၆၃ |

## ကမ္ဘာ့အံ့ဖွယ်ခုနစ်ပါး

(က) ပီထရာရှေးဟောင်းယဉ်ကျေးမှုအဆောက်အအုံ (ဂျော်ဒန်နိုင်ငံ)
(ခ) မဟာတံတိုင်းကြီး (တရုတ်နိုင်ငံ)
(ဂ) ရီဒီမာယေရှုခရစ်တော်ရုပ်တု (ဘရာဇီးလ်နိုင်ငံ)
(ဃ) ချီချန်အီဇာအဆောက်အအုံ (မက္ကဆီကိုနိုင်ငံ)
(င) တာ့ချ်မဟာအဆောက်အအုံ (အိန္ဒိယနိုင်ငံ)
(စ) မာချူပီချူရှေးဟောင်းမြို့ (ပီရူးနိုင်ငံ)
(ဆ) ကိုလိုဆီယမ်ရှေးဟောင်းအားကစားရုံ (အီတလီနိုင်ငံ)

## ကမ္ဘာ့လူဦးရေစုစုပေါင်း

ကမ္ဘာ့လူဦးရေသည် ၂၀၂၃ ခုနှစ်တွင် ၈ ဘီလီယံကျော်ရှိနိုင်ပြီး ၂၁၀၀ ပြည့်နှစ်တွင် ၁၁ ဒသမ ၂ ဘီလီယံခန့်ရောက်ရှိနိုင်ကြောင်း ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့က ခန့်မှန်းထားသည်။

## ကမ္ဘာ့အကြီးဆုံး ရေချိုအိုင် (၁၀) ခု

| စဉ် | အမည် | အကျယ်အဝန်း (စတုရန်းမိုင်) | တည်နေရာ |
|---|---|---|---|
| ၁။ | ဆူပီးရီးယား (Lake Superior) | ၃၁,၇၀၀ | ကနေဒါ–အမေရိကန် |
| ၂။ | ဗစ်တိုးရီးယား (Lake Vicotria) | ၂၆,၅၉၀ | ကင်ညာ၊ ယူဂန္ဓာ၊ တန်ဇန်နီးယား |
| ၃။ | ဟူရွန် (Lake Huron) | ၂၃,၀၀၀ | အမေရိကန် |
| ၄။ | မီချီဂန် (Lake Michigan) | ၂၂,၀၀၀ | အမေရိကန် |
| ၅။ | တန်ဂါယီကာ (Lake Tanganyika) | ၁၂,၆၀၀ | ဘူရွန်ဒီ–တန်ဇန်နီးယား–ကွန်ဂို–ဇမ်ဘီယာ |
| ၆။ | ဘိုင်ကယ် (Lake Baikal) | ၁၂,၂၀၀ | ရုရှား |
| ၇။ | ဂရိတ်ဘဲယား (Great Bear Lake) | ၁၂,၀၀၀ | ကနေဒါ |
| ၈။ | မာလာဝီ (Lake Malawi) | ၁၁,၄၀၀ | မာလာဝီ–မိုဇမ်ဘစ်–တန်ဇန်းနီးယား |
| ၉။ | ဂရိတ်ဆလေ့ဗ် (Great Slave Lake) | ၁၀,၀၀၀ | ကနေဒါ |
| ၁၀။ | အီရိုင် (Lake Erie) | ၉,၉၀၀ | ကနေဒါ–အမေရိကန် |

## လူပြောအများဆုံး ကမ္ဘာ့ဘာသာစကားများ

၁။ အင်္ဂလိပ်
၂။ တရုတ်
၃။ ဟင်ဒီ
၄။ စပိန်
၅။ ပြင်သစ်
၆။ အာရဗီ
၇။ ဘင်္ဂါလီ
၈။ ပေါ်တူဂီ
၉။ ရုရှား
၁၀။ အူဒူ

# ကမ္ဘာ့အကြီးဆုံး သဲကန္တာရ (၁၀) ခု

| စဉ် | အမည် | တည်နေရာ | အကျယ်အဝန်း |
|---|---|---|---|
| ၁။ | အန္တာတိက ကန္တာရ | အန္တာတိက | ၁၄.၂ သန်း |
| ၂။ | အာတိတ် ကန္တာရ | အာတိတ်စက်ဝိုင်း | ၁၃.၉ သန်း |
| ၃။ | ဆာဟာရ ကန္တာရ | အာဖရိက | ၉.၁ သန်း |
| ၄။ | သြစတြေးလျ ကန္တာရ | အရှေ့အလယ်ပိုင်း | ၂.၇ သန်း |
| ၅။ | အာရေဗျ ကန္တာရ | အာရေဗျ | ၂.၃ သန်း |
| ၆။ | ဂိုဘီ ကန္တာရ | အရှေ့အာရှ | ၁.၃ သန်း |
| ၇။ | ကလာဟာရီ | တောင်အာဖရိက | ၉ သိန်းကျော် |
| ၈။ | ပန်တာဂိုးနီးယန်း | တောင်အမေရိက | ၆ သိန်းကျော် |
| ၉။ | ဆီးရီးယား | အရှေ့အလယ်ပိုင်း | ၅ သိန်းကျော် |
| ၁၀။ | ဂရိတ်ချိုင့်ဝှမ်း | အမေရိကန် | ၅ သိန်းခန့် |

# ကမ္ဘာ့လူဦးရေအများဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | လူဦးရေ |
|---|---|---|
| ၁။ | တရုတ် | ၁၄၆၃ သန်းခန့် |
| ၂။ | အိန္ဒိယ | ၁၄၃၆ သန်းခန့် |
| ၃။ | အမေရိကန် | ၃၃၉ သန်းခန့် |
| ၄။ | အင်ဒိုနီးရှား | ၂၈၄ သန်းကျော် |
| ၅။ | ပါကစ္စတန် | ၂၃၅ သန်းကျော် |
| ၆။ | နိုင်ဂျီးရီးယား | ၂၂၃ သန်းကျော် |
| ၇။ | ဘရာဇီးလ် | ၂၁၈ သန်းကျော် |
| ၈။ | ဘင်္ဂလားဒေ့ရှ် | ၁၇၁ သန်းကျော် |
| ၉။ | ရုရှား | ၁၄၆ သန်းကျော် |
| ၁၀။ | မက္ကဆီကို | ၁၃၄ သန်းကျော် |

## ကမ္ဘာ့လူဦးရေအနည်းဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | လူဦးရေ |
|---|---|---|
| ၁။ | ဗာတီကန်စီးတီး | ၇၉၉ |
| ၂။ | နော်ရူး | ၁၁၂၃၂ |
| ၃။ | တူဗာလူ | ၁၁၇၂၂ |
| ၄။ | ပလူး | ၂၂၉၂၇ |
| ၅။ | ဆန်မာရီနို | ၃၄၀၃၇ |
| ၆။ | လီချင်စတိန်း | ၃၉၁၃၅ |
| ၇။ | မိုနာကို | ၃၉၆၈၄ |
| ၈။ | မာရှယ်လ်ကျွန်းစု | ၅၃၃၂၇ |
| ၉။ | စိန့်ကစ်နှင့် နီဗစ် | ၅၇၇၁၃ |
| ၁၀။ | ဒိုမီနီကာ | ၇၅၇၄၈ |

## လူဦးရေအများဆုံးမြို့ကြီးများ

| အဆင့် | မြို့တော် | နိုင်ငံ | လူဦးရေ |
|---|---|---|---|
| ၁။ | တိုကျို | ဂျပန် | ၃၇ သန်းခန့် |
| ၂။ | နယူးဒေလီ | အိန္ဒိယ | ၃၂ သန်းကျော် |
| ၃။ | ရှန်ဟိုင်း | တရုတ် | ၂၉ သန်းခန့် |
| ၄။ | ဒါကာ | ဘင်္ဂလားဒေ့ရှ် | ၂၃ သန်းခန့် |
| ၅။ | ဆာပေါ်လို | ဘရာဇီးလ် | ၂၂ သန်းကျော် |
| ၆။ | မက္ကဆီကို | မက္ကဆီကို | ၂၂ သန်းခန့် |
| ၇။ | ကိုင်ရို | အီဂျစ် | ၂၂ သန်းခန့် |
| ၈။ | ဘေကျင်း | တရုတ် | ၂၁ သန်းကျော် |
| ၉။ | မွန်ဘိုင်း | အိန္ဒိယ | ၂၁ သန်းခန့် |
| ၁၀။ | အိုဆာကာ | ဂျပန် | ၁၉ သန်းခန့် |

## လူဦးရေအထူထပ်ဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | တစ်စတုရန်းကီလိုမီတာတွင် နေထိုင်သည့် လူဦးရေ |
|---|---|---|
| ၁။ | မိုနာကို | ၁၉၀၀၀ |
| ၂။ | စင်ကာပူ | ၇၅၀၀ |
| ၃။ | ဘာရိန်း | ၁၉၁၀ |
| ၄။ | ဘာတီကန်စီးတီး | ၁၈၀၀ |
| ၅။ | မော်လ်ဒိုက် | ၁၇၀၀ နှင့် ၁၈၀၀ ကြား |
| ၆။ | မော်လ်တာ | ၁၆၀၀ |
| ၇။ | ဘင်္ဂလားဒေ့ရှ် | ၁၁၀၀ |
| ၈။ | လက်ဘနွန် | ၆၀၀ နှင့် ၇၀၀ကြား |
| ၉။ | ဘာဘာဒို | ၆၅၀ |
| ၁၀။ | မောရေးရှပ်စ် | ၆၀၆ |

## လူဦးရေအကျဲဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | တစ်စတုရန်းကီလိုမီတာတွင် နေထိုင်သည့်ဦးရေ |
|---|---|---|
| ၁။ | ဂရင်းလန်း | ၀.၁၄ |
| ၂။ | ဖော့ကလန် | ၀.၃၁ |
| ၃။ | မွန်ဂိုလီးယား | ၂.၂၀ |
| ၄။ | အနောက်ဆာဟာရ | ၃ |
| ၅။ | နမ်မီးဘီးယား | ၃ |
| ၆။ | ဩစတြေးလျ | ၃.၄၂ |
| ၇။ | အိုက်စလန် | ၃.၆၄ |
| ၈။ | ပြင်သစ်ဂွါအာနာ | ၄ |
| ၉။ | ဆူရီနာမီ | ၄ |
| ၁၀။ | လစ်ဗျား | ၄ |

## မြေဧရိယာအကျယ်ဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | မြေပြင်ဧရိယာ(စတုရန်းကီလိုမီတာ) |
|---|---|---|
| ၁။ | ရုရှား | ၁၆၃၇၆၈၇၀ |
| ၂။ | ကနေဒါ | ၉၉၆၅၅၉၀ |
| ၃။ | တရုတ် | ၉၃၈၈၂၁၀ |
| ၄။ | အမေရိကန် | ၉၁၄၇၄၂၀ |
| ၅။ | ဘရာဇီးလ် | ၈၃၅၈၁၄၀ |
| ၆။ | ဩစတြေးလျ | ၇၆၈၂၃၀၀ |
| ၇။ | အိန္ဒိယ | ၂၉၇၃၁၉၀ |
| ၈။ | အာဂျင်တီးနား | ၂၇၃၆၆၉၀ |
| ၉။ | ကာဇက်စတန် | ၂၆၉၉၇၀၀ |
| ၁၀။ | အယ်လ်ဂျီးရီးယား | ၂၃၈၁၇၄၁ |

## မြေဧရိယာအကျဉ်းဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | မြေပြင်ဧရိယာ(စတုရန်းကီလိုမီတာ) |
|---|---|---|
| ၁။ | ဗာတီကန်စီးတီး | ၀.၄၄ |
| ၂။ | မိုနာကို | ၂.၀၃ |
| ၃။ | နော်ရူး | ၂၀ |
| ၄။ | တူဗာလူ | ၃၂.၉ |
| ၅။ | ဆန်မာရီနို | ၄၀ |
| ၆။ | လီချင်စတိန်း | ၅၄ |
| ၇။ | မာရှယ်လ်ကျွန်းစု | ၆၀ |
| ၈။ | စိန့်ကစ်နှင့်နီဗစ် | ၉၀ |
| ၉။ | မော်လ်ဒိုက် | ၁၀၀ |
| ၁၀။ | မော်လ်တာ | ၁၅၀ |

## ကမ္ဘာ့အချမ်းသာဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | ပိုင်ဆိုင်မှု(ဒေါ်လာ) |
|---|---|---|
| ၁။ | တရုတ် | ၁၁၃ ထရီလီယံခန့် |
| ၂။ | အမေရိကန် | ၅၀ ထရီလီယံခန့် |
| ၃။ | ဂျာမနီ | ၁၄ ထရီလီယံခန့် |
| ၄။ | ပြင်သစ် | ၁၄ ထရီလီယံခန့် |
| ၅။ | ဗြိတိန် | ၇ ထရီလီယံခန့် |
| ၆။ | ကနေဒါ | ၇ ထရီလီယံခန့် |
| ၇။ | ဩစတြေးလျ | ၇ ထရီလီယံခန့် |
| ၈။ | ဂျပန် | ၃ ထရီလီယံခန့် |
| ၉။ | မက္ကဆီကို | ၃ ထရီလီယံခန့် |
| ၁၀။ | ဆွီဒင် | ၂.၈ ထရီလီယံခန့် |

## တစ်ဦးချင်းဝင်ငွေ အမြင့်ဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | တစ်ဦးချင်းဝင်ငွေ (ဒေါ်လာ) |
|---|---|---|
| ၁။ | လူဇင်ဘတ် | ၁၄၁,၅၉၀ |
| ၂။ | စင်ကာပူ | ၁၃၁,၄၃၀ |
| ၃။ | အိုင်ယာလန် | ၁၄၁,၀၃၀ |
| ၄။ | ကာတာ | ၁၁၃,၆၇၀ |
| ၅။ | ဆွစ်ဇာလန် | ၈၄,၄၇၀ |
| ၆။ | နော်ဝေ | ၇၈,၁၃၀ |
| ၇။ | ယူအေအီး | ၇၇,၂၇၀ |
| ၈။ | အမေရိကန် | ၇၅,၁၈၀ |
| ၉။ | ဘရူနိုင်း | ၇၄,၂၀၀ |
| ၁၀။ | စန်မာရီနို | ၇၂,၀၇၀ |

## ကမ္ဘာ့အချမ်းသာဆုံးပုဂ္ဂိုလ် (၁၀) ဦး

| စဉ် | အမည် | နိုင်ငံ | ပိုင်ဆိုင်မှု |
|---|---|---|---|
| ၁။ | အယ်လွန်မက်စ်ခ် (Elon Musk) | အမေရိကန်နိုင်ငံ | ၂၃၃ ဘီလီယံဒေါ်လာခန့် |
| ၂။ | ဘားနက်အာနော့ (Bernard Arnault) | ပြင်သစ်နိုင်ငံ | ၂၂၂ ဘီလီယံဒေါ်လာခန့် |
| ၃။ | ဂျက်ဖ်လီဇော့စ် (Jeff Bezos) | အမေရိကန်နိုင်ငံ | ၁၆၂ ဘီလီယံဒေါ်လာခန့် |
| ၄။ | လာရီအဲလ်လီဆန် (Larry Ellison) | အမေရိကန်နိုင်ငံ | ၁၄၃ ဘီလီယံဒေါ်လာခန့် |
| ၅။ | ဘီလ်ဂိတ်စ် (Bill Gates) | အမေရိကန်နိုင်ငံ | ၁၁၇ ဘီလီယံဒေါ်လာခန့် |
| ၆။ | ဝါရင်ဘတ်ဖတ် (Warren Buffett) | အမေရိကန်နိုင်ငံ | ၁၁၇ ဘီလီယံဒေါ်လာခန့် |
| ၇။ | မခ်ဇူကာဘတ် (Mark Zuckerberg) | အမေရိကန်နိုင်ငံ | ၁၁၀ ဘီလီယံဒေါ်လာခန့် |
| ၈။ | လာရီပေ့ချ် (Larry Page) | အမေရိကန်နိုင်ငံ | ၁၀၈ ဘီလီဘံဒေါ်လာခန့် |
| ၉။ | ဆာဂေးဘာရင် (Sergey Brin) | အမေရိကန်နိုင်ငံ | ၁၀၃ ဘီလီယံဒေါ်လာခန့် |
| ၁၀။ | စတီဗ်ဘောလ်မာ (Steve Ballmer) | အမေရိကန်နိုင်ငံ | ၁၀၁ ဘီလီယံဒေါ်လာခန့် |

## ကမ္ဘာ့ထင်ရှားသောပင်လယ်များ

(က) မြေထဲပင်လယ် (အကြီးဆုံး)
(ခ) ပင်လယ်သေ (အသေးဆုံး)
(ဂ) ဟက်ဆမ်ပင်လယ် (အကျယ်ဆုံး)
(ဃ) အမေရိကန်ပင်လယ် (အနက်ဆုံး)
(င) ဘောလ်တစ်ပင်လယ် (အတိမ်ဆုံး)
(စ) ကက်စပီယံပင်လယ် (အကြီးဆုံးအိုင်)

## ၂၀၂၂-၂၀၂၃ ခုနှစ်အတွင်း ကမ္ဘာ့ဆန်တင်ပို့မှုအများဆုံး (၁၀) နိုင်ငံ

| စဉ် | နိုင်ငံ | ဆန်တင်ပို့မှု (၁၀၀၀ မက်ထရစ်တန်) |
|---|---|---|
| ၁။ | အိန္ဒိယနိုင်ငံ | ၂၁၅၀၀ ခန့် |
| ၂။ | ထိုင်းနိုင်ငံ | ၈၂၀၀ ခန့် |
| ၃။ | ဗီယက်နမ်နိုင်ငံ | ၆၈၀၀ ခန့် |
| ၄။ | ပါကစ္စတန်နိုင်ငံ | ၃၈၀၀ ခန့် |
| ၅။ | မြန်မာနိုင်ငံ | ၂၄၀၀ ခန့် |
| ၆။ | တရုတ်နိုင်ငံ | ၂၂၀၀ ခန့် |
| ၇။ | အမေရိကန်နိုင်ငံ | ၂၀၇၅ ခန့် |
| ၈။ | ကမ္ဘောဒီးယားနိုင်ငံ | ၁၆၀၀ ခန့် |
| ၉။ | ဘရာဇီးနိုင်ငံ | ၁၁၀၀ ခန့် |
| ၁၀။ | ဥရုဂွေးနိုင်ငံ | ၉၀၀ ခန့် |

## စကြာဝဠာဂြိုဟ်ကြီး (၈) လုံး

| စဉ် | အမည် | မြန်မာအခေါ် | အင်္ဂလိပ်အခေါ် | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ကမ္ဘာဂြိုဟ် | ကမ္ဘာ | Earth | သက်ရှိများနေထိုင်သော ဂြိုဟ် |
| ၂။ | အင်္ဂါဂြိုဟ် | မားစ် | Mars | အနီရောင်ဂြိုဟ် |
| ၃။ | ဗုဒ္ဓဟူးဂြိုဟ် | မာကျူရီ | Mercury | နေနှင့်အနီးဆုံးဂြိုဟ် |
| ၄။ | ကြာသပတေး | ဂျူပီတာ | Jupiter | အကြီးဆုံးဂြိုဟ် |
| ၅။ | သောကြာဂြိုဟ် | ဗီးနပ်စ် | Venus | အတောက်ပဆုံးဂြိုဟ် |
| ၆။ | စနေဂြိုဟ် | စေတန် | Saturn | အဝါရောင်ဂြိုဟ် |
| ၇။ | ယူရေးနပ်စ် | ယူရေးနပ်စ် | Uranus | ဝင်ရိုးပေါ် ပြောင်းပြန်လည် |
| ၈။ | နတ်ပ်ကျွန်း | နပ်ပကျွန်း | Neptune | အပြာရောင်ဂြိုဟ် |

## ကမ္ဘာ့အမြင့်ဆုံးရေတံခွန် (၅) ခု

(က) **အိန်ဂျယ်လ်(Angle Falls)ရေတံခွန်**
တည်ရှိသည့်နေရာ - ဗင်နီဇွဲလားနိုင်ငံ
အမြင့် - ၃၂၁၂ ပေ

( ခ ) **တူဂယ်လာ(Tugela Falls)ရေတံခွန်**
တည်ရှိသည့်နေရာ - တောင်အာဖရိကနိုင်ငံ
အမြင့် - ၃၁၁၀ ပေ

( ဂ ) **ထရီစ်ဖာမန်နက်စ်(Tres Hermans)ရေတံခွန်**
တည်ရှိသည့်နေရာ - ပီရူးနိုင်ငံ
အမြင့် - ၂၉၉၉ ပေ

(ဃ) **အိုလိုအူပန်နာ(Olo'upena Falls)ရေတံခွန်**
တည်ရှိသည့်နေရာ - အမေရိကန်နိုင်ငံ
အမြင့် - ၂၉၅၃ ပေ

( င ) **ယွမ်ဘီလာ(Yumbilla Falls)ရေတံခွန်**
တည်ရှိသည့်နေရာ - ပီရူးနိုင်ငံ
အမြင့် - ၂၉၄၀ ပေ

## ကမ္ဘာ့အကြီးဆုံးနှင့် အလှဆုံးရေတံခွန် (၅) ခု

(က) **အိန်ဂျယ်လ် (Angle Falls) ရေတံခွန်**
တည်ရှိသည့်နေရာ - ဗင်နီဇွဲလားနိုင်ငံ
အမြင့် - ၃၂၁၂ ပေ

( ခ ) **အိုလိုအူပန်နာ (Olo'upena Falls) ရေတံခွန်**
တည်ရှိသည့်နေရာ - အမေရိကန်နိုင်ငံ
အမြင့် - ၂၉၅၃ ပေ

( ဂ ) **ဗစ်တိုးရီးယား (Victoria Falls) ရေတံခွန်**
တည်ရှိသည့်နေရာ - ဇင်ဘာဘွေနိုင်ငံ
အမြင့် - ၃၅၄ ပေ

(ဃ) **အိဂွာဇူ (Lguazu Falls) ရေတံခွန်**
တည်ရှိသည့်နေရာ - အာဂျင်တီးနားနှင့် ဘရာဇီးလ်နိုင်ငံကြား
အမြင့် - ၂၆၉ ပေ

( င ) **နိုင်ဂါရာ (Niagara Falls) ရေတံခွန်**
တည်ရှိသည့်နေရာ - ကနေဒါနိုင်ငံ
အမြင့် - ၁၆၇ ပေ

## ကမ္ဘာပေါ်တွင်တိုက်ခတ်လျက်ရှိသော မုန်တိုင်းအမျိုးအစားများ

| စဉ် | ဖြစ်ပေါ်ရာနေရာဒေသ | မုန်တိုင်းအမျိုးအစား |
|---|---|---|
| ၁။ | အိန္ဒိယသမုဒ္ဒရာ | ဆူနာမီ |
| ၂။ | ပစိဖိတ်နှင့်အတ္တလန္တိတ်သမုဒ္ဒရာ | ဟာရီကိန်း |
| ၃။ | တောင်တရုတ်ပင်လယ် | တိုင်ဖွန်း |
| ၄။ | ဘင်္ဂလားပင်လယ်အော် | ဆိုင်ကလုန်း |

## ကမ္ဘာ့ရေနံ တင်ပို့မှုအများဆုံးနိုင်ငံ

၁။ ဆော်ဒီအာရေဗျနိုင်ငံ
၂။ ရုရှားနိုင်ငံ
၃။ ကနေဒါနိုင်ငံ
၄။ အီရတ်နိုင်ငံ
၅။ အမေရိကန်နိုင်ငံ
၆။ ယူအေအီးနိုင်ငံ
၇။ နိုင်ဂျီးရီးယားနိုင်ငံ
၈။ နော်ဝေးနိုင်ငံ
၉။ ကူဝိတ်နိုင်ငံ
၁၀။ ဘရာဇီးလ်နိုင်ငံ

## ကမ္ဘာ့ရေနံစိမ်း အများဆုံးတင်သွင်းသောနိုင်ငံ

၁။ အမေရိကန်နိုင်ငံ
၂။ တရုတ်နိုင်ငံ
၃။ အိန္ဒိယနိုင်ငံ
၄။ ဂျပန်နိုင်ငံ
၅။ တောင်ကိုရီးယားနိုင်ငံ
၆။ ဂျာမနီနိုင်ငံ
၇။ အီတလီနိုင်ငံ
၈။ စပိန်နိုင်ငံ
၉။ ပြင်သစ်နိုင်ငံ
၁၀။ နယ်သာလန်နိုင်ငံ

## ကမ္ဘာ့ရေနံ အကြွယ်ဝဆုံးနိုင်ငံများ

၁။ ဗင်နီဇွဲလားနိုင်ငံ
၂။ ဆော်ဒီအာရေဗျနိုင်ငံ
၃။ ကနေဒါနိုင်ငံ
၄။ အီရန်နိုင်ငံ
၅။ အီရတ်နိုင်ငံ
၆။ ရုရှားနိုင်ငံ
၇။ ကူဝိတ်နိုင်ငံ
၈။ ယူအေအီးနိုင်ငံ
၉။ အမေရိကန်နိုင်ငံ
၁၀။ လစ်ဗျားနိုင်ငံ

## ကမ္ဘာ့စာတတ်မြောက်မှုအမြင့်ဆုံး (၁၀) နိုင်ငံ

၁။ ဥဇဘက်ကစ္စတန်နိုင်ငံ (99.99)%
၂။ ယူကရိန်းနိုင်ငံ (99.97)%
၃။ ဆန်မာရီနိုနိုင်ငံ (99.92)%
၄။ လတ်ဗီးယားနိုင်ငံ (99.89)%
၅။ အက်စ်တိုးနီးယားနိုင်ငံ (99.89)%
၆။ ချက်သမ္မတနိုင်ငံ (99.83)%
၇။ လစ်သူရေးနီးယားနိုင်ငံ (99.82)%
၈။ တာဂျစ္စတန်နိုင်ငံ (99.80)%
၉။ အဇာဘိုင်ဂျန်နိုင်ငံ (99.79)%
၁၀။ ကာဇက်စတန်နိုင်ငံ (99.78)%

## ကမ္ဘာ့စာတတ်မြောက်မှုအနိမ့်ဆုံး (၁၀) နိုင်ငံ

၁။ ချဒ်နိုင်ငံ (22.31)%
၂။ ဂီနီနိုင်ငံ (32)%
၃။ တောင်ဆူဒန်နိုင်ငံ (34.52)%
၄။ နိုင်ဂျာနိုင်ငံ (35.05)%
၅။ မာလီနိုင်ငံ (35.47)%
၆။ ဗဟိုအာဖရိကနိုင်ငံ (37.40)%
၇။ ဘာကီနာဖာဆိုနိုင်ငံ (41.22)%
၈။ ဘီနင်နိုင်ငံ (42.36)%
၉။ အာဖဂန်နစ္စတန်နိုင်ငံ (43.02)%
၁၀။ ဆီယာလီယွန်နိုင်ငံ (43.21)%

## ကမ္ဘာ့အကြီးဆုံး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဒေသ (၁၀) ခု

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဒေသတွင် ဂေဟစနစ်ဆိုင်ရာ သဘာဝပတ်ဝန်းကျင်နှင့် သို့မဟုတ် ယဉ်ကျေးမှုဆိုင်ရာ တန်ဖိုးများ မပျက်စီးအောင် ထိန်းသိမ်းခြင်းခံထားရသည့် သီးခြားသတ်မှတ်ထားသောဒေသဖြစ်သည်။ အစိုးရများသည် ယင်းဒေသများအား လူတို့၏ စီမံခန့်ခွဲမှုတတ်နိုင်သမျှ အနည်းဆုံးနှင့် သဘာဝအတိုင်း ဆက်လက်လည်ပတ်နေစေရန် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်သူများနှင့် ပူးပေါင်းလုပ်ဆောင်ကြသည်။ ဘေးမဲ့ဒေသအများအပြား ထိန်းသိမ်းထားခြင်းအားဖြင့် ဇီဝမျိုးစိတ်များ မျိုးသုဉ်းပျောက်ကွယ်မှုမှ ရပ်တန့် သို့မဟုတ် လျော့နည်းစေသည်။ လက်ရှိအချိန်၌ ကမ္ဘာကြီး၏ (ကုန်းမြေနှင့်ရေထု အပါအဝင်) ၁၀ မှ ၁၅ ရာခိုင်နှုန်းရှိသည့် ဘေးမဲ့ဒေသ ၁၆၀၀၀၀ ကျော်ရှိသည်။

### ၁။ ဝရန်းဂဲလ်-စိန့်အီလီယက်စ် အမျိုးသားဥယျာဉ်

၅၃၃၂၁ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ အလာစကာတောင်ပိုင်းတွင် တည်ရှိသည့် အဆိုပါ အမေရိကန် အမျိုးသားဥယျာဉ်သည် ကုလသမဂ္ဂပညာရေး၊ သိပ္ပံနှင့်ယဉ်ကျေးမှုအဖွဲ့ (ယူနက်စကို)၏ ကမ္ဘာ့အမွေအနှစ်ဒေသတစ်ခုအဖြစ်လည်း သတ်မှတ်ခံထားရသည်။ နိုင်ငံတကာဆိုင်ရာ လေထုထိန်းသိမ်းရေးတွင်လည်း ပါဝင်သည်။ အမေရိကန်ပြည်ထောင်စုတွင်

အကြီးဆုံးအမျိုးသားဥယျာဉ်ဖြစ်ပြီး ပြည်နယ်ကိုးခုထက်ပင် ကြီးမားသည်။ ယင်းဥယျာဉ် အတွင်းတွင်တည်ရှိသည့်စိန့်အီလီယက်စ်တောင်သည်ကနေဒါနှင့်အမေရိကန်ပြည်ထောင်စု၌ ဒုတိယအမြင့်ဆုံးတောင်ဖြစ်ပြီး အမေရိကန်ရှိ အမြင့်ဆုံးတောင် ၁၆ လုံးအနက် ကိုးလုံးမှာ ယင်းဥယျာဉ်တွင် တည်ရှိသည်။

## ၂။ အဲယားနှင့် တီရီသဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဒေသ

၇၇၃၆၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ နိုင်ဂျာနိုင်ငံတွင် တည်ရှိသည့် အဆိုပါ ဒေသသည် ယူနက်စကိုကမ္ဘာ့အမွေအနှစ်ဒေသအဖြစ် သတ်မှတ်ခံထားရသည်။ အဆိုပါ ဒေသသည် အဲယားတောင်တန်းအရှေ့ဘက်ပိုင်းတစ်ဝက်နှင့် တီနီရီကန္တာရ၏ အနောက်ပိုင်း ဒေသများလည်း ပါဝင်သည်။ ယင်းဒေသတွင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးပိုင်းနှင့် တောရိုင်းတိရစ္ဆာန် ကန့်သတ်ထိန်းသိမ်းရေးပိုင်းဟူ၍ နှစ်ပိုင်းပါဝင်သည်။

## ၃။ ဂရိတ်လင်မ်ပိုပို နယ်စပ်ဖြတ်ကျော်ထိန်းသိမ်းရေးဒေသ

၉၉၈၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ အစဉ်ကြီးထွားနေသည့် အဆိုပါ ငြိမ်းချမ်းရေးဥယျာဉ်သည် မိုဇမ်ဘစ်၊ တောင်အာဖရိကနှင့် ဇင်ဘာဘွေနိုင်ငံတို့၏ ကုန်းမြေများပါဝင်ပြီး ဘန်ဟိုင်းအမျိုးသားဥယျာဉ်၊ ခရူဂါအမျိုးသားဥယျာဉ်နှင့် လင်မ်ပိုပို အမျိုးသားဥယျာဉ်အပါအဝင် အမျိုးသားဥယျာဉ် ၁၀ ခု ပေါင်းစပ်ဖွဲ့စည်းထားရာဒေသ ဖြစ်သည်။ အာဖရိကဆင်များ၊ သစ်ကုလားအုပ်များ၊ အာဖရိကကျားသစ်၊ သစ်ကျုတ်၊ ခွေးအ၊ ကျားများနှင့် အခြား တောရိုင်းတိရစ္ဆာန်များ ကျက်စားရာဒေသဖြစ်သည်။

## ၄။ ဂါလာပါဂို့စ် ပင်လယ်ပြင်ထိန်းသိမ်းရေးဒေသ

၁၃၃၀၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ ဂါလာပါဂို့ကျွန်းစုသည် အီကွေဒေါ ကမ်းရိုးတန်းနှင့် ၁၀၀၀ ကီလိုမီတာ အကွာတွင်တည်ရှိသည်။ ဂါလာပါဂိုစ့် ပင်လယ်ပြင် ထိန်းသိမ်းရေးဒေသသည် ဖွံ့ဖြိုးဆဲနိုင်ငံများတွင် အကြီးဆုံးပင်လယ်ပြင်ထိန်းသိမ်းရေး ဒေသအဖြစ် ကမ္ဘာပေါ်တွင် ဒုတိယအကြီးဆုံးဖြစ်သည်။ ယင်းဒေသသည် ငမန်း၊ ဝေလငါး၊ လိပ်၊ ငါးနှင့် ငါးလိပ်ကျောက်မျိုးအပါအဝင် အဏ္ဏဝါသက်ရှိမျိုးစိတ် အများအပြား ကျင်လည် ကျက်စားရာဒေသဖြစ်သည်။ ပင်လယ်ရေ ရေပူ၊ ရေနွေးစီးကြောင်းများ၊ ရေချိုနှင့် ပင်လယ် ရေငန်များ ရောနှောစီးဆင်းရာဒေသဖြစ်ခြင်းကြောင့် ယင်းဒေသတွင် ထူးခြားသော မျိုးစိတ် အများအပြားရှိသည်။ ချားစ်ဒါဝင်သည် ၎င်း၏ဆင့်ကဲဖြစ်စဉ်သီအိုရီအတွက် မျိုးစိတ်အများ အပြားကို ဤဒေသတွင် လေ့လာခဲ့သည်။

## ၅။ ခါဗန်ဂို-ဇမ်ဘီဇီနယ်စပ်ဖြတ်ကျော် ထိန်းသိမ်းရေးဒေသ

၂၈၇၁၃၂ ကီလိုမီတာ ကျယ်ဝန်းသည်။ အာဖရိကန်ကုန်းမြေပေါ်ရှိ အန်ဂိုလာ၊ ဇမ်ဘီယာ၊ ဘော့ဆွာနာ၊ နမ်မီးဘီးယားနှင့်ဇင်ဘာဘွေနိုင်ငံတို့၏ ကုန်းမြေများ ပါဝင်သည့် ဒေသဖြစ်

သည်။ ချိဘီအမျိုးသားဥယျာဉ် ဟွမ်ဂီအမျိုးသားဥယျာဉ်၊ အိုကာဗန်ဂိုမြစ်ဝကျွန်းပေါ်နှင့် ဗစ်တိုးရီးယားရေတံခွန်တို့ ပါဝင်သည့် အမျိုးသားဥယျာဉ်အများအပြား ပေါင်းစပ်ထားသည့် ထိန်းသိမ်းရေးဒေသဖြစ်သည်။

**၆။ သန္တာကျောက်တန်း အဏ္ဏဝါဒေသ**

၃၄၅၄၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ ယင်းသန္တာကျောက်တန်းဥယျာဉ်တွင် ကမ္ဘာပေါ်ရှိ အကြီးဆုံးသန္တာကျောက်တန်း အစုအဝေးကြီးပါဝင်ပြီး ထူးခြားဆန်းပြားသော အဏ္ဏဝါသက်ရှိမျိုးစိတ်များ ကျင်လည်ရာဒေသဖြစ်သည်။ ဩစတြေးလျ၏သန္တာကျောက်တန်း ကြီးများ ပျက်စီးဆုံးရှုံးခြင်းမှ ကာကွယ်ရန် ယင်းဒေသကို တည်ထောင်ခဲ့ခြင်းဖြစ်သည်။

**၇။ ပါဝါပန်နော်မိုကွာကီယာ အဏ္ဏဝါအမျိုးသား အထိမ်းအမှတ်ဒေသ**

၁၆၀၀၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ အဆိုပါ ကမ္ဘာ့အမွေအနှစ် စာရင်းဝင် ထိန်းသိမ်းရေးဒေသသည် ဟာဝိုင်ယီပြည်နယ်ရှိ အမေရိကန်အမျိုးသားအထိမ်းအမှတ် ဒေသ ဖြစ်သည်။ ကျွန်းစု ၁၀ ခုနှင့် အနောက်မြောက် ဟာဝိုင်ယီကျွန်းစု၏ အလယ်၌ ရေငန်အိုင်ရှိ သန္တာကျောက်ကျွန်းတို့ဖြင့် ဖွဲ့စည်းထားသည်။ ရှားပါးဟာဝိုင်ယီပင်လယ်ဖျံမျိုး အပါအဝင် သက်ရှိမျိုးစိတ် ၇၀၀၀ ခန့် ကျင်လည်ရာဒေသဖြစ်သည်။

**၈။ ဖီးနစ်ကျွန်းစု ထိန်းသိမ်းရေးဒေသ**

၄၀၈၂၅၀ ကီလိုမီတာ ကျယ်ဝန်းသည်။ ကီရီဘာတ်တီနိုင်ငံတွင် တည်ရှိသည့် အဆိုပါ ဒေသသည် ပစိဖိတ်သမုဒ္ဒရာတွင် အကြီးဆုံးအဏ္ဏဝါပြင် ထိန်းသိမ်းရေးဒေသဖြစ်ပြီး ကမ္ဘာ့ ပထမဆုံးရေနက်ပိုင်း၊ သမုဒ္ဒရာအလယ်ပိုင်းထိန်းသိမ်းရေးဒေသ ဖြစ်သည်။ ၁၉၃၇ ခုနှစ် ယင်းကျွန်းစုတစ်ခုပေါ်တွင် လေယာဉ်ပျက်ကျရာမှ လေယာဉ်မှူး အမ်မလီယာအားဟတ် ပျောက်ဆုံးသည်ဟူသော ကောလာဟလများ ရှိသည်။

**၉။ ချာဂိုစ့်အဏ္ဏဝါပြင် ကာကွယ်ထိန်းသိမ်းရေးဒေသ**

၅၄၅၀၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ ဗြိတိန်-အိန္ဒိယ သမုဒ္ဒရာပိုင်နက် နယ်မြေတွင်တည်ရှိသည့် အဆိုပါဒေသသည် ကမ္ဘာပေါ်တွင် အကြီးဆုံးအဏ္ဏဝါပြင် ကာကွယ် ထိန်းသိမ်းရေးဒေသ ဖြစ်သည်။ ပြင်သစ်နိုင်ငံထက်ပင်ကြီးမားပြီး မော်လ်ဒိုက်နိုင်ငံ တောင်ဘက် ကီလိုမီတာ ၅၀၀ အကွာတွင် တည်ရှိသည်။ ချာဂိုစ့်ကျွန်းစု ၇ ခုသည် ဇီဝမျိုးကွဲများ ကြွယ်ဝပြီး ရင်သပ်ရှုမောဖွယ် ဒေသတစ်ခုဖြစ်သည်။

**၁၀။ အရှေ့မြောက် ဂရင်းလန်း အမျိုးသားအထိမ်းအမှတ်ဒေသ**

၉၇၂၀၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းပြီး ဝင်ရိုးစွန်းဝက်ဝံများ၊ အစွယ်ရှိ ပင်လယ် ဖျံမျိုးများ၊ အာတိတ်မြေခွေး၊ နှင်းဇီးကွက်များနှင့် အခြားသက်ရှိမျိုးစိတ်များ ကျက်စားရာ ဒေသဖြစ်သည်။ အရှေ့မြောက်ဂရင်းလန်သည် ကမ္ဘာပေါ်တွင် မြောက်ဘက်ပိုင်း အကျဆုံး အထိမ်းအမှတ်ဒေသဖြစ်သည်။

## ကျင်းပပြီး အရှေ့တောင်အာရှ အားကစားပြိုင်ပွဲများတွင် နိုင်ငံအလိုက်အဆင့်နှင့် ဆုတံဆိပ်ရရှိမှုများ

| ခုနှစ် | အကြိမ် | အိမ်ရှင်နိုင်ငံ | ပထမ (ရွှေ) | ဒုတိယ (ရွှေ) | တတိယ (ရွှေ) | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁၉၅၉ | ၁ | ထိုင်း | ထိုင်း(၃၅) | မြန်မာ(၁၁) | မလေးရှား(၈) | မြန်မာ ဒုတိယ |
| ၁၉၆၁ | ၂ | မြန်မာ | မြန်မာ(၃၅) | ထိုင်း(၂၁) | မလေးရှား(၁၆) | မြန်မာပထမ |
| ၁၉၆၅ | ၃ | မလေးရှား | ထိုင်း(၃၈) | မလေးရှား(၃၃) | စင်ကာပူ(၂၆) | |
| ၁၉၆၇ | ၄ | ထိုင်း | ထိုင်း(၇၇) | စင်ကာပူ(၂၈) | မလေးရှား(၂၃) | |
| ၁၉၆၉ | ၅ | မြန်မာ | မြန်မာ(၅၇) | ထိုင်း(၃၂) | စင်ကာပူ(၃၁) | မြန်မာပထမ |
| ၁၉၇၁ | ၆ | မလေးရှား | ထိုင်း(၄၄) | မလေးရှား(၄၁) | စင်ကာပူ(၃၂) | |
| ၁၉၇၃ | ၇ | စင်ကာပူ | ထိုင်း(၄၇) | စင်ကာပူ(၄၅) | မလေးရှား(၃၀) | |
| ၁၉၇၅ | ၈ | ထိုင်း | ထိုင်း(၈၀) | စင်ကာပူ(၃၈) | မြန်မာ (၂၈) | မြန်မာ တတိယ |
| ၁၉၇၇ | ၉ | မလေးရှား | အင်ဒိုနီးရှား(၆၂) | ထိုင်း (၃၇) | ဖိလစ်ပိုင် (၃၁) | |
| ၁၉၇၉ | ၁၀ | အင်ဒိုနီးရှား | အင်ဒိုနီးရှား(၉၂) | ထိုင်း (၅၀) | မြန်မာ(၂၅) | မြန်မာ တတိယ |
| ၁၉၈၁ | ၁၁ | ဖိလစ်ပိုင် | အင်ဒိုနီးရှား(၈၅) | ထိုင်း (၆၂) | ဖိလစ်ပိုင်(၅၅) | |
| ၁၉၈၃ | ၁၂ | စင်ကာပူ | အင်ဒိုနီးရှား(၆၄) | ဖိလစ်ပိုင် (၄၉) | ထိုင်း(၄၉) | |
| ၁၉၈၅ | ၁၃ | ထိုင်း | ထိုင်း(၉၂) | အင်ဒိုနီးရှား(၆၂) | ဖိလစ်ပိုင်(၄၃) | |
| ၁၉၈၇ | ၁၄ | အင်ဒိုနီးရှား | အင်ဒိုနီးရှား(၁၈၃) | ထိုင်း(၆၃) | ဖိလစ်ပိုင်(၅၉) | |

| ခုနှစ် | အကြိမ် | အိမ်ရှင်နိုင်ငံ | ပထမ (ရွှေ) | ဒုတိယ (ငွေ) | တတိယ (ကြေး) | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁၉၈၉ | ၁၅ | မလေးရှား | အင်ဒိုနီးရှား(၁၀၂) | မလေးရှား(၆၇) | ထိုင်း(၆၂) | |
| ၁၉၉၁ | ၁၆ | ဖိလစ်ပိုင် | အင်ဒိုနီးရှား(၉၂) | ဖိလစ်ပိုင်(၉၁) | ထိုင်း(၇၂) | |
| ၁၉၉၃ | ၁၇ | စင်ကာပူ | အင်ဒိုနီးရှား(၈၈) | ထိုင်း(၆၃) | ဖိလစ်ပိုင်(၅၇) | |
| ၁၉၉၅ | ၁၈ | ထိုင်း | ထိုင်း(၁၅၇) | အင်ဒိုနီးရှား(၇၇) | ဖိလစ်ပိုင်(၃၃) | |
| ၁၉၉၇ | ၁၉ | အင်ဒိုနီးရှား | အင်ဒိုနီးရှား(၁၉၄) | ထိုင်း(၈၃) | မလေးရှား(၅၅) | |
| ၁၉၉၉ | ၂၀ | ဘရူနိုင်း | ထိုင်း(၆၅) | မလေးရှား(၅၇) | အင်ဒိုနီးရှား(၄၄) | |
| ၂၀၀၁ | ၂၁ | မလေးရှား | မလေးရှား(၁၁၁) | ထိုင်း(၁၀၃) | အင်ဒိုနီးရှား(၇၂) | |
| ၂၀၀၃ | ၂၂ | ဗီယက်နမ် | ဗီယက်နမ်(၁၅၈) | ထိုင်း(၉၀) | အင်ဒိုနီးရှား(၅၅) | |
| ၁၉၈၉ | ၁၅ | မလေးရှား | အင်ဒိုနီးရှား(၁၀၂) | မလေးရှား(၆၇) | ထိုင်း(၆၂) | |
| ၂၀၀၅ | ၂၃ | ဖိလစ်ပိုင် | ဖိလစ်ပိုင်(၁၁၃) | ထိုင်း(၈၇) | ဗီယက်နမ်(၇၁) | |
| ၂၀၀၇ | ၂၄ | ထိုင်း | ထိုင်း(၁၈၃) | မလေးရှား(၆၈) | ဗီယက်နမ်(၆၄) | |
| ၂၀၀၉ | ၂၅ | လာအို | ထိုင်း(၈၆) | ဗီယက်နမ်(၈၃) | အင်ဒိုနီးရှား(၄၃) | |
| ၂၀၁၁ | ၂၆ | အင်ဒိုနီးရှား | အင်ဒိုနီးရှား(၁၈၂) | ထိုင်း(၁၀၉) | ဗီယက်နမ်(၉၆) | |
| ၂၀၁၃ | ၂၇ | မြန်မာ | ထိုင်း(၁၀၈) | မြန်မာ(၈၄) | ဗီယက်နမ်(၇၄) | မြန်မာဒုတိယ |
| ၂၀၁၅ | ၂၈ | စင်ကာပူ | ထိုင်း(၉၅) | စင်ကာပူ(၈၄) | ဗီယက်နမ်(၇၃) | |
| ၂၀၁၇ | ၂၉ | မလေးရှား | မလေးရှား(၁၄၅) | ထိုင်း(၇၂) | ဗီယက်နမ်(၅၈) | |
| ၂၀၁၉ | ၃၀ | ဖိလစ်ပိုင် | ဖိလစ်ပိုင်(၁၄၉) | ဗီယက်နမ်(၉၈) | ထိုင်း(၉၂) | |
| ၂၀၂၂ | ၃၁ | ဗီယက်နမ် | ဗီယက်နမ် (၁၅၃) | ထိုင်း(၉၀) | ဖိလစ်ပိုင်(၈၄) | |
| ၂၀၂၃ | ၃၂ | ကမ္ဘောဒီးယား | ဗီယက်နမ်(၁၃၆) | ထိုင်း(၁၀၈) | အင်ဒိုနီးရှား(၈၇) | |

## တောင်အာရှအားကစားပြိုင်ပွဲ
## (South Asia Football Federation - SAFF)

| စဉ် | ခုနှစ် | အိမ်ရှင်နိုင်ငံ | ချန်ပီယံအသင်း |
|---|---|---|---|
| ၁။ | ၁၉၉၃ | ပါကစ္စတန် | အိန္ဒိယ |
| ၂။ | ၁၉၉၅ | သီရိလင်္ကာ | သီရိလင်္ကာ |
| ၃။ | ၁၉၉၇ | နီပေါ | အိန္ဒိယ |
| ၄။ | ၁၉၉၉ | အိန္ဒိယ | အိန္ဒိယ |
| ၅။ | ၂၀၀၃ | ဘင်္ဂလားဒေ့ရှ် | ဘင်္ဂလားဒေ့ရှ် |
| ၆။ | ၂၀၀၅ | ပါကစ္စတန် | အိန္ဒိယ |
| ၇။ | ၂၀၀၈ | မော်လ်ဒိုက်+သီရိလင်္ကာ | မော်လ်ဒိုက် |
| ၈။ | ၂၀၀၉ | ဘင်္ဂလားဒေ့ရှ် | အိန္ဒိယ |
| ၉။ | ၂၀၁၁ | အိန္ဒိယ | အိန္ဒိယ |
| ၁၀။ | ၂၀၁၃ | နီပေါ | အာဖဂန်နစ္စတန် |
| ၁၁။ | ၂၀၁၅ | အိန္ဒိယ | အိန္ဒိယ |
| ၁၂။ | ၂၀၁၈ | ဘင်္ဂလားဒေ့ရှ် | မော်လ်ဒိုက် |
| ၁၃။ | ၂၀၂၁ | မော်လ်ဒိုက် | အိန္ဒိယ |
| ၁၄။ | ၂၀၂၃ | အိန္ဒိယ | အိန္ဒိယ |

## ကမ္ဘာ့ဖလားဘောလုံးပြိုင်ပွဲ (World Cup)

| စဉ် | ခုနှစ် | အိမ်ရှင်နိုင်ငံ | ချန်ပီယံအသင်း |
|---|---|---|---|
| ၁။ | ၁၉၃၀ | ဥရုဂွေး | ဥရုဂွေး |
| ၂။ | ၁၉၃၄ | အီတလီ | အီတလီ |
| ၃။ | ၁၉၃၈ | ပြင်သစ် | အီတလီ |
| ၄။ | ၁၉၅၀ | ဘရာဇီးလ် | ဥရုဂွေး |
| ၅။ | ၁၉၅၄ | ဆွစ်ဇာလန် | ဂျာမနီ |
| ၆။ | ၁၉၅၈ | ဆွီဒင် | ဘရာဇီးလ် |
| ၇။ | ၁၉၆၂ | ချီလီ | ဘရာဇီးလ် |

| စဉ် | ခုနှစ် | အိမ်ရှင်နိုင်ငံ | ချန်ပီယံအသင်း |
|---|---|---|---|
| ၈။ | ၁၉၆၆ | အင်္ဂလန် | အင်္ဂလန် |
| ၉။ | ၁၉၇၀ | မက္ကဆီကို | ဘရာဇီးလ် |
| ၁၀။ | ၁၉၇၄ | ဂျာမနီ (န) | ဂျာမနီ |
| ၁၁။ | ၁၉၇၈ | အာဂျင်တီးနား | အာဂျင်တီးနား |
| ၁၂။ | ၁၉၈၂ | စပိန် | အီတလီ |
| ၁၃။ | ၁၉၈၆ | မက္ကဆီကို | အာဂျင်တီးနား |
| ၁၄။ | ၁၉၉၀ | အီတလီ | ဂျာမနီ (န) |
| ၁၅။ | ၁၉၉၄ | အမေရိကန် | ဘရာဇီးလ် |
| ၁၆။ | ၁၉၉၈ | ပြင်သစ် | ပြင်သစ် |
| ၁၇။ | ၂၀၀၂ | ဂျပန်+ကိုရီးယား | ဘရာဇီးလ် |
| ၁၈။ | ၂၀၀၆ | ဂျာမနီ | အီတလီ |
| ၁၉။ | ၂၀၁၀ | တောင်အာဖရိက | စပိန် |
| ၂၀။ | ၂၀၁၄ | ဘရာဇီးလ် | ဂျာမနီ |
| ၂၁။ | ၂၀၁၈ | ရုရှား | ပြင်သစ် |
| ၂၂။ | ၂၀၂၂ | ကာတာ | အာဂျင်တီးနား |

## ကမ္ဘာ့စစ်ပွဲများ

### ၁။ ပထမကမ္ဘာစစ်(၁၉၁၄–၁၉၁၈)

(က) စတင်ဖြစ်ပွားသည့်ရက် – ၁၉၁၄ ခုနှစ်၊ ဇွန်လ ၂၈ ရက်

( ခ ) ပြီးဆုံးသည့်ရက် – ၁၉၁၈ ခုနှစ်၊ နိုဝင်ဘာ ၁၁ ရက်တွင် စစ်ပြေငြိမ်းခဲ့ပြီး ၁၉၁၉ ခုနှစ်၊ ဇွန်လ ၂၈ ရက်နေ့တွင် ဗာဆိုင်းစာချုပ်ချုပ်ဆိုပြီး စစ်ပွဲပြီးဆုံးခဲ့သည်။

( ဂ ) စစ်ဖြစ်ပွားရခြင်းအကြောင်းရင်း – ဩစတြီးယားအိမ်ရှေ့မင်းသား ဖရန်စစ်ဖာဒီနန်နှင့်ကြင်ရာတော်တို့ဆာရာဂျေဗိုမြို့တွင် လုပ်ကြံခံရပြီး ဆားဘီးယားတို့၏ လုပ်ကြံမှုဟု ဩစတြီးယားက စွပ်စွဲပြီး စစ်ကြေညာခဲ့သည်။

(ဃ) တိုက်ခိုက်ကြသောနိုင်ငံများ – ဂျာမနီ၊ ဩစတြီးယား၊ အမေရိကန်၊ အင်္ဂလိပ်၊ အီတလီ၊ ပြင်သစ်၊ ရုရှား

၂။ **ဒုတိယကမ္ဘာစစ်(၁၉၃၉–၁၉၄၅)**

| | | | |
|---|---|---|---|
| (က) | စတင်ဖြစ်ပွားသည့်ရက် | – | ၁၉၃၉ ခုနှစ်၊ စက်တင်ဘာလ ၃ ရက် |
| ( ခ ) | ပြီးဆုံးသည့်ရက် | – | ၁၉၄၅ ခုနှစ်၊ ဩဂုတ်လ ၁၅ ရက် |
| ( ဂ ) | စစ်ဖြစ်ပွားရသည့် အကြောင်းရင်း | – | ကိုလိုနီနယ်မြေများ အပြိုင်အဆိုင် ရှာဖွေခြင်း၊ လက်နက်အပြိုင်အဆိုင် တပ်ဆင်ခြင်း |
| (ဃ) | တိုက်ခိုက်ကြသော နိုင်ငံများ | – | အင်္ဂလိပ်၊ အမေရိကန်၊ ပြင်သစ် (မဟာမိတ်နိုင်ငံများ)<br>ဂျပန်၊ အီတလီ၊ ဂျာမနီ (ဝင်ရိုးတန်းနိုင်ငံများ) |

## ခရူးဆိတ်စစ်ပွဲ

၁၁ ရာစုအတွင်းက ခရစ်ယာန်ဘာသာဝင်များနှင့် အစ္စလာမ်ဘာသာဝင်များအကြား ဖြစ်ပွားခဲ့သော ဘာသာရေးစစ်ပွဲဖြစ်သည်။ နှစ်ပေါင်း ၂၀၀ ကျော်ကြာအောင် တိုက်ခိုက်ခဲ့ကြရသည့် ကမ္ဘာ့အရှည်ကြာဆုံး တိုက်ပွဲလည်း ဖြစ်သည်။

## ဝါတာလူးစစ်ပွဲ

ပြင်သစ်ဘုရင် နပိုလီယံဘိုနာပတ်နှင့် အင်္ဂလိပ်လူမျိုး ဝယ်လင်တန်မြို့စားတို့ ၁၈၁၅ ခုနှစ်တွင် စတင်တိုက်ခိုက်ခဲ့ကြသော စစ်ပွဲဖြစ်သည်။ ယင်းစစ်ပွဲတွင် စစ်ဘုရင်နပိုလီယံ စစ်ရှုံးခဲ့သည်။

## နော်မန်ဒီတိုက်ပွဲ

ဒုတိယကမ္ဘာစစ်အတွင်း မဟာမိတ်တပ်ပေါင်းစုသည် ပြင်သစ်နိုင်ငံ နော်မန်ဒီကမ်းခြေတွင် နာဇီဂျာမနီတို့ကို အောင်နိုင်ခဲ့သော သမိုင်းဝင်စစ်ပွဲကြီးဖြစ်သည်။ ၁၉၄၄ ခုနှစ်၊ ဇွန်လ ၆ ရက်ကို ဒီဒေး (D–Day)အဖြစ်သတ်မှတ်ပြီး နော်မန်ဒီကမ်းခြေကို ဝင်ရောက်တိုက်ခိုက်ခဲ့သော မဟာမိတ်များမှာ အင်အား ၁၅၆၀၀၀ ခန့်ရှိခဲ့သည်။ အင်အား ၂၅၀၀၀ ခန့် အသက်ဆုံးရှုံးခဲ့ပြီး မဟာမိတ်များ အောင်ပွဲရရှိခဲ့သည်။ မဟာမိတ်တပ်များ၏ တပ်ပေါင်းစုမှူးမှာ ဗိုလ်မှူးကြီး အိုက်ဆင်ဟောင်ဝါ ဖြစ်သည်။

## ဒိန်ဘင်ဖူးတိုက်ပွဲ

၁၉၅၄ ခုနှစ်တွင် နယ်ချဲ့ပြင်သစ်တပ်များနှင့် ဗီယက်နမ်တို့ တိုက်ခိုက်ခဲ့သော တိုက်ပွဲဖြစ်သည်။ ပြင်သစ်တို့၏ ခိုင်ခံ့လှသော ဒိန်ဘင်ဖူးခံတပ်ကို ဗိုလ်မှူးကြီး ဗိုငုယင်ဇီယပ် ဦးဆောင်သော ဗီယက်နမ်တို့ သိမ်းပိုက်နိုင်ခဲ့သည်။

## ဖောက်ကလန်ကျွန်းတိုက်ပွဲ

ဖောက်ကလန်ကျွန်းပိုင်ဆိုင်မှုနှင့် ပတ်သက်၍ ၁၉၈၂ ခုနှစ်တွင် အာဂျင်တီးနားနှင့် အင်္ဂလန်တို့အကြား ဖြစ်ပွားခဲ့သော တိုက်ပွဲဖြစ်သည်။ အာဂျင်တီးနားတို့ ရှုံးနိမ့်ခဲ့ပြီး ဖောက်ကလန်ကျွန်းကို အင်္ဂလိပ်တို့ ပြန်လည်သိမ်းပိုက်ရရှိခဲ့သည်။

## ထင်ရှားသော ကမ္ဘာ့စစ်ခေါင်းဆောင်များ

| | | |
|---|---|---|
| ၁။ | ဟာစ်တလာ | ဂျာမနီ |
| ၂။ | မူဆိုလီနီ | အီတလီ |
| ၃။ | နပိုလီယံ | ပြင်သစ် |
| ၄။ | ဗိုလ်ချုပ်ကြီး ဒေါက်ကလပ်မက်အာသာ | အမေရိကန် |
| ၅။ | ဗိုလ်ချုပ်ကြီး မာရှယ်ဇူးကော့ဗ် | ဆိုဗီယက် |
| ၆။ | ဗိုလ်ချုပ်ကြီး မောင်ဂိုမာရီ(သဲကန္တာရကြွက်) | ဗြိတိန် |
| ၇။ | ဗိုလ်ချုပ်ကြီး အိုက်ဆင်ဟောင်ဝါ | အမေရိကန် |
| ၈။ | ဗိုလ်ချုပ်ကြီး အာဝင်ရွှန်းမဲလ်(သဲကန္တာရမြေခွေး) | ဂျာမနီ |
| ၉။ | ဗိုလ်ချုပ်ကြီး ယာမာမိုတို | ဂျပန် |
| ၁၀။ | ဗိုလ်ချုပ်ကြီး လော့ဒ်မောင့်ဘက်တန် | ဗြိတိန် |
| ၁၁။ | ဗိုလ်ချုပ်ကြီး စတီးဝဲလ် | အမေရိကန် |
| ၁၂။ | ဗိုလ်ချုပ်ကြီး မာရှယ်တီးတိုး | ယူဂိုဆလားဗီးယား |
| ၁၃။ | ဗိုလ်ချုပ်ကြီး မိုရှေဒါယန်း | အစ္စရေးလ် |
| ၁၄။ | ဗိုလ်ချုပ်ကြီး ဂျော့ဂ်ျပက်တန် | အမေရိကန် |

## နျူကလီးယားလက်နက်ပိုင်ဆိုင်သည့်နိုင်ငံများ

၁။ ရုရှား
၂။ အမေရိကန်ပြည်ထောင်စု
၃။ ပြင်သစ်
၄။ တရုတ်
၅။ ဗြိတိန်
၆။ ပါကစ္စတန်
၇။ အိန္ဒိယ
၈။ မြောက်ကိုရီးယား
၉။ အစ္စရေး

**မှတ်ချက်။** အမှတ်စဉ် (၁) မှ (၅) အထိ ငါးနိုင်ငံသည် နျူကလီးယားလက်နက် မပြန့်ပွားရေးစာချုပ်အောက်ရှိ နျူကလီးယားဒုံးကျည်ပိုင်ဆိုင်သည့်နိုင်ငံများ ဖြစ်သည်။ အမှတ်စဉ်(၆) မှ (၈) အထိ သုံးနိုင်ငံသည် နျူကလီးယားလက်နက် မပြန့်ပွားရေးစာချုပ်တွင် လက်မှတ်ရေးထိုးမှုမရှိသည့် နိုင်ငံများဖြစ်သည်။ အစ္စရေးနိုင်ငံသည် နျူကလီးယားလက်နက်ပိုင်ဆိုင်ကြောင်း ထုတ်ဖော်ကြေညာခြင်း မရှိသေးသည့်နိုင်ငံ ဖြစ်သည်။

## လက်နက်ကိုင်တပ်ဖွဲ့ဝင် အင်အားအကြီးမားဆုံးနိုင်ငံများ

**အမေရိကန်နိုင်ငံ**

| | | | |
|---|---|---|---|
| ၁။ | အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား | – | ၁၃၉၀၀၀၀ ခန့် |
| ၂။ | စစ်ရေးအသုံးစရိတ် | – | ၇၆၁ ဘီလီယံဒေါ်လာကျော် |
| ၃။ | ပင်မတိုက်ပွဲဝင်တင့်ကား | – | ၅၅၀၀ စင်း |
| ၄။ | စစ်သင်္ဘောများ | – | ၄၈၄ စင်း |
| ၅။ | လေယာဉ်တင်သင်္ဘော | – | ၁၁ စင်း |
| ၆။ | တိုက်လေယာဉ်များ | – | ၁၉၁၄ စင်း |
| ၇။ | စစ်လေယာဉ်များ | – | ၁၃၃၀၀ စင်း |
| ၈။ | မဟာဗျူဟာမြောက်နျူကလီးယား လက်နက်များ | – | ရှိ |

**ရုရှားနိုင်ငံ**

| | | | |
|---|---|---|---|
| ၁။ | အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား | – | ၈၃၀၉၀၀ ခန့် |
| ၂။ | စစ်ရေးအသုံးစရိတ် | – | ၈၃ ဘီလီယံဒေါ်လာခန့် |
| ၃။ | ပင်မတိုက်ပွဲဝင်တင့်ကား | – | ၁၂၅၆၆ စင်း |
| ၄။ | စစ်သင်္ဘောများ | – | ၅၉၈ စင်း |
| ၅။ | လေယာဉ်တင်သင်္ဘော | – | ၁ စင်း |
| ၆။ | တိုက်လေယာဉ်များ | – | ၇၇၃ စင်း |
| ၇။ | စစ်လေယာဉ်များ | – | ၄၁၈၂ စင်း |
| ၈။ | မဟာဗျူဟာမြောက်နျူကလီးယား လက်နက်များ | – | ရှိ |

**တရုတ်နိုင်ငံ**

| | | | |
|---|---|---|---|
| ၁။ | အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား | – | ၂၀၀၀၀၀၀ ခန့် |
| ၂။ | စစ်ရေးအသုံးစရိတ် | – | ၂၃၀ ဘီလီယံဒေါ်လာ |
| ၃။ | ပင်မတိုက်ပွဲဝင်တင့်ကား | – | ၄၉၅၀ စင်း |
| ၄။ | စစ်သင်္ဘောများ | – | ၇၃၀ စင်း |
| ၅။ | လေယာဉ်တင်သင်္ဘော | – | ၂ စင်း |
| ၆။ | တိုက်လေယာဉ်များ | – | ၁၁၉၉ စင်း |
| ၇။ | စစ်လေယာဉ်များ | – | ၃၁၆၆ စင်း |
| ၈။ | မဟာဗျူဟာမြောက်နျူကလီးယား လက်နက်များ | – | ရှိ |

### အိန္ဒိယနိုင်ငံ

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား – ၁၄၅၀၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် – ၅၄ ဘီလီယံဒေါ်လာခန့်
၃။ ပင်မတိုက်ပွဲဝင်တင့်ကား – ၄၆၁၄ စင်း
၄။ စစ်သင်္ဘောများ – ၂၉၅ စင်း
၅။ လေယာဉ်တင်သင်္ဘော – ၂ စင်း
၆။ တိုက်လေယာဉ်များ – ၅၇၇ စင်း
၇။ စစ်လေယာဉ်များ – ၂၂၁၀ စင်း
၈။ မဟာဗျူဟာမြောက်နျူကလီးယားလက်နက်များ – ရှိ

### ဗြိတိန်နိုင်ငံ

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား – ၁၉၄၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် – ၅၀ ဘီလီယံဒေါ်လာခန့်
၃။ ပင်မတိုက်ပွဲဝင်တင့်ကား – ၂၂၇ စင်း
၄။ စစ်သင်္ဘောများ – ၇၃ စင်း
၅။ လေယာဉ်တင်သင်္ဘော – ၂ စင်း
၆။ တိုက်လေယာဉ်များ – ၁၁၉ စင်း
၇။ စစ်လေယာဉ်များ – ၆၆၃ စင်း
၈။ မဟာဗျူဟာမြောက်နျူကလီးယားလက်နက်များ – ရှိ

### တောင်ကိုရီးယားနိုင်ငံ

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား – ၅၅၅၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် – ၄၂ ဘီလီယံဒေါ်လာခန့်
၃။ ပင်မတိုက်ပွဲဝင်တင့်ကား – ၂၃၃၁ စင်း
၄။ စစ်သင်္ဘောများ – ၁၅၇ စင်း
၅။ လေယာဉ်တင်သင်္ဘော – – စင်း
၆။ တိုက်လေယာဉ်များ – ၄၀၂ စင်း
၇။ စစ်လေယာဉ်များ – ၁၆၀၂ စင်း
၈။ မဟာဗျူဟာမြောက်နျူကလီးယားလက်နက်များ – မရှိ

### ပါကစ္စတန်နိုင်ငံ

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား – ၆၅၄၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် – ၈ ဘီလီယံဒေါ်လာခန့်
၃။ ပင်မတိုက်ပွဲဝင်တင့်ကား – ၃၇၄၂ စင်း
၄။ စစ်သင်္ဘောများ – ၁၁၄ စင်း

၅။ လေယာဉ်တင်သင်္ဘော – – စင်း
၆။ တိုက်လေယာဉ်များ – ၃၆၃ စင်း
၇။ စစ်လေယာဉ်များ – ၁၄၁၃ စင်း
၈။ မဟာဗျူဟာမြောက်နျူကလီးယား လက်နက်များ – ရှိ

**ဂျပန်နိုင်ငံ**

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား – ၂၄၀၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် – ၄၀ ဘီလီယံဒေါ်လာခန့်
၃။ ပင်မတိုက်ပွဲဝင်တင့်ကား – ၁၀၀၄ စင်း
၄။ စစ်သင်္ဘောများ – ၁၅၅ စင်း
၅။ လေယာဉ်တင်သင်္ဘော – – စင်း
၆။ တိုက်လေယာဉ်များ – ၂၁၇ စင်း
၇။ စစ်လေယာဉ်များ – ၁၄၅၁ စင်း
၈။ မဟာဗျူဟာမြောက်နျူကလီးယား လက်နက်များ – မရှိ

**ပြင်သစ်နိုင်ငံ**

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား – ၂၀၅၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် – ၄၆ ဘီလီယံဒေါ်လာခန့်
၃။ ပင်မတိုက်ပွဲဝင်တင့်ကား – ၂၂၂ စင်း
၄။ စစ်သင်္ဘောများ – ၁၂၆ စင်း
၅။ လေယာဉ်တင်သင်္ဘော – ၁ စင်း
၆။ တိုက်လေယာဉ်များ – ၂၂၆ စင်း
၇။ စစ်လေယာဉ်များ – ၁၀၀၄ စင်း
၈။ မဟာဗျူဟာမြောက်နျူကလီးယား လက်နက်များ – ရှိ

**အီတလီနိုင်ငံ**

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား – ၁၇၀၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် – ၃၇ ဘီလီယံဒေါ်လာခန့်
၃။ ပင်မတိုက်ပွဲဝင်တင့်ကား – ၁၉၇ စင်း
၄။ စစ်သင်္ဘောများ – ၃၁၃ စင်း
၅။ လေယာဉ်တင်သင်္ဘော – ၂ စင်း
၆။ တိုက်လေယာဉ်များ – ၉၂ စင်း
၇။ စစ်လေယာဉ်များ – ၈၅၀ စင်း
၈။ မဟာဗျူဟာမြောက်နျူကလီးယား လက်နက်များ – မရှိ

# ခေတ်သစ်အိုလံပစ်အားကစားပွဲများ

## နွေရာသီအားကစားပြိုင်ပွဲများ

| စဉ် | ခုနှစ် | နိုင်ငံ | မြို့ |
|---|---|---|---|
| ၁။ | ၁၈၉၆ | ဂရိ | အေသင် |
| ၂။ | ၁၉၀၀ | ပြင်သစ် | ပါရီ |
| ၃။ | ၁၉၀၄ | အမေရိကန် | စိန့်လူးဝစ် |
| ၄။ | ၁၉၀၈ | အင်္ဂလန် | လန်ဒန် |
| ၅။ | ၁၉၁၂ | ဆွီဒင် | စတော့ဟုမ်း |
| ၆။ | ၁၉၁၆ | မကျင်းပဖြစ်ပါ။ | |
| ၇။ | ၁၉၂၀ | ဘယ်လ်ဂျီယံ | အန်းဝပ် |
| ၈။ | ၁၉၂၄ | ပြင်သစ် | ပါရီ |
| ၉။ | ၁၉၂၈ | နယ်သာလန် | အမ်စတာဒမ် |
| ၁၀။ | ၁၉၃၂ | အမေရိကန် | လော့စ်အိန်ဂျလိစ် |
| ၁၁။ | ၁၉၃၆ | ဂျာမနီ | ဘာလင် |
| ၁၂။ | ၁၉၄၀–၄၄ | မကျင်းပဖြစ်ပါ။ | |
| ၁၃။ | ၁၉၄၈ | အင်္ဂလန် | လန်ဒန် |
| ၁၄။ | ၁၉၅၂ | ဖင်လန် | ဟယ်ဆင်ကီး |
| ၁၅။ | ၁၉၅၆ | ဩစတြေးလျ | မဲလ်ဘုန်း |
| ၁၆။ | ၁၉၆၀ | အီတလီ | ရောမ |
| ၁၇။ | ၁၉၆၄ | ဂျပန် | တိုကျို |
| ၁၈။ | ၁၉၆၈ | မက္ကဆီကို | မက္ကဆီကိုစီးတီး |
| ၁၉။ | ၁၉၇၂ | အနောက်ဂျာမနီ | မြူးနစ် |
| ၂၀။ | ၁၉၇၆ | ကနေဒါ | မွန်ထရီယဲလ် |
| ၂၁။ | ၁၉၈၀ | ဆိုဗီယက်ပြည်ထောင်စု | မော်စကို |
| ၂၂။ | ၁၉၈၄ | အမေရိကန် | လော့စ်အိန်ဂျလိစ် |
| ၂၃။ | ၁၉၈၈ | တောင်ကိုရီးယား | ဆိုးလ် |
| ၂၄။ | ၁၉၉၂ | စပိန် | ဘာစီလိုနာ |
| ၂၅။ | ၁၉၉၄ | နော်ဝေ | လီလီဟန်းမား |
| ၂၆။ | ၁၉၉၆ | အမေရိကန် | အတ္တလန္တာ |
| ၂၇။ | ၂၀၀၀ | ဩစတြေးလျ | ဆစ်ဒနီ |
| ၂၈။ | ၂၀၀၂ | အမေရိကန် | ဆော့လိတ်စီးတီး |
| ၂၉။ | ၂၀၀၄ | ဂရိ | အေသင် |
| ၃၀။ | ၂၀၀၆ | အီတလီ | တူရင်း |
| ၃၁။ | ၂၀၀၈ | တရုတ် | ဘေဂျင်း |

| | | | |
|---|---|---|---|
| ၃၂။ | ၂၀၁၀ | ကနေဒါ | ဗန်ကူဗာ |
| ၃၃။ | ၂၀၁၂ | အင်္ဂလန် | လန်ဒန် |
| ၃၄။ | ၂၀၁၄ | ရုရှား | ဆိုချီ |
| ၃၅။ | ၂၀၁၆ | ဘရာဇီးလ် | ရီယိုဒီဂျနေးယိုး |
| ၃၆။ | ၂၀၁၈ | တောင်ကိုရီးယား | ဖြောင်းချမ်း |
| ၃၇။ | ၂၀၂၀ | ဂျပန် | တိုကျို |
| ၃၈။ | ၂၀၂၂ | တရုတ် | ဘေဂျင်း |
| ၃၉။ | ၂၀၂၄ | ပြင်သစ် | ပဲရစ် |

## ဆောင်းရာသီအားကစားပြိုင်ပွဲများ

| စဉ် | ခုနှစ် | နိုင်ငံ | မြို့ |
|---|---|---|---|
| ၁။ | ၁၉၂၄ | ပြင်သစ် | ချာမိုနစ် |
| ၂။ | ၁၉၂၈ | ဆွစ်ဇာလန် | စိန့်မိုရစ် |
| ၃။ | ၁၉၃၂ | အမေရိကန် | လိတ်ပလာစစ် |
| ၄။ | ၁၉၃၆ | ဂျာမနီ | ဂါးဖစ်ရှ်– ပါတင်ကာချင် |
| ၅။ | ၁၉၄၀–၄၄ | မကျင်းပဖြစ်ပါ။ | |
| ၆။ | ၁၉၄၈ | ဆွစ်ဇာလန် | စိန့်မိုရစ် |
| ၇။ | ၁၉၅၂ | နော်ဝေ | အော်စလို |
| ၈။ | ၁၉၅၆ | အီတလီ | ကော်တီနာဒီအမ်ပက်ဇို |
| ၉။ | ၁၉၆၀ | အမေရိကန် | စကောဗဲလီး |
| ၁၀။ | ၁၉၆၄ | ဩစတြီးယား | အင်းစ်ဘရပ် |
| ၁၁။ | ၁၉၆၈ | ပြင်သစ် | ဂရင်နိုဘယ် |
| ၁၂။ | ၁၉၇၂ | ဂျပန် | ဆက်ပိုရို |
| ၁၃။ | ၁၉၇၆ | ဩစတြီးယား | အင်းစ်ဘရပ် |
| ၁၄။ | ၁၉၈၀ | အမေရိကန် | လိတ်ပလာစစ် |
| ၁၅။ | ၁၉၈၄ | ယူဂိုဆလားဗီးယား | ဆာရာယေဗို |
| ၁၆။ | ၁၉၈၈ | ကနေဒါ | ကာလ်ဂါရီ |
| ၁၇။ | ၁၉၉၂ | ပြင်သစ် | အဲလ်ဘာတ်ဗီလ်း |
| ၁၈။ | ၁၉၉၄ | နော်ဝေ | ဟီလီဟမ်းမား |
| ၁၉။ | ၁၉၉၈ | ဂျပန် | နာဂါနို |
| ၂၀။ | ၂၀၀၂ | အမေရိကန် | ဆော့လိတ်စီးတီး |
| ၂၁။ | ၂၀၀၆ | အီတလီ | တိုရီနို |
| ၂၂။ | ၂၀၁၀ | ကနေဒါ | ဗင်ကူဗာ |
| ၂၃။ | ၂၀၁၄ | ရုရှား | ဆိုချီ |
| ၂၄။ | ၂၀၁၈ | တောင်ကိုရီးယား | ဖျောင်းယောင်းဂျိန် |
| ၂၅။ | ၂၀၂၂ | တရုတ် | ဘေဂျင်း |

# ကမ္ဘာ့အမြင့်ဆုံးအဆောက်အအုံ (၁၀) ခု

## ဘာ့ဂ်ျခါလီဖာ

| | | | |
|---|---|---|---|
| ၁။ | တည်ရှိသည့်နေရာ | = | ဒူဘိုင်း၊ အာရပ်စော်ဘွားများနိုင်ငံ |
| ၂။ | ပြီးစီးသည့်ခုနှစ် | = | ၂၀၁၀ ခုနှစ် |
| ၃။ | အမြင့် | = | ၂၇၁၇ ပေ (၈၂၈ မီတာ) |
| ၄။ | အထပ်ပေါင်း | = | ၁၆၃ ထပ် |

## ရှန်ဟိုင်းတာဝါ

| | | | |
|---|---|---|---|
| ၁။ | တည်ရှိသည့်နေရာ | = | ရှန်ဟိုင်း၊ တရုတ် |
| ၂။ | ပြီးစီးသည့်ခုနှစ် | = | ၂၀၁၅ ခုနှစ် |
| ၃။ | အမြင့် | = | ၂၀၇၃ ပေ (၆၃၂ မီတာ) |
| ၄။ | အထပ်ပေါင်း | = | ၁၂၈ ထပ် |

## အဘရာ့ဂ်ျအယ်လ်ဘိတ်နာရီစင်

| | | | |
|---|---|---|---|
| ၁။ | တည်ရှိသည့်နေရာ | = | မက္ကာ၊ အာရပ်စော်ဘွားများနိုင်ငံ |
| ၂။ | ပြီးစီးသည့်ခုနှစ် | = | ၂၀၁၂ ခုနှစ် |
| ၃။ | အမြင့် | = | ၁၉၇၁ ပေ (၆၀၁ မီတာ) |
| ၄။ | အထပ်ပေါင်း | = | ၁၂၀ ထပ် |

## ပင်အန်းစီးပွားရေးဌာန

| | | | |
|---|---|---|---|
| ၁။ | တည်ရှိသည့်နေရာ | = | ရှန်းကျန့်၊ တရုတ် |
| ၂။ | ပြီးစီးသည့်ခုနှစ် | = | ၂၀၁၇ ခုနှစ် |
| ၃။ | အမြင့် | = | ၁၉၆၅ ပေ (၅၉၉ မီတာ) |
| ၄။ | အထပ်ပေါင်း | = | ၁၁၅ ထပ် |

## လော့ထ်ကမ္ဘာ့မျှော်စင်

| | | | |
|---|---|---|---|
| ၁။ | တည်ရှိသည့်နေရာ | = | ဆိုးလ်၊ တောင်ကိုရီးယား |
| ၂။ | ပြီးစီးသည့်ခုနှစ် | = | ၂၀၁၆ ခုနှစ် |
| ၃။ | အမြင့် | = | ၁၈၁၉ ပေ (၅၅၄.၅ မီတာ) |
| ၄။ | အထပ်ပေါင်း | = | ၁၂၃ ထပ် |

## ဝမ်းကမ္ဘာ့ကုန်သွယ်မှုဌာန

| | | | |
|---|---|---|---|
| ၁။ | တည်ရှိသည့်နေရာ | = | နယူးယောက်၊ အမေရိကန် |
| ၂။ | ပြီးစီးသည့်ခုနှစ် | = | ၂၀၁၄ ခုနှစ် |
| ၃။ | အမြင့် | = | ၁၇၇၆ ပေ (၅၄၁.၃ မီတာ) |
| ၄။ | အထပ်ပေါင်း | = | ၁၀၄ ထပ် |

## ကွမ်ကျိုး CTF စီးပွားရေးအဆောက်အအုံ

၁။ တည်ရှိသည့်နေရာ = ကွမ်ကျိုး၊ တရုတ်
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၆ ခုနှစ်
၃။ အမြင့် = ၁၇၃၉ ပေ (၅၃၀ မီတာ)
၄။ အထပ်ပေါင်း = ၁၁၁ ထပ်

## တီယန်ဂျင်း CTF စီးပွားရေးအဆောက်အအုံ

၁။ တည်ရှိသည့်နေရာ = တီယန်ဂျင်း၊ တရုတ်
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၉ ခုနှစ်
၃။ အမြင့် = ၁၇၃၉ ပေ (၅၃၀ မီတာ)
၄။ အထပ်ပေါင်း = ၉၈ ထပ်

## CITIC အဆောက်အအုံ

၁။ တည်ရှိသည့်နေရာ = ဘေဂျင်း၊ တရုတ်
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၈ ခုနှစ်
၃။ အမြင့် = ၁၇၃၁ ပေ (၅၂၈ မီတာ)
၄။ အထပ်ပေါင်း = ၁၀၉ ထပ်

## တိုင်ပေ ၁၀၁ မျှော်စင်

၁။ တည်ရှိသည့်နေရာ = တိုင်ပေ၊ တရုတ်(တိုင်ပေ)
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၀၄ ခုနှစ်
၃။ အမြင့် = ၁၆၆၇ ပေ (၅၀၈ မီတာ)
၄။ အထပ်ပေါင်း = ၁၀၁ ထပ်

# ကျွန်းနိုင်ငံများ (၄၈ နိုင်ငံ)

၁။ အန်တီဂွါနှင့် ဘာဘူဒါ
၂။ မိုက်ခရိုနီးရှား
၃။ ဘဟားမားစ်
၄။ ဖီဂျီ
၅။ ဘာရိန်း
၆။ ဂရီနာဒါ
၇။ ဘာဘာဒို့စ်
၈။ ဟေတီ
၉။ ဘရူနိုင်း
၁၀။ အိုက်စ်လန်
၁၁။ ကိတ်ဗာဒီ
၁၂။ အင်ဒိုနီးရှား
၁၃။ ကိုမိုရို့စ်
၁၄။ အိုင်ယာလန်
၁၅။ ကျူးဘား
၁၆။ ဂျမေကာ
၁၇။ ဆိုက်ပရပ်စ်
၁၈။ ဂျပန်
၁၉။ ဒိုမီနီကာ
၂၀။ ကေရီဘာတီ
၂၁။ ဒိုမီနီကန်သမ္မတနိုင်ငံ
၂၂။ မာဒါဂါစကား

၂၃။ အရှေ့တီမော
၂၄။ မော်လ်ဒိုက်
၂၅။ မော်လ်တာ
၂၆။ ဆာမိုအာ
၂၇။ မာရှယ်လ်ကျွန်းစုနိုင်ငံ
၂၈။ ဆော်တိုမီနှင့် ပရင်စီပီ
၂၉။ မောရစ်သျှ
၃၀။ ဆေးရှဲလ်စ်
၃၁။ နော်ရူး
၃၂။ စင်ကာပူ
၃၃။ နယူးဇီလန်
၃၄။ ဆော်လ်မွန်ကျွန်းစု
၃၅။ မြောက်ပိုင်းဆိုက်ပရပ်စ်
၃၆။ သီရိလင်္ကာ
၃၇။ ပလော
၃၈။ တရုတ် (တိုင်ပေ)
၃၉။ ပါပူဝါးနယူးဂီနီ
၄၀။ တွန်ဂါ
၄၁။ ဖိလစ်ပိုင်
၄၂။ ထရီနီဒတ်နှင့် တိုဘားဂိုး
၄၃။ စိန့်ကစ်နှင့် နီဗစ်
၄၄။ တူဗာလူ
၄၅။ စိန့်လူစီယာ
၄၆။ ယူနိုက်တက်ကင်းဒမ်း
၄၇။ စိန့်ဗင်းဆင့်နှင့် ဂရီနာဒင်းစ်
၄၈။ ဗာနေတူ

## စက်မှုထိပ်သီးနိုင်ငံများအဖွဲ့ (G - 7)

စက်မှုထိပ်သီးနိုင်ငံများအဖွဲ့ (G–7)တွင် ဖွံ့ဖြိုးပြီးစက်မှုထိပ်သီး ၇ နိုင်ငံဖြစ်သည့် ပြင်သစ်၊ ဂျာမနီ၊ အီတလီ၊ ဂျပန်၊ ဗြိတိန်၊ ကနေဒါနှင့် အမေရိကန်တို့ပါဝင်သည်။ နိုင်ငံတကာ စီးပွားရေးနှင့် ငွေကြေးဆိုင်ရာပြဿနာများကိုဖြေရှင်းရန် ရည်ရွယ်သည်။ အဖွဲ့၏ဥက္ကဋ္ဌ အဖြစ် အဖွဲ့ဝင်နိုင်ငံများက အလှည့်ကျတစ်နှစ်တစ်ကြိမ် တာဝန်ယူဆောင်ရွက်သည်။

၁၉၇၅ ခုနှစ်က ပြင်သစ်၊ အီတလီ၊ ဂျပန်၊ ဗြိတိန်၊ အနောက်ဂျာမနီနှင့် အမေရိကန် ပြည်ထောင်စုတို့သည် စီးပွားရေးကိစ္စများ ပူးပေါင်းအဖြေရှာဆောင်ရွက်နိုင်ရန်အတွက် Group of Six (G–6) ကို ဖွဲ့စည်းခဲ့ကြသည်။ ယင်းနောက် ကနေဒါနိုင်ငံ ပူးပေါင်းပါဝင်လာပြီး ၁၉၉၈ ခုနှစ်တွင် ရုရှားနိုင်ငံ ပါဝင်ခဲ့သောကြောင့် (G–8) ဟု ခေါ်ဆိုခဲ့ကြသည်။ ခရိုင်းမီးယားကို ရုရှားက တရားမဝင်သိမ်းယူလိုက်သည့်အတွက် ၂၀၁၄ ခုနှစ်တွင် ရုရှားကို အဖွဲ့ဝင်နိုင်ငံ အဖြစ်မှ ဆိုင်းငံ့ခဲ့သည်။

ဥရောပသမဂ္ဂ (EU) သည် အဖွဲ့၏ဥက္ကဋ္ဌအဖြစ် တာဝန်ယူဆောင်ရွက်ခြင်း မရှိသကဲ့သို့ အိမ်ရှင်အဖြစ်လည်း အစည်းအဝေးများလက်ခံကျင်းပခြင်း မရှိပေ။ သို့သော် အဖွဲ့ဝင်အားလုံး၏ အခွင့်အရေးနှင့်တာဝန်အားလုံးကို အပြည့်အဝရရှိထားသောကြောင့် အီးယူသည် (G–7) ၏ အဋ္ဌမမြောက်အဖွဲ့ဝင်အဖြစ်လည်း သတ်မှတ်ခံထားရသည်။ (G–7)အဖွဲ့သည် ဒီမိုကရေစီ စနစ်ကျင့်သုံးပြီး သီးခြားစီ ရပ်တည်နေသောနိုင်ငံများဖြင့် ဖွဲ့စည်းထားသည့် အဖွဲ့ဖြစ်သော ကြောင့် ဥပဒေပြဋ္ဌာန်းခြင်းမျိုး ဆောင်ရွက်၍မရပေ။

(၄၇) ကြိမ်မြောက် G–7 ထိပ်သီးအစည်းအဝေးကို အလှည့်ကျဥက္ကဋ္ဌအဖြစ် တာဝန်ယူ ထားသည့်ဗြိတိန်နိုင်ငံတွင် ၂၀၂၁ ခုနှစ်၊ ဇွန်လ ၁၁ ရက်နေ့က ကျင်းပခဲ့သည်။ အစည်းအဝေးသို့ အဖွဲ့ဝင်နိုင်ငံများမဟုတ်သည့် တောင်ကိုရီးယား၊ ဩစတြေးလျ၊ အိန္ဒိယနှင့် တောင်အာဖရိက

နိုင်ငံတို့လည်း ဧည့်သည်တော်များအဖြစ် တက်ရောက်ခဲ့ကြပြီး အိန္ဒိယကမူ အွန်လိုင်းမှ တက်ရောက်ခဲ့သည်။ (၄၈) ကြိမ်မြောက် G–7 ထိပ်သီးအစည်းအဝေးကို ဂျာမနီက အလှည့်ကျ တာဝန်ယူဆောင်ရွက်ခဲ့သည်။ (၄၉) ကြိမ်မြောက် G–7 ထိပ်သီး အစည်းအဝေးကို ၂၀၂၃ ခုနှစ်၊ မေလတွင် ဂျပန်နိုင်ငံက အလှည့်ကျတာဝန်ယူဆောင်ရွက် ခဲ့ပြီး (၅၀) ကြိမ်မြောက် အစည်းအဝေးကို ၂၀၂၄ ခုနှစ်တွင် အီတလီနိုင်ငံက အလှည့်ကျ တာဝန်ယူဆောင်ရွက်မည် ဖြစ်သည်။

## စက်မှုထိပ်သီးနိုင်ငံများ၊ အဖွဲ့ဝင်နိုင်ငံများ (G - 7)

၁။ ကနေဒါ
၂။ ပြင်သစ်
၃။ ဂျာမနီ
၄။ အီတလီ
၅။ ဂျပန်
၆။ ဗြိတိန်
၇။ အမေရိကန်

## လေးနိုင်ငံလုံခြုံရေးပူးပေါင်းဆောင်ရွက်မှု မဟာမိတ်အဖွဲ့ (QUAD)

QUAD ဟူသော စကားမှာ လက်တင်ဘာသာစကားဖြစ်ပြီး လေး ဟု အဓိပ္ပာယ်ရသည်။ ဩစတြေးလျ၊ အိန္ဒိယ၊ ဂျပန်နှင့် အမေရိကန် ၄ နိုင်ငံဖြင့် ဖွဲ့စည်းထားသည့် အင်ဒိုပစိဖိတ် ဆွေးနွေးပွဲ အဖွဲ့ Quadrilateral Security Dialogue (QSD) ဖြစ်သည်။ ထို့နောက် ဂျပန်နိုင်ငံ၏ တောင်းဆိုမှုကြောင့် ၂၀၁၇ ခုနှစ်တွင် လေးနိုင်ငံလုံခြုံရေးပူးပေါင်းဆောင်ရွက်မှု မဟာမိတ် အဖွဲ့ QUAD အဖွဲ့ဖြစ်လာသည်။ အင်ဒို–ပစိဖိတ်ဒေသတွင်း နိုင်ငံရေးနှင့် လုံခြုံရေးဆိုင်ရာ ကိစ္စရပ်များ ဆောင်ရွက်ရန်နှင့် အင်ဒို–ပစိဖိတ်ဒေသတွင်း လွတ်လပ်စွာ ပူးပေါင်းပါဝင်ရေး နှင့် အကျိုးဖြစ်ထွန်းစေရေးကိုရည်ရွယ်၍ ဖွဲ့စည်းခြင်းဖြစ်သည်။ အာရေဗျပင်လယ် မြောက်ပိုင်း တွင် ၂၀၂၀ ပြည့်နှစ်၊ နိုဝင်ဘာလ ၁၇ ရက်မှ ၂၀ ရက်နေ့အထိ ပြုလုပ်ခဲ့သော Malabar စစ်ရေးလေ့ကျင့်မှုတွင် အဖွဲ့ဝင် ၄ နိုင်ငံစလုံးမှ ရေတပ်များ ပူးပေါင်းပါဝင်ခဲ့သည်။

ဖိလစ်ပိုင်နိုင်ငံ၊မနီလာမြို့တွင်ကျင်းပသည့်၂၀၁၇ခုနှစ်အာဆီယံထိပ်သီးအစည်းအဝေး တွင် ဂျပန်၊ ဩစတြေးလျ၊ အိန္ဒိယနှင့် အမေရိကန်တို့သည် အင်ဒို–ပစိဖိတ်ဒေသ အထူး သဖြင့် တောင်တရုတ်ပင်လယ်တွင် လေးနိုင်ငံမဟာမိတ်အဖွဲ့ကို ပြန်လည်အသက်သွင်းရန် သဘောတူခဲ့ကြသည်။ ၂၀၂၁ ခုနှစ်၊ မတ်လတွင် QUAD အဖွဲ့၏ ပထမအကြိမ် အစည်းအဝေး ကိုကျင်းပခဲ့ပြီး အင်ဒိုပစိဖိတ်ဒေသလွတ်လပ်ခွင့်နှင့် တောင်တရုတ်ပင်လယ်အတွင်း ကုန်သွယ်

ရေကြောင်းဆိုင်ရာ ညွှန်ကြားချက်များကို ထုတ်ပြန်ခဲ့သည်။

အမေရိကန်သမ္မတဂျိုးဘိုင်ဒင်၊အိန္ဒိယဝန်ကြီးချုပ်နရန်ဒရာမိုဒီ၊ဂျပန်ဝန်ကြီးချုပ်ဟောင်း ယိုရှီဟီဒါဆူဂါနှင့် ဩစတြေးလျဝန်ကြီးချုပ် စကော့မောရစ်ဆင်တို့သည် ၂၀၂၁ ခုနှစ်၊ စက်တင်ဘာလ ၂၄ ရက်နေ့တွင် ဝါရှင်တန်မြို့၌ ပထမဆုံးအကြိမ် ထိပ်သီးအစည်းအဝေး ပြုလုပ်ခဲ့သည်။ ၂၀၂၁ ခုနှစ်၊ စက်တင်ဘာလ ၁၅ ရက်နေ့တွင် အင်ဒို-ပစိဖိတ်ဒေသဆိုင်ရာ လုံခြုံရေးအတွက် ဩစတြေးလျ၊ ဗြိတိန်နှင့် အမေရိကန်တို့သည် AUKUS လုံခြုံရေးစာချုပ် ကို ချုပ်ဆိုခဲ့သည်။ ၂၀၂၁ ခုနှစ်တွင် QUAD ခေါင်းဆောင်များအစည်းအဝေးကို အမေရိကန် နိုင်ငံ ဝါရှင်တန်ဒီစီတွင် လက်ခံကျင်းပခဲ့ပြီး ၂၀၂၂ ခုနှစ်၊ မေလ ၂၄ ရက်တွင် ဂျပန်နိုင်ငံ တိုကျို မြို့၌ လက်ခံကျင်းပခဲ့သည်။ ၂၀၂၃ ခုနှစ်၊ မတ်လ ၃ ရက်တွင် အိန္ဒိယနိုင်ငံ နယူးဒေလီမြို့၌ ကျင်းပခဲ့သည်။

## စက်မှုထိပ်သီးနိုင်ငံများ၊ အဖွဲ့ဝင်နိုင်ငံများ (G - 20)

၁။ အာဂျင်တီးနား
၂။ တရုတ်
၃။ ဩစတြေးလျ
၄။ ဂျာမနီ
၅။ ဘရာဇီးလ်
၆။ ပြင်သစ်
၇။ ကနေဒါ
၈။ အိန္ဒိယ
၉။ အင်ဒိုနီးရှား
၁၀။ ရုရှား
၁၁။ အီတလီ
၁၂။ အမေရိကန်
၁၃။ ဂျပန်
၁၄။ မက္ကဆီကို
၁၅။ ဆော်ဒီအာရေဗျ
၁၆။ တောင်အာဖရိက
၁၇။ တောင်ကိုရီးယား
၁၈။ တူကီယဲ (တူရကီ)
၁၉။ ဗြိတိန်
၂၀။ ဥရောပသမဂ္ဂ

## သုံးနိုင်ငံလုံခြုံရေးစာချုပ် (AUKUS)

အင်ဒို-ပစိဖိတ်ဒေသဆိုင်ရာလုံခြုံရေးအတွက် ဩစတြေးလျ(A)၊ ဗြိတိန် (UK)နှင့် အမေရိကန် (US) တို့သည် ၂၀၂၁ ခုနှစ်၊ စက်တင်ဘာလ ၁၅ ရက်နေ့တွင် သုံးနိုင်ငံလုံခြုံရေး စာချုပ် AUKUS ကို ချုပ်ဆိုခဲ့သည်။ စာချုပ်အရ အမေရိကန်နှင့် ဗြိတိန်တို့သည် ဩစတြေးလျ အား နျူကလီးယားစွမ်းအင်သုံး ရေငုပ်သင်္ဘောများဝယ်ယူရန် ကူညီပေးရမည်ဖြစ်သည်။

အဆိုပါစာချုပ်တွင် အဆင့်မြင့်ဆိုက်ဘာ၊ ဉာဏ်ရည်တုနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်၊ ကွမ်တမ် နည်းပညာများ၊ ပင်လယ်ရေအောက်စွမ်းရည်များ၊ အသံထက်မြန်နှုန်းမြင့်သော ဒုံးကျည်များ၊ အီလက်ထရွန်းနစ်စစ်ပွဲ၊ ဆန်းသစ်တီထွင်မှုနှင့် သတင်းအချက်အလက်မျှဝေခြင်းဆိုင်ရာ ပူးပေါင်းဆောင်ရွက်မှုတို့လည်း ပါဝင်သည်။ နယူးဇီလန်နှင့် ကနေဒါတို့ပါဝင်သော Five Eyes ထောက်လှမ်းရေးမဟာမိတ်အဖွဲ့မှခွဲထွက်ကာ စစ်ရေးစွမ်းရည်ကို အဓိကထားလုပ်ဆောင် သည်။

# ကမ္ဘာ့တောင်ခြမ်းနိုင်ငံများအဖွဲ့ (Brazil, Russia, India and China and South Afica Association) (BRICS)

ကမ္ဘာ့တောင်ခြမ်းနိုင်ငံများအဖွဲ့(BRIC) ကို ဘရာဇီးလ်၊ ရုရှား၊ အိန္ဒိယနှင့် တရုတ်တို့ဖြင့် ၂၀၀၆ ခုနှစ်၊ ဇွန်လက စတင်ဖွဲ့စည်းခဲ့သည်။ ၂၀၁၀ ပြည့်နှစ်တွင် တောင်အာဖရိကနိုင်ငံ ပါဝင်လာရာ (BRICS) ဟု ပြောင်းလဲခေါ်ဆိုခဲ့သည်။ ရည်ရွယ်ချက်မှာ စီးပွားရေးထွန်းသစ်စ နိုင်ငံများနှင့် ဖွံ့ဖြိုးဆဲကမ္ဘာ့တောင်ခြမ်းနိုင်ငံများအကြား ပူးပေါင်းဆောင်ရွက်ရေးနှင့် ကမ္ဘာ့ ဖွံ့ဖြိုးတိုးတက်မှုတို့ ပူးပေါင်းဆောင်ရွက်ရေးဖြစ်သည်။ အစည်းအဝေးကို နှစ်စဉ်ကျင်းပလေ့ ရှိပြီး အိမ်ရှင်အဖြစ်အဖွဲ့ဝင်နိုင်ငံများတွင် အလှည့်ကျကျင်းပသည်။ ပထမအကြိမ်ထိပ်သီး အစည်းအဝေးကို ၂၀၀၉ ခုနှစ်၊ ဇွန်လ (၁၆) ရက်နေ့က ရုရှားတွင်ကျင်းပခဲ့သည်။ (၁၂) ကြိမ်မြောက်ထိပ်သီးအစည်းအဝေးကို ၂၀၂၀ ပြည့်နှစ်က ရုရှားနိုင်ငံက အိမ်ရှင်နိုင်ငံအဖြစ် ကျင်းပရန်ဖြစ်သော်လည်း ကိုဗစ်-၁၉ ကပ်ရောဂါကြောင့် Video Conferencing ဖြင့် ကျင်းပခဲ့သည်။ အလားတူ (၁၃) ကြိမ်မြောက် ထိပ်သီးအစည်းအဝေးကို Video Conferencing ဖြင့် အိန္ဒိယနိုင်ငံက အိမ်ရှင်နိုင်ငံအဖြစ် ၂၀၂၁ ခုနှစ်က ကျင်းပခဲ့သည်။ (၁၄) ကြိမ်မြောက် ထိပ်သီးအစည်းအဝေးကို ၂၀၂၂ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်နေ့တွင် တရုတ်နိုင်ငံ၌ ကျင်းပခဲ့ သည်။ (၁၅) ကြိမ်မြောက် ထိပ်သီးအစည်းအဝေးကို တောင်အာဖရိကနိုင်ငံတွင် ၂၀၂၃ ခုနှစ်၊ ဩဂုတ်လ၌ ကျင်းပမည်ဖြစ်သည်။

# အာရှ-ဥရောပထိပ်သီးအစည်းအဝေး(Asia-Europe Meeting)(ASEM)

အေဆမ်ကို ၁၉၉၆ ခုနှစ်၊ မတ်လ ၁ ရက်နေ့က ထိုင်းနိုင်ငံ ဘန်ကောက်မြို့၌ ကျင်းပ ခဲ့ရာ ပထမအကြိမ်မြောက် အာရှ-ဥရောပ ထိပ်သီးအစည်းအဝေးတွင် ဖွဲ့စည်းခဲ့သည်။ နိုင်ငံရေး၊ စီးပွားရေးနှင့် လူမှုရေး၊ ယဉ်ကျေးမှုနှင့် ပညာရေးမဏ္ဍိုင် (၃) ရပ်ကို အဓိကအလေးထား ဆွေးနွေးဆောင်ရွက်သည်။ အေဆမ်တွင် နိုင်ငံတကာအဖွဲ့အစည်း (၂) ခုဖြစ်သည့် အာဆီယံ၊ ဥရောပသမဂ္ဂတို့နှင့်အတူ အဖွဲ့ဝင်နိုင်ငံပေါင်း ၅၃ နိုင်ငံပါဝင်သည်။ အေဆမ်ကိုတည်ထောင် ခဲ့စဉ်က အီးယူအဖွဲ့ဝင် ၁၅ နိုင်ငံနှင့် အာဆီယံ ၇ နိုင်ငံသာပါဝင်သည်။ ၂၀၀၄ ခုနှစ်က ဗီယက်နမ်နိုင်ငံ ဟနွိုင်းမြို့၌ ကျင်းပခဲ့သည့် (၅) ကြိမ်မြောက် အေဆမ်ထိပ်သီးအစည်း အဝေးတွင် နောက်ထပ်အီးယူအဖွဲ့ဝင် ၁၀ နိုင်ငံနှင့် မြန်မာအပါအဝင် အာဆီယံ ၃ နိုင်ငံတို့ အဖွဲ့ဝင်ဖြစ်လာခဲ့သည်။

၂၀၀၈ ခုနှစ်တွင် တရုတ်၊ ဂျပန်နှင့် တောင်ကိုရီးယားတို့သည်လည်းကောင်း၊ ၂၀၁၀ ပြည့်နှစ်တွင် အိန္ဒိယ၊ မွန်ဂိုလီးယား၊ ပါကစ္စတန်၊ ဩစတြေးလျ၊ ရုရှားနှင့် နယူးဇီလန်တို့ သည်လည်းကောင်း၊ ၂၀၁၂ ခုနှစ်တွင် ဘင်္ဂလားဒေ့ရှ်၊ နော်ဝေနှင့် ဆွစ်ဇာလန်နိုင်ငံတို့သည်

လည်းကောင်း၊ ၂၀၁၄ ခုနှစ်တွင် ခရိုအေးရှားနှင့် ကာဇက်စတန်တို့သည်လည်းကောင်း အဖွဲ့ဝင်နိုင်ငံများ ဖြစ်လာခဲ့သည်။

အေဆမ်ထိပ်သီးအစည်းအဝေးများကို အာရှနှင့် ဥရောပဒေသတွင် နှစ်ကြိမ်အလှည့်ကျ ကျင်းပလျက်ရှိပြီး နိုင်ငံခြားရေးဝန်ကြီးများ ထိပ်သီးအစည်းအဝေးကိုလည်း နှစ်နှစ်လျှင် တစ်ကြိမ် ကျင်းပသည်။ ပထမဆုံးအကြိမ်ထိပ်သီးအစည်းကို ၁၉၉၆ ခုနှစ်တွင် ထိုင်းနိုင်ငံ ဘန်ကောက်မြို့၌ ကျင်းပခဲ့သည်။ (၁၂) ကြိမ်မြောက် ထိပ်သီးအစည်းအဝေးကို ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၂၀ ရက်မှ ၂၁ ရက်နေ့အထိ နေပြည်တော်၌ ကျင်းပခဲ့သည်။ (၁၃) ကြိမ်မြောက် အစည်းအဝေးကို ၂၀၂၀ ပြည့်နှစ်၊ နိုဝင်ဘာလ ၁၆ ရက်မှ ၁၇ ရက်အထိ ကမ္ဘောဒီးယားနိုင်ငံ ဖနွမ်ပင်မြို့၌ ကျင်းပရန် လျာထားခဲ့သော်လည်း ကိုဗစ်-၁၉ ကပ်ရောဂါကြောင့် ၂၀၂၁ ခုနှစ်၊ ဇူလိုင်လမှသာ ကျင်းပပြုလုပ်ခဲ့သည်။

## အာရှ-ပစိဖိတ်စီးပွားရေး ပူးပေါင်းဆောင်ရွက်ရေးအဖွဲ့ (Asia-Pacific Economic Cooperation) (APEC)

အာဆီယံ ၆ နိုင်ငံနှင့် ပစိဖိတ်ဒေသတွင်းရှိ အာဆီယံဆွေးနွေးဖက် ၆ နိုင်ငံတို့သည် ဩစတြေးလျနိုင်ငံ၊ ကင်ဘာရာမြို့၌ ၁၉၈၉ ခုနှစ် နိုဝင်ဘာလတွင် အလွတ်သဘော တွေ့ဆုံဆွေးနွေးခဲ့ရာမှ အာရှ-ပစိဖိတ် စီးပွားရေးပူးပေါင်းဆောင်ရွက်မှုအဖွဲ့ (APEC) ကို စတင်ဖွဲ့စည်းခဲ့သည်။ အဖွဲ့၏အဓိကရည်ရွယ်ချက်မှာ ကုန်သွယ်ရေးနှင့်ရင်းနှီးမြှုပ်နှံမှုတွင် ဘက်စုံစီးပွားရေးပူးပေါင်းဆောင်ရွက်မှုမြှင့်တင်ရန် ဖြစ်သည်။

ဩစတြေးလျ၊ ဘရူနိုင်း၊ ကနေဒါ၊ အင်ဒိုနီးရှား၊ ဂျပန်၊ တောင်ကိုရီးယား၊ မလေးရှား၊ နယူးဇီလန်၊ ဖိလစ်ပိုင်၊ စင်ကာပူ၊ ထိုင်းနှင့် အမေရိကန်စသည့် နိုင်ငံပေါင်း ၁၂ နိုင်ငံဖြင့် စတင်ဖွဲ့စည်းခဲ့ခြင်းဖြစ်သည်။ ၁၉၉၁ ခုနှစ်တွင် တရုတ်၊ ဟောင်ကောင်၊ တိုင်ပေ၊ ၁၉၉၃ ခုနှစ်တွင် မက္ကဆီကိုနှင့် ပါပူဝါးနယူးဂီနီ၊ ၁၉၉၄ ခုနှစ်တွင် ချီလီ၊ ၁၉၉၈ ခုနှစ်တွင် ပီရူး၊ ရုရှားနှင့် ဗီယက်နမ်နိုင်ငံတို့သည် အဖွဲ့ဝင်နိုင်ငံများဖြစ်လာခဲ့ရာ ယခုအခါ အဖွဲ့ဝင်နိုင်ငံပေါင်း ၂၁ နိုင်ငံ ရှိသည်။ အဖွဲ့၏ဌာနချုပ်နှင့် လက်ရှိအတွင်းရေးမှူးချုပ်ရုံးတို့ကို စင်ကာပူနိုင်ငံ ကွင်းစ်တောင်းမြို့၌ ဖွင့်လှစ်ထားရှိသည်။

အေပက်အဖွဲ့ဝင် နိုင်ငံခြားရေးဝန်ကြီးများနှင့် စီးပွားရေးဝန်ကြီးများ အစည်းအဝေးကို နှစ်စဉ်ကျင်းပလျက်ရှိရာ ဥက္ကဋ္ဌတာဝန်ကို နှစ်စဉ်အလှည့်ကျ တာဝန်ယူရသည်။ အာရှ-ပစိဖိတ်နှင့် အခြားနိုင်ငံ၏ စီးပွားရေးအကျိုးစီးပွားအတွက် ကုန်သွယ်ရေးစနစ်ဖွင့်လှစ်ပေးမှု တိုးတက်ခိုင်မာစေရန် အေပက်အဖွဲ့မှ ကြိုးပမ်းလျက်ရှိသည်။ အခြားနိုင်ငံများကို မထိခိုက်စေဘဲ အဖွဲ့ဝင်နိုင်ငံများအကြား ကုန်သွယ်မှု၊ ဝန်ဆောင်မှုနှင့် ရင်းနှီးမြှုပ်နှံမှုတို့တွင် အတားအဆီးများလျော့ပေါ့ရေးကိုလည်း ဆောင်ရွက်လျက်ရှိသည်။ (၂၉) ကြိမ်မြောက် အေပက်ထိပ်သီးအစည်းအဝေးကို ၂၀၂၂ ခုနှစ်၊ နိုဝင်ဘာလတွင် ထိုင်းနိုင်ငံ ဘန်ကောက်မြို့၌ ကျင်းပခဲ့သည်။ (၃၀) ကြိမ်မြောက် အေပက်ထိပ်သီးအစည်းအဝေးကို ၂၀၂၃ ခုနှစ်၊ နိုဝင်ဘာလတွင် အမေရိကန်နိုင်ငံ ဆန်ဖရန်စစ္စကိုမြို့တွင် ကျင်းပမည်ဖြစ်သည်။

# ရုရှား-ယူကရိန်းစစ်ပွဲ မှတ်တမ်းများ

## ၂၀၂၂ခုနှစ်၊ ဖေဖော်ဝါရီလ

အနောက်နိုင်ငံခေါင်းဆောင်များသည် ရုရှားသမ္မတပူတင်နှင့် စေ့စပ်ညှိနှိုင်းရန် ကြိုးစားနေစဉ်မှာပင် ရုရှားတပ်ဖွဲ့ဝင်များသည် ယူကရိန်းနယ်စပ်တွင် သတင်းပတ်အတော်ကြာ ဖြန့်ကြက်ချထားခဲ့ပြီးဖြစ်သည်။ သမ္မတပူတင်သည် Donetsk နှင့် Luhansk တို့ကို လွတ်လပ်သော ပြည်သူ့သမ္မတနိုင်ငံများအဖြစ်လည်း အသိအမှတ်ပြုကြောင်း ကြေညာခဲ့သည်။

အမေရိကန်အစိုးရသည် ရုရှားဘဏ်များအား ဒဏ်ခတ်ပိတ်ဆို့ခြင်း၊ အမေရိကန်ငွေကြေးဈေးကွက်တွင် အမေရိကန်ဘွန်းများ ရောင်းချခြင်းကို တားမြစ်ခြင်း၊ သမ္မတပူတင်နှင့် နီးစပ်သည့် သန်းကြွယ်သူဌေးကြီးများ ပိုင်ဆိုင်သော ပိုင်ဆိုင်မှုများကို သိမ်းဆည်းခြင်းများ ပြုလုပ်ကြောင်း ကြေညာခဲ့သည်။

ဥရောပသမဂ္ဂသည်လည်း ရုရှားလွှတ်တော်(ဒူးမား) အမတ် ၃၅၁ ဦး၏ ပိုင်ဆိုင်မှုများကို ထိန်းချုပ်ကြောင်း ကြေညာခဲ့သည်။ ယူကရိန်းအစိုးရကလည်း နိုင်ငံတော်အရေးပေါ်အခြေအနေ ကြေညာခဲ့သည်။ ရုရှားတပ်ဖွဲ့ဝင်များသည် Luhansk, Chernihiv နှင့် Kharkiv တို့ကို အရှေ့ဘက်မှ လည်းကောင်း၊ Odessa နှင့် Mariupol မြို့များကို ရေကြောင်းမှလည်းကောင်း စတင်ဝင်ရောက်ခဲ့သည်။ ယူကရိန်းနိုင်ငံ၏မြို့တော် Kyiv မြို့ကိုလည်း ဒုံးကျည်များထိမှန်ခဲ့သည်။ အထူးသဖြင့် စစ်ဖက်ဆိုင်ရာ အခြေစိုက်စခန်းများကို ပစ်မှတ်ထားတိုက်ခိုက်ခဲ့သည်။ သေကျေဒဏ်ရာရရှိမှုကို အတိအကျ မသိရပါ။

ရုရှားတပ်ဖွဲ့ဝင်များ ယူကရိန်းမှ ပြန်လည်ဆုတ်ခွာရန် တောင်းဆိုသည့် ကုလသမဂ္ဂ လုံခြုံရေးကောင်စီ၏ ဆုံးဖြတ်ချက်မူကြမ်းကို ရုရှားနိုင်ငံက ဗီတိုအာဏာသုံး၍ ပယ်ချခဲ့သည်။ ယူကရိန်းပြည်သူ ဒုက္ခသည်ပေါင်း တစ်သိန်းခန့်သည် ပိုလန်နိုင်ငံသို့ ရောက်ရှိခဲ့သည်။ ယူကရိန်းနိုင်ငံ မြို့တော် Kyiv တွင် ညမထွက်ရအမိန့်ကို ထုတ်ပြန်ထားပါသည်။ အမေရိကန်အစိုးရသည် ယူကရိန်းသမ္မတ ဇဲလန်စကီးအား ကယ်ထုတ်ရန် ကမ်းလှမ်းခဲ့သော်လည်း သမ္မတဇဲလန်စကီးက ငြင်းဆိုခဲ့ရာ ၎င်းထွက်ပြေးသွားပြီဆိုသည့် ကောလာဟလများကို အဆုံးသတ်စေခဲ့ပါသည်။

ရုရှားတပ်ဖွဲ့ဝင်များသည် မြို့တော် Kyiv သို့ ချီတက်လာစဉ် Kharkiv နှင့် Kherson တို့မှ အပြင်းအထန်ခုခံမှုနှင့် ရင်ဆိုင်ခဲ့ရပြီး သေကျေဒဏ်ရာရရှိမှု မြင့်တက်ခဲ့ပါသည်။ ယူကရိန်းအစိုးရဘက်က ထုတ်ပြန်ချက်အရ ရုရှားတပ်ဖွဲ့ဝင် ၄၅၀၀ သေဆုံးခဲ့ပြီး တင့်ကား ၁၅၀ စီး၊ ဂျက်တိုက်လေယာဉ် ၇ စီး၊ ရဟတ်ယာဉ် ၂၆ စီး၊ သံချပ်ကာယာဉ်အစီး ၇၀၀ တို့ကို ဖျက်ဆီးနိုင်ခဲ့သည်ဟု ဆိုပါသည်။ ဥရောပသမဂ္ဂသည် ၎င်း၏လေကြောင်းပိုင်နက်

အတွင်း ရုရှားလေကြောင်းလိုင်းများ ပျံသန်းခွင့်နှင့် ရုရှားရုပ်သံလိုင်းများကိုလည်း ပိတ်ပစ်ခဲ့သည်။

ရုရှား၊ ယူကရိန်း နှစ်ဖက်ကိုယ်စားလှယ်အဖွဲ့သည် ဘီလာရုနယ်စပ်တွင် ပထမအကြိမ် အပစ်အခတ်ရပ်စဲရေးကို ဆွေးနွေးခဲ့ကြသည်။ သို့သော် ငါးနာရီအကြာ ဆွေးနွေးမှုအပြီးတွင် သဘောတူညီချက်တစ်စုံတစ်ရာ မရရှိခဲ့ပါ။ ယူကရိန်းအစိုးရသည် ဥရောပသမဂ္ဂသို့ ဝင်ရောက်ရန်ကြိုးပမ်းခဲ့သည်။ ရုရှားတပ်ဖွဲ့ဝင်များသည် ယူကရိန်းနိုင်ငံ၏ ဒုတိယအကြီးဆုံးမြို့ဖြစ်သည့် Kharkiv မြို့ကို ဗုံးကြဲတိုက်ခိုက်ခဲ့သည်။ လူဦးရေ ၁ ဒသမ ၅ သန်းရှိသည့် အဆိုပါ မြို့တွင် ပြည်သူ ၁၁ ဦး သေဆုံးခဲ့သည်။

## ၂၀၂၂ခုနှစ်၊ မတ်လ

ရုရှားတပ်ဖွဲ့ဝင်များသည် မြို့တော် Kyiv ၏ ဆင်ခြေဖုံးဒေသများနှင့် Kharkiv မြို့လယ်တွင် ဒုံးကျည်ဖြင့် တိုက်ခိုက်မှုများ ဆက်လက်ပြုလုပ်နေပါသည်။ သမ္မတဂျိုးဘိုင်ဒန်သည် ၎င်း၏ပထမဆုံးနိုင်ငံတော်အခြေပြမိန့်ခွန်းတွင် ယူကရိန်းပဋိပက္ခအကြောင်းကို ထည့်သွင်းပြောဆိုခဲ့ပြီး လေယာဉ်မပျံသန်းရဇုန် (No Fly Zone) သတ်မှတ်ပေးရန် ယူကရိန်းသမ္မတ ဇဲလန်စကီး၏ တောင်းဆိုချက်ကို လိုက်လျောရန် ငြင်းဆိုခဲ့သည်။

ယူကရိန်းကို တိုက်ခိုက်ခဲ့ခြင်းနှင့်ပတ်သက်၍ ရုရှားနိုင်ငံကို ပြစ်တင်ရှုံ့ချသည့် ဆုံးဖြတ်ချက်တစ်ရပ်ကို ကုလသမဂ္ဂအထွေထွေညီလာခံတွင် မဲခွဲဆုံးဖြတ်ခဲ့ရာ အဖွဲ့ဝင် ၁၉၃ နိုင်ငံတွင် ၁၄၁ နိုင်ငံက ထောက်ခံခဲ့သည်။ တရုတ်နိုင်ငံသည် အဆိုပါ မဲခွဲဆုံးဖြတ်မှုတွင် မဲမပေးဘဲနေခဲ့သည်။ ရုရှားတပ်ဖွဲ့များသည် Zaporizhzhia နျူးကလီးယားစက်ရုံကို သိမ်းပိုက်ခဲ့သည်။

ယူကရိန်းဒုက္ခသည် တစ်သန်းအထိ ရှိလာခဲ့ပြီး ရုရှားတပ်ဖွဲ့များကလည်း မစ်ဆိုင်းဒုံးကျည် ၄၈၀ ကျော်အထိ ပစ်ခတ်တိုက်ခိုက်ခဲ့သည်။ ယူကရိန်းတပ်ဖွဲ့များ၏ ခုခံမှုမှာလည်း အားကောင်းနေဆဲဖြစ်သည်။ နှစ်ဖက်ကိုယ်စားလှယ်အဖွဲ့ကြား အပစ်အခတ်ရပ်စဲရေးဆွေးနွေးမှု အောင်မြင်မှုမရှိဘဲ အဆုံးသတ်ခဲ့သော်လည်း မြို့များတွင် ပိတ်မိနေသည့် အရပ်သားများကို လုံခြုံဘေးကင်းသည့်လမ်းကြောင်းမှ ထွက်ခွာနိုင်မည့် သဘောတူညီချက်တစ်ရပ်ရရှိခဲ့သည်။ ဥရောပသမဂ္ဂကလည်း ယူကရိန်းနိုင်ငံသားများကို ဥရောပတွင် သုံးနှစ်ကြာ နေထိုင်အလုပ်လုပ်ခွင့်ပြုမည့် သဘောတူညီချက်တစ်ရပ်ရရှိခဲ့သည်။

၁၉၈၆ ခုနှစ် နျူးကလီးယား ကပ်ဘေးဆိုက်မှုဖြစ်ခဲ့သည့် Chernobyl အပါအဝင် ယူကရိန်းနျူးကလီးယားစက်ရုံများ လုံခြုံမှုရှိစေရေးကုလသမဂ္ဂက တောင်းဆိုခဲ့သည်။ Chernihiv မြို့တွင် လူ ၄၇ ဦးကို သေဆုံးစေခဲ့သည့် ဗုံးကြဲတိုက်ခိုက်မှုပြုလုပ်ခဲ့သည်ဆိုခြင်းနှင့်ပတ်သက်၍ သတင်းအမှားအဖြစ် သမ္မတပူတင်ကပယ်ချခဲ့သည်။ BBC, Radio Free Europe, Deutsche Welle နှင့် လွတ်လပ်သော ရုရှားမီဒီယာဖြစ်သည့် Meduza ကဲ့သို့သော မီဒီယာများကို ကန့်သတ်မှုများ ပြုလုပ်ခဲ့သည်။ သတင်းမှားဖြန့်ချိပါက ထောင်ဒဏ် ၁၅ နှစ်

အထိ ကျခံရမည့် ဥပဒေတစ်ရပ်ကိုလည်း ပြဌာန်းခဲ့သည်။

မြို့တော် Kyiv မြို့နှင့် ၁၄၀ ကီလိုမီတာ အကွာရှိ Chernihiv မြို့တွင် ရုရှားတပ်ဖွဲ့များက ဗုံးကျဲတိုက်ခိုက်မှုများ ပြုလုပ်နေသည့် ပေါက်ကွဲသံများကို ကြားနေရပါသည်။ ရုရှားတပ်ဖွဲ့များကလည်း မြို့တော် Kyiv သို့ ဆက်လက်ချီတက်နေကြပါသည်။

အပစ်အခတ်ရပ်စဲရေး သဘောတူညီချက် ချိုးဖောက်မှုများသည် ဆိပ်ကမ်းမြို့ဖြစ်သည့် Mariupol မြို့ ပြည်သူများအား ကယ်ဆယ်ရေးလုပ်ငန်းစဉ်များကို အဟန့်အတားဖြစ်စေခဲ့ပါသည်။ ယူကရိန်းသမ္မတ ဇဲလန်စကီးနှင့် အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန် ဘဏ္ဍာရေးအကူအညီပေးရန် ဆွေးနွေးခဲ့ကြသည်။ ရုရှားတို့၏ ရေနံသွင်းကုန်အပေါ် ပိတ်ပင်ရန် သမ္မတ ဇဲလန်စကီး၏ မျှော်လင့်ချက်မှာ ပျက်ပြယ်ခဲ့ရသည်။ သမ္မတ ဂျိုးဘိုင်ဒန်သည် စားသုံးသူ ဈေးနှုန်းအပေါ် ဖိအားဖြစ်စေမည်ကို စိုးရိမ်နေခြင်းဖြစ်သည်။

စစ်ပွဲသည် သီတင်းပတ်နှင့်ချီ၍ ကြာလာသည်နှင့်အမျှ ရုရှားနိုင်ငံသည် ၎င်း၏ စစ်ဖက်ဆိုင်ရာ မဟာဗျူဟာကိုသာ ပြောင်းလဲခဲ့မည်ဆိုပါက အသေအပျောက်များမည့် စစ်ပွဲကြီးတစ်ခုအဖြစ် ဦးတည်သွားမည်ကို စိုးရိမ်နေကြသည်။ သမိုင်း၏ ကြီးမားသည့် အချိုးအကွေ့တစ်ခုတွင် ကမ္ဘာလုံးဆိုင်ရာ ငြိမ်းချမ်းရေး၌ ၎င်း၏ ကတိကဝတ်အတိုင်း ပါဝင်ဆောင်ရွက်ရန် ဩစတြေးလျဝန်ကြီးချုပ် Scott Morrison က တရုတ်နိုင်ငံကို တိုက်တွန်းခဲ့သည်။

အမေရိကန်ပြည်ထောင်စုသည် ရုရှားစွမ်းအင်သွင်းကုန်အားလုံးကို ပိတ်ပင်သည့် ဒဏ်ခတ်ပိတ်ဆို့မှုချမှတ်ခဲ့သည်။ ရုရှား၏ သဘာဝဓာတ်ငွေ့အပေါ် မှီခိုနေရမှုကို ယခုနှစ်ကုန်တွင် သုံးပုံနှစ်ပုံအထိ လျှော့ချသွားမည်ဖြစ်ကြောင်း ဥရောပကော်မရှင်ကလည်း ထုတ်ဖော်ပြောဆိုခဲ့သည်။ McDonal’s၊ Starbucks၊ PepsiCo နှင့် CocaCola အပါအဝင် အမေရိကန် ထိပ်တန်းကုမ္ပဏီကြီးများသည် ရုရှားနိုင်ငံတွင် လုပ်ငန်းလုပ်ဆောင်မှုကို ရပ်တန့်မည်ဖြစ်ကြောင်း ပြောဆိုခဲ့သည်။

မြို့ကြီးများတွင်ပိတ်မိနေသည့် ယူကရိန်းပြည်သူများကို ကယ်ဆယ်ရန် ကြိုးပမ်းအားထုတ်မှုမှာလည်း တိုးတက်မှုတစ်စုံတစ်ရာမရှိခဲ့ပါ။ တောင်ပိုင်းရှိ ဆိပ်ကမ်းမြို့တစ်မြို့ဖြစ်သည့် Mariupol ရှိ ဆေးရုံတစ်ရုံကို ရုရှားတပ်ဖွဲ့များက တိုက်ခိုက်ခဲ့ကြောင်း ယူကရိန်းအရာရှိများက ပြောဆိုခဲ့သည်။ လေယာဉ်မပျံသန်းရဇုန်သတ်မှတ်ပေးရန် ယူကရိန်း၏ တောင်းဆိုမှုကို အမေရိကန်နှင့် ဗြိတိန်ထိပ်တန်းသံတမန်များက ထပ်မံပယ်ချခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် Mariupol မှ လူသားချင်းစာနာထောက်ထားမှုဆိုင်ရာ ထောက်ပံ့ရေးပစ္စည်းများ မရောက်ရှိနိုင်ရန် ဘေးကင်းသော ဗုံးကြဲမှုဖြင့် တိုက်ခိုက်ခဲ့သည်။ ရုရှားနိုင်ငံခြားရေးဝန်ကြီး Sergey Lavrov နှင့် ယူကရိန်းနိုင်ငံခြားရေးဝန်ကြီး Dmytro Kuleba တို့သည် စစ်ပွဲစတင်ကတည်းက တူကီယဲ (တူရကီ)တွင် တွေ့ဆုံအမြင့်ဆုံးအဆင့်ဆွေးနွေးပွဲကို ဆောင်ရွက်ခဲ့သော်လည်း အောင်မြင်မှုမရရှိခဲ့ပေ။

ရုရှားနိုင်ငံမှ ရေနံတင်သွင်းမှု တားမြစ်ချက်ကို အမေရိကန်အောက်လွှတ်တော်က အတည်ပြုခဲ့သည်။ အမေရိကန်က ယူကရိန်းကို ၁၃ ဒသမ ၆ဘီလီယံ အကူအညီပေးရေးကို အမေရိကန်ကွန်ကရက်က သဘောတူညီခဲ့သည်။

ကုလသမဂ္ဂဒုက္ခသည်များဆိုင်ရာ အေဂျင်စီက ယူကရိန်းဒုက္ခသည်အရေအတွက် ၂ ဒသမ ၅ သန်း ကျော်သွားပြီဟု ပြောသည်။ အမေရိကန်နိုင်ငံသည် G7 နိုင်ငံများ၏ ထောက်ခံမှုကိုရယူပြီး ရုရှားအပေါ် ပိတ်ဆို့အရေးယူမှုအသစ်ကို လုပ်ဆောင်လျက်ရှိသည်။ ရုရှားတပ်ဖွဲ့ဝင်များသည် Kyivမြို့ ဆင်ခြေဖုံးဒေသများတွင် ညလုံးပေါက်တိုက်ခိုက်မှုများ ပြုလုပ်ခဲ့သည်။ ရုရှားတပ်ဖွဲ့များသည် အနောက်ဖက်သို့ ပစ်မှတ်များကို ချဲ့ထွင်ခဲ့ပြီး Yauoriv မြို့ရှိ စစ်အခြေစိုက်စခန်းမှနေ၍ ခရုဒ်ုံးကျည် ၃၀ ဖြင့် ပစ်ခတ်ခဲ့သည်။

ယူကရိန်းစစ်ပွဲသည် စီစဉ်ထားသည့်အတိုင်းဖြစ်မလာကြောင်း ပူတင်၏ထိပ်တန်းလက်ထောက်တစ်ဦးဖြစ်သည့် Viktor Zolotov က ဝန်ခံပြောကြားခဲ့သည်။ ချက်၊ ပိုလန်နှင့် စလိုဗေးနီးယန်း ဝန်ကြီးချုပ်များသည် ကီယက်ဗ်မြို့သို့ သွားရောက်မည်ဖြစ်ကြောင်း ထုတ်ပြန်ခဲ့သည်။ နေတိုးအဖွဲ့ဝင်ဖြစ်ရေးသည် ယူကရိန်းအတွက် အဓိကရည်မှန်းချက်မဟုတ်ကြောင်း ရုရှားနိုင်ငံနှင့်ဖြစ်နိုင်သည့်နည်းလမ်းများကို အသုံးပြုပြီး ဆက်လက် စေ့စပ်ညှိနှိုင်းသွားမည်ဖြစ်ကြောင်း ယူကရိန်းသမ္မတ ဇဲလန်စကီးက ဥရောပသမဂ္ဂ အရာရှိများကို ထုတ်ဖော်ပြောဆိုခဲ့သည်။

ယူကရိန်းအစိုးရအနေဖြင့် ကြားနေရေးမူဝါဒကို ကျင့်သုံးမည်ဆိုပါက အပြန်အလှန်အားဖြင့် ရုရှားတပ်ဖွဲ့များ ဆုတ်ခွာပြီး လုံခြုံရေး အာမခံချက်ပေးမည့်ကိစ္စကို ဆွေးနွေးနေကြကြောင်း ရုရှားနှင့် ယူကရိန်း စေ့စပ်ညှိနှိုင်းရေးမှူးများက ထုတ်ဖော် ပြောဆိုခဲ့သည်။

ရုရှားတပ်ဖွဲ့များအနေဖြင့် မြို့တော် Kyiv တွင် စစ်ဆင်ရေးပြုလုပ်နေမှုကို ချက်ချင်းရပ်တန့်ရန် ကုလသမဂ္ဂထိပ်တန်း တရားရုံးကအမိန့်ချမှတ်ခဲ့မှုကို ရုရှားအစိုးရကပယ်ချခဲ့သည်။ အစောပိုင်းနစ်ရက်က Mariupol မြို့ မြူနီစီပယ်ပြဇာတ်ရုံ အပျက်အစီးများကြားမှ လူပေါင်း ၁၃၀ ကို ကယ်ထုတ်နိုင်ခဲ့ကြောင်း ယူကရိန်းအစိုးရက ထုတ်ဖော်ပြောဆိုခဲ့ပြီး အပျက်အစီးများကြားတွင်ရာနှင့်ချီ၍ပိတ်မိနေနိုင်ကြောင်းလည်းသတိပေးပြောဆိုခဲ့သည်။

ရုရှားတပ်ဖွဲ့များအနေဖြင့် ယူကရိန်းကိုဝင်ရောက်တိုက်ခိုက်ခဲ့သည်မှာ သီတင်းသုံးပတ်ကြာမြင့်ခဲ့ပြီဖြစ်သော်လည်း ယူကရိန်းလေပိုင်နက်ကို ထိန်းချုပ်နိုင်ခြင်းမရှိသည့်အတွက် ရုရှားတို့၏ စစ်ဆင်ရေးတိုးတက်မှုမရှိကြောင်း ဗြိတိန်ကာကွယ်ရေးဝန်ကြီးဌာနက ထုတ်ဖော်ပြောဆိုခဲ့သည်။

ရုရှားတို့၏ လေကြောင်းတိုက်ခိုက်မှုကြောင့် အရပ်သား ၄၀၀ ခန့် ခိုလှုံနေသည့် အနုပညာကျောင်းတစ်ကျောင်း ပျက်စီးခဲ့သည်။ ယူကရိန်းတွင် နိုင်ငံအတွင်းမှ ထွက်ခွာသွားသူများ အပါအဝင် အိုးအိမ်စွန့်ခွာထွက်ပြေးသူ ၁၀ သန်းကျော်ရှိကြောင်း ကုလသမဂ္ဂက ထုတ်ဖော်ပြောဆိုထားသည်။

Mariupol မြို့တွင် လက်နက်ချရန် ရုရှားတပ်ဖွဲ့၏ ရာဇသံပေးမှုကို ယူကရိန်းတပ်ဖွဲ့များက ပယ်ချခဲ့သည်။ ယူကရိန်းတွင် ဓာတုနှင့် ဇီဝလက်နက်များရှိကြောင်း သမ္မတပူတင်က အခိုင်အမာ ပြောဆိုနေခြင်းသည် ၎င်းအနေဖြင့် အဆိုပါနှစ်မျိုးလုံးကိုအသုံးပြုရန် စဉ်းစားနေခြင်းဖြစ်ကြောင်း သမ္မတဂျိုးဘိုင်ဒန်က ပြောဆိုခဲ့သည်။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် ရုရှားတပ်ဖွဲ့ဝင်များအား မြို့တော် Kyiv အရှေ့ဘက်မျက်နှာစာတွင် ပြန်လည်တွန်းလှန်နိုင်ခဲ့ကြောင်း၊ ရုရှားတပ်ဖွဲ့များအနေဖြင့် ယူကရိန်းအရှေ့ပိုင်း Donbas ဒေသတွင် တိုက်ခိုက်မှုများ ဖိဖိစီးစီး ပိုမိုလုပ်ဆောင်လာကြောင်း အမေရိကန်ကာကွယ်ရေး အဆင့်မြင့်အရာရှိတစ်ဦးက ထုတ်ဖော်ပြောဆိုခဲ့သည်။

ရုရှားရေတပ်သင်္ဘောတစ်စီးပေါ်တွင် ပေါက်ကွဲမှု ဖြစ်ပွားခဲ့သည်။ အဆိုပါ သင်္ဘောကို Tochka ballistic မစ်ဆိုင်းဖြင့် ပစ်ခတ်ခဲ့ခြင်းဖြစ်ကြောင်း ယူကရိန်းတပ်ဖွဲ့များက အခိုင်အမာပြောဆိုခဲ့သည်။ အဆိုပါသင်္ဘောကို လိုက်ပါခြံရံပေးသည့် အခြားသင်္ဘောနှစ်စင်းမှာလည်း ဆိပ်ကမ်းမှ အမြန်ထွက်ခွာသွားခဲ့သည်။

ယူကရိန်းတပ်ဖွဲ့များသည် မြို့တော် Kyiv ၏ အရှေ့ဘက်သို့ ချဉ်းကပ်လာသည့် ရုရှားတပ်ဖွဲ့များကို တန်ပြန်တိုက်ခိုက်မှုများပြုလုပ်ခဲ့ပြီး နေရာအချို့ကိုပြန်လည်သိမ်းပိုက်နိုင်ရန် ကြိုးပမ်းခဲ့သည်။ ယူကရိန်းတို့၏ ထိန်းချုပ်မှုအောက်တွင်ရှိသော မြို့အများစုသည် ရုရှားတို့၏ လက်နက်ကြီးပစ်ခတ်မှုများကို ကြံ့ကြံ့ခံနိုင်ခဲ့သည်။

Kakariv, Bucha, Irpin, Bilohorodka အပါအဝင် မြို့တော်၏အရှေ့ဘက်နှင့် အနောက်ဘက်ရှိ ဆင်ခြေဖုံးဒေသများတွင် တိုက်ခိုက်မှုများ ဆက်လက်ဖြစ်ပေါ်နေပါသည်။ မြို့တော် Kyiv ၏ မြောက်ဖက် အသိမ်းပိုက်ခံထားရသည့် Slavutych မြို့တွင်ဒေသခံများက လမ်းပေါ်ထွက် ဆန္ဒပြမှုများ ဖြစ်ပေါ်ပြီးနောက် မြို့ထဲတွင် ယူကရိန်းစစ်သားများမရှိပါက ရုရှားတပ်ဖွဲ့များအနေဖြင့်လည်း ဆုတ်ခွာပေးမည်ဖြစ်ကြောင်း သဘောတူညီခဲ့သည်။ သို့သော် ရုရှားတပ်ဖွဲ့များသည် Slavutych မြို့အပြင်ဘက်တွင် စစ်ဆေးရေးဂိတ်တစ်ခုကို ဖွင့်လှစ်ထားခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် Lutsk, Kharkiv, Zhytomyr, Rivne မြို့များအပါအဝင် ယူကရိန်း နိုင်ငံတစ်ဝန်းတွင် မစ်ဆိုင်းဒုံးကျည်ဖြင့် တိုက်ခိုက်မှုများ ဆက်လက်ပြုလုပ်ခဲ့သည်။ ရုရှားမြေပြင်တပ်ဖွဲ့များ၏ ထိုးစစ်တုံ့ဆိုင်းနေခြင်းမှာ မြို့တော်၏ ဆက်သွယ်ရေးလမ်းကြောင်းကိုပိတ်ဆို့ရန် Kyiv မြို့ပတ်ဝန်းကျင်တွင် လမ်းကြောင်းတစ်ခု တည်ဆောက်ရန်နှင့်ပြန်လည်စုဖွဲ့ရန်ကြိုးစားနေခြင်းဖြစ်သည်ဟု ယူကရိန်းကာကွယ်ရေးအရာရှိများက သတင်းထုတ်ပြန်ထားသည်။

ရုရှားတပ်ဖွဲ့များသည် ရုရှားကျောထောက်နောက်ခံပြုထားသော ခွဲထွက်ရေးသမားများ တစ်စိတ်တစ်ပိုင်းထိန်းချုပ်ထားသည့် Donetsk နှင့် Luhansk ဆီသို့ ချီတက်ရန် ပြန်လည်စုဖွဲ့မှုများ ပြုလုပ်နေပြီး ယူကရိန်းတွင် မစ်ဆိုင်းဒုံးကျည်တိုက်ခိုက်မှုများ ပိုမို

ပြုလုပ်ရန် ကမ်းရိုးတန်းနှင့်နီးစပ်သော Black နှင့် Azov ပင်လယ်ထဲတွင် စစ်သင်္ဘောများ ပိုမိုစေလွှတ်နေကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာနက ထုတ်ဖော်ပြောဆိုထားသည်။

ရုရှားနှင့် ယူကရိန်း စေ့စပ်ညှိနှိုင်းရေးမှူးများသည် တူကီယဲ (တူရကီ)နိုင်ငံ အစ္စတန်ဘူမြို့တွင် လူချင်းတွေ့ဆုံဆွေးနွေးမှု ပြုလုပ်ခဲ့သည်။ ယူကရိန်းဘက်ကြားနေရေးမူဝါဒ ချမှတ်ထားကြောင်းနှင့်အပြန်အလှန်အားဖြင့်လုံခြုံရေးအာမခံချက်ပေးရန်တင်ပြဆွေးနွေးခဲ့သည်။

တပ်ဖွဲ့များ ပြန်လည်စုဖွဲ့နိုင်ရေး မြို့တော် Kyiv နှင့် Chernihiv မြို့ ပတ်ဝန်းကျင်တွင် စစ်ရှိန်လျှော့ချခြင်းသည် Donbas ဒေသတွင် အာရုံစိုက်ရန်ဖြစ်ကြောင်း ရုရှားစစ်ဖက်က အခိုင်အမာပြောဆိုခဲ့သည်။ ရုရှားတပ်ဖွဲ့များ အစုအဖွဲ့အလိုက် ရုပ်သိမ်းသည့် မည်သည့် လက္ခဏာမျိုးမှ မတွေ့ရကြောင်း၊ ဒဏ်ရာရသည့်တပ်ဖွဲ့တစ်ချို့ ပြန်လည်ဆုတ်ခွာသည်ကို သာတွေ့ရကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာနကလည်း ထုတ်ပြန်ပြောဆိုထားသည်။

ရုရှားတပ်ဖွဲ့များသည် Donbas ဒေသနှင့် Kharkiv တောင်ဖက်ရှိ Izium, Chernihiv နှင့် Kyiv ဒေသများတွင် လေကြောင်းတိုက်ခိုက်မှုများ တိုးမြှင့်ပြုလုပ်ခဲ့သည်။ ရုရှားတပ်ဖွဲ့ဝင် အများစုသည် Chernobyl နျူးကလီးယားစက်ရုံမှ ပြန်လည်ရုပ်သိမ်းသွားပြီဖြစ်ကြောင်း ယူကရိန်းနိုင်ငံပိုင် နျူးကလီးယားကုမ္ပဏီ Energoatom က ပြောဆိုသည်။

## ၂၀၂၂ ခုနှစ်၊ ဧပြီလ

ယူကရိန်း စစ်လေယာဉ်နှစ်စင်းသည် ရုရှားနိုင်ငံအတွင်း ပျံသန်းပြီးနောက် Belgorod မြို့ရှိ လောင်စာသိုလှောင်ရုံတစ်ခုကို တိုက်ခိုက်ခဲ့သည်။ လုံခြုံရေးကင်မရာများ၏ ပြကွက်အရ ဝေဟင်မှ အနိမ့်ပျံသန်းပြီး ဒုံးကျည်ဖြင့် ပစ်ခတ်တိုက်ခိုက်ခဲ့ခြင်း ဖြစ်ပုံရပါသည်။

ရုရှားတို့ပစ်ခတ်တိုက်ခိုက်ခဲ့သည့် မစ်ဆိုင်းဒုံးကျည်များသည် ဧပြီလ ၂ ရက်နေ့ အစောပိုင်းတွင် ယူကရိန်းနိုင်ငံအလယ်ပိုင်းရှိ Poltava နှင့် Kremenchuk မြို့များရှိ အခြေခံအဆောက်အအုံနှင့် လူနေအိမ်များကို ထိမှန်ပျက်စီးခဲ့ကြောင်း Poltava မြို့ အုပ်ချုပ်ရေးမှူး Dmytro Lunin က ပြောဆိုသည်။ Poltava မြို့သည် Poltava ဒေသ၏ မြို့တော်ဖြစ်ပြီး Kremenchuk သည် အဆိုပါဒေသရှိ မြို့ကြီးများအနက် တစ်မြို့အပါအဝင် ဖြစ်သည်။

Bucha မြို့တွင် လူသေအလောင်းများတွေ့ရသည်ဟု သတင်းများ ထွက်ပေါ်ခဲ့သည်။ အနည်းဆုံး ၂၀ ဦးမှာ ယူကရိန်းနိုင်ငံသား အရပ်သားများဖြစ်ကြောင်း သတင်းထောက်များ ကိုယ်တိုင်မြင်တွေ့ခဲ့ရသည်ဟု ဆိုပါသည်။ Bucha မြို့တော်ဝန်၏ ပြောဆိုချက်အရ လူသေအလောင်း ၂၈၀ လောင်းကို အစုလိုက်အပြုံလိုက် မြှုပ်နှံထားသည်ဟု ဆိုပါသည်။

ယူကရိန်းသမ္မတဇဲလန်စကီးကမူ ရုရှားသမ္မတပူတင်ကို လူမျိုးတုံးသတ်ဖြတ်မှု ကျူးလွန်ကြောင်း စွပ်စွဲပြောဆိုခဲ့ပြီး အနောက်နိုင်ငံများ၏ ရုရှားအပေါ် ဒဏ်ခတ်ပိတ်ဆို့ အရေးယူမှုများသည် လုံလောက်မှုမရှိကြောင်းလည်း ပြောဆိုခဲ့သည်။

ယူကရိန်းသမ္မတဇဲလန်စကီးသည် Bucha မြို့တွင် ဖြစ်ပေါ်ခဲ့သည့်အခြေအနေနှင့် ပတ်သက်၍ ကုလသမဂ္ဂလုံခြုံရေးကောင်စီတွင် မိန့်ခွန်းပြောကြားခဲ့သည်။ ရုရှား-ယူကရိန်း ပဋိပက္ခကို ရပ်တန့်အောင် ထိထိရောက်ရောက် မစွမ်းဆောင်နိုင်ခြင်းအတွက် နိုင်ငံတကာ အဖွဲ့အစည်းများကို ပုပ်ရဟန်းမင်းကြီးဖရန်စစ်က ဝေဖန်ပြောကြားခဲ့သည်။

ရုရှားတပ်ဖွဲ့များအနေဖြင့် Mykolayiv, Kharkiv, Zaporizhzhia နှင့် Chuhuiv စသည့် ယူကရိန်းမြို့များရှိ လောင်စာဆီ သိုလှောင်ရုံလေးခုကို မစ်ဆိုင်းဒုံးကျည်များဖြင့် ပစ်ခတ် ဖျက်ဆီးနိုင်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်သည်။ ယူကရိန်း နိုင်ငံအနေဖြင့် လေကြောင်းကာကွယ်ရေးစနစ်များနှင့် လက်နက်ကြီး အကူအညီများ ပိုမို လိုအပ်ကြောင်း ယူကရိန်းသမ္မတဇဲလန်စကီးက ဂရိလွှတ်တော်တွင် မိန့်ခွန်းပြောကြားစဉ် ထည့်သွင်းပြောဆိုခဲ့သည်။

Odessa မြို့အနီးရှိ နိုင်ငံခြားသား ကြေးစားစစ်သားများအတွက် လေ့ကျင့်ရေးစင်တာ တစ်ခုကို ဖျက်ဆီးနိုင်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ထား သည်။ ရုရှားသမ္မတဗလာဒီမာပူတင်သည် ရုရှားကြည်းတပ် တောင်ပိုင်းစစ်ဒေသ အကြီးအကဲ ဖြစ်သူ ဗိုလ်ချုပ်ကြီး Aleksandr Dvornikov အား ယူကရိန်းစစ်ဆင်ရေး အကြီးအကဲအဖြစ် ခန့်အပ်ခဲ့သည်။ ၎င်းသည် ဆီးရီးယားနိုင်ငံအတွင်း ရုရှားတပ်ဖွဲ့များ စစ်ဆင်ရေးပြုလုပ် ခဲ့စဉ်က နာမည်ရခဲ့သူတစ်ဦးလည်း ဖြစ်သည်။

ယူကရိန်းနိုင်ငံ အရှေ့ပိုင်း Velykyi Burluk မြို့မှ Kharkiv မြို့ဆီသို့ ဦးတည်ချီတက် လာသော ရုရှားတပ်ဖွဲ့ယာဉ်တန်းသည် (၈)မိုင်ခန့်ရှည်လျားကြောင်း ဂြိုဟ်တုမှ ပေးပို့ သည့် ဓာတ်ပုံများအရ သိရသည်။ Dnipro မြို့ တောင်ပိုင်း ဆင်ခြေဖုံးဒေသရှိ ပင်လယ်ပြင် အခြေစိုက် အဆင့်မြင့် Kalibr မစ်ဆိုင်း ဒုံးကျည်များသည် ဥရောပနိုင်ငံ တစ်နိုင်ငံက ယူကရိန်းကို ထောက်ပံ့ထားသော S-300 လေယာဉ်ဖျက်မစ်ဆိုင်းဒုံးကျည်စခန်းမှ အရေးကြီး အစိတ်အပိုင်းတစ်ခုကို ဖျက်ဆီးနိုင်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးက ထုတ်ဖော် ပြောဆိုထားသည်။

ရုရှားတပ်ဖွဲ့များသည် Mariupol မြို့ရှိ ယူကရိန်းစစ်တပ်နှင့် အရပ်သားများအပေါ်သို့ လေယာဉ်ပေါ်ကနေ အမျိုးအမည်မသိအရာတစ်ခုလွှတ်ချခဲ့ကြောင်း သတင်းတစ်ရပ် ထွက်ပေါ် ခဲ့သည်။ ရုရှားကာကွယ်ရေးဝန်ကြီးဌာန၏ ထုတ်ပြန်ချက်တစ်ရပ်အရ ယူကရိန်းအမှတ် ၃၆ မရိန်းတပ်မှ အရာရှိ၁၆၂ဦး အပါအဝင် စစ်သည် ၁၀၂၆ဦးတို့သည် ဆိပ်ကမ်းမြို့ဖြစ်သည့် Mariupol မြို့တွင် လက်နက်ချခဲ့သည်ဟု သိရသည်။ ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာန ကမူ အဆိုပါသတင်းနှင့် ပတ်သက်၍ တစ်စုံတစ်ရာ ထုတ်ပြန်ခြင်း မရှိပါ။

ရုရှားရေတပ်သင်္ဘော Moskva သည် ယူကရိန်းတပ်ဖွဲ့၏ တိုက်ခိုက်မှုကြောင့် ပင်လယ်နက်အတွင်း နစ်မြုပ်သွားခဲ့သည့်။ လက်နက်အပြည့်တပ်ဆင်ထားသော ယူကရိန်း တိုက်လေယာဉ်နှစ်စင်းသည် ရုရှားလေပိုင်နက်အတွင်း ဝင်ရောက်ခဲ့ပြီး Bryansk Oblast

မြို့ရှိ လူနေအဆောက်အအုံများပေါ်တွင် အနည်းဆုံးလေကြောင်းတိုက်ခိုက်မှု ၆ ကြိမ် ပြုလုပ်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက ထုတ်ပြန်ခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် ယူကရိန်း Mi-8 ရဟတ်ယာဉ်တစ်စီးကို ၎င်းတို့၏ S-400 ကာကွယ်ရေးစနစ်အား အသုံးပြုတိုက်ခိုက်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက ထုတ်ပြန်ခဲ့သည်။ ရုရှားတပ်ဖွဲ့များသည် Kyiv မြို့ရှိ လက်နက်ကြီးထုတ်လုပ်သည့် စက်ရုံတစ်ခု အဆောက်အအုံများနှင့် Mykolaiv မြို့ရှိ စစ်လက်နက်ပြင်ဆင်ရေး စက်ရုံတစ်ရုံကို တာဝေးပစ်လက်နက် အသုံးပြုတိုက်ခိုက်ဖျက်ဆီးခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီး ဌာနက ထုတ်ပြန်ခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် Kyiv ဒေသရှိ လက်နက်သိုလှောင်သည့် စက်ရုံတစ်ရုံကို ဖျက်ဆီး ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက ထုတ်ပြန်ခဲ့သည်။ ဒေသအဆင့်အုပ်ချုပ်ရေး မှူး Maksym Kozytskyy ၏ ပြောဆိုချက်အရ Lviv မြို့ကို မစ်ဆိုင်းဒုံးကျည်ငါးလုံး ထိမှန် ခဲ့ပြီး မစ်ဆိုင်းသုံးလုံးမှာ စစ်ဖက်ဆိုင်ရာ အခြေခံအဆောက်အအုံကို ထိမှန်ပျက်စီးစေခဲ့ကာ တစ်လုံးမှာ တာယာဆိုင်တစ်ဆိုင်ကိုထိမှန်ခဲ့ရာ အရပ်သားတချို့ သေကျေခဲ့ကြောင်း သိရသည်။

ရုရှားတပ်ဖွဲ့များသည် Kreminna မြို့ကို သိမ်းပိုက်ခဲ့ပြီး ယူကရိန်းတပ်ဖွဲ့များသည် အဆိုပါမြို့မှ ဆုတ်ခွာသွားပြီဖြစ်ကြောင်း Luhansk ဒေသအုပ်ချုပ်ရေးမှူး Sehiy Haidai က ထုတ်ဖော်ပြောဆိုခဲ့သည်။ ရုရှားတပ်ဖွဲ့များသည် ယူကရိန်းစစ်ဖက်ဆိုင်ရာ စက်ရုံ ၁၀၅၃ ရုံ ကို ညလုံးပေါက် တိုက်ခိုက်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက ထုတ်ပြန်ခဲ့သည်။

Mariupol မြို့ရှိ သံနှင့် သံမဏိစက်ရုံကို ရှင်းလင်းရန် အချိန်သုံးရက်၊ လေးရက် ယူရ မည်ဖြစ်ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီး Sergei Shoigu က ရုပ်သံအစည်းအဝေးတစ်ခု တွင်တင်ပြခဲ့ရာ သမ္မတပူတင်က ယင်းစစ်ဆင်ရေးမှာ လက်တွေ့မကျကြောင်းနှင့် စက်ရုံ ကို ပိတ်ဆို့ထားရန်သာ အမိန့်ပေးခဲ့သည်။

ယူကရိန်းနိုင်ငံအား တိုက်ခိုက်ရသည့် ဒုတိယအဆင့်ရည်ရွယ်ချက်မှာ ယူကရိန်းနိုင်ငံ တောင်ပိုင်းနှင့် Donbas ဒေသကို အပြည့်အဝထိန်းချုပ်ရန်၊ Transnistria နှင့် ကုန်းလမ်း ဆက်သွယ်ရေးတည်ဆောက်ရန်ဖြစ်ကြောင်းရုရှားဗဟိုစစ်တိုင်းဒုတိယအကြီးအကဲဖြစ်သူ ဗိုလ်ချုပ် Rustam Minnekayev က ထုတ်ဖော်ပြောဆိုခဲ့သည်။

ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာန ထောက်လှမ်းရေးရုံး၏ ပြောဆိုချက်အရ ယူကရိန်း ကြည်းတပ်သည် အသိမ်းပိုက်ခံ Kherson မြို့အနီးရှိ ရုရှားစစ်အခြေစိုက်စခန်းတစ်ခုကို တိုက်ခိုက်ခဲ့ကြောင်း၊ အဆိုပါတိုက်ခိုက်မှုအတွင်း ဗိုလ်ချုပ်ကြီးနှစ်ဦးသေဆုံးခဲ့ပြီး တစ်ဦး ဒဏ်ရာရဖွယ်ရှိကြောင်း သိရသည်။

ရုရှားတပ်ဖွဲ့များသည် လက်နက်ကြီးများ သိုလှောင်ထားသော ယူကရိန်းစစ်ရေး ပစ်မှတ်ကိုးခုကိုညလုံးပေါက်တိုက်ခိုက်မှုများပြုလုပ်ခဲ့ကြောင်းရုရှားကာကွယ်ရေးဝန်ကြီး

ဌာနက သတင်းထုတ်ပြန်ခဲ့သည်။ ရုရှားတပ်ဖွဲ့များသည် ယူကရိန်းစစ်အခြေစိုက်စခန်းများနှင့် Dnipro မြစ်အနီးရှိ Kremenchuk ရေနံချက်စက်ရုံတို့ကို တိုက်ခိုက်ခဲ့ပြီး ယူကရိန်းတပ်ဖွဲ့များကို လက်နက်များ ထောက်ပံ့နေသည့် ဘူတာရုံ ခြောက်ခုကိုလည်း တာဝေးပစ်လက်နက်များ အသုံးပြုတိုက်ခိုက်ခဲ့ကြောင်း သတင်းထုတ်ပြန်ခဲ့သည်။

ကုလသမဂ္ဂအတွင်းရေးမှူးချုပ် အန်တိုနီယိုဂူတာရက်စ်သည် ဝေဖန်ခံရမှုများ ရှိနေသော်လည်း အကန့်အသတ်များရှိနေသည့် ကုလသမဂ္ဂ၏အခန်းကဏ္ဍကို ဆောင်ရွက်ရန် ရုရှားနှင့် ယူကရိန်းသို့ သုံးရက်ကြာ ခရီးစဉ်သွားရောက်ခဲ့သည်။ ဂူတာရက်စ်သည် ရုရှားနိုင်ငံခြားရေးဝန်ကြီး Sergey Lavrow ၊ သမ္မတပူတင်တို့နှင့် တွေ့ဆုံခဲ့သည်။

ယူကရိန်းနယ်စပ်ရှိ ရုရှားပြည်နယ်များတွင် ပေါက်ကွဲမှုတစ်ချို့ဖြစ်ခဲ့ကြောင်း၊ ဒေသတွင်းရှိ လက်နက်သိုလှောင်ရုံတစ်ခုတွင်လည်း ယူကရိန်းမောင်းသူမဲ့လေယာဉ်၏ တိုက်ခိုက်မှုကြောင့် ပေါက်ကွဲမှုဖြစ်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် ယူကရိန်းတွင် တိုက်ခိုက်မှုများ အရှိန်မြှင့်လုပ်ဆောင်လျက်ရှိကြောင်း၊ ရုရှားတို့၏ရည်မှန်းချက်ကို ဝင်ရောက်စွက်ဖက်မည့် မည်သူ့ကိုမဆို လျှပ်တစ်ပြက်တိုက်ခိုက်မှုများ ပြုလုပ်သွားမည်ဟု ကတိပြုထားကြောင်း ယူကရိန်းစစ်ဖက်က ထုတ်ဖော်ပြောဆိုထားသည်။ ရုရှားအစိုးရသည် ၎င်းတို့ သိမ်းပိုက်ထားသည့် Kherson မြို့ကို ရူဘယ်ငွေကြေး စတင်သုံးစွဲရန် အမိန့်တစ်ရပ်ထုတ်ပြန်ထားသည်။

Krupets ကျေးရွာရှိ စစ်ဆေးရေးဂိတ်တစ်ခုကို မော်တာများဖြင့် အပစ်ခံရကြောင်း၊ ရုရှားနယ်ခြားစောင့်တပ်နှင့် စစ်တပ်ကလည်း လက်တုံ့ပြန်ပစ်ခတ်ခဲ့ကြောင်း ရုရှားနိုင်ငံ Kursk ဒေသ အုပ်ချုပ်ရေးမှူးဖြစ်သူ Roman Starovoyt က ထုတ်ဖော်ပြောဆိုခဲ့သည်။ ရုရှားတပ်ဖွဲ့များသည် ထိန်းချုပ်ရေးစင်တာ ၃၅ ခု၊ လက်နက်တိုက် ၁၅ ခု အပါအဝင် ယူကရိန်းရှိ စစ်ဖက်ဆိုင်ရာ အဆောက်အအုံ ၃၈၉ ခုကို ညတွင်းချင်း ဖျက်ဆီးနိုင်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

## ၂၀၂၂ ခုနှစ်၊ မေလ

ယူကရိန်း Su-24M ဗုံးကြဲလေယာဉ်နှစ်စင်းကို ရုရှားတို့၏လေကြောင်းရန် ကာကွယ်ရေးစနစ်ကို အသုံးပြုတိုက်ခိုက်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။ ရုရှားဒုံးကျည်တိုက်ခိုက်မှုသည် Dniester estuary မြစ်ကို ဖြတ်၍ဖောက်လုပ်ထားသည့် မဟာဗျူဟာအရ အရေးကြီးသည့်တံတားတစ်ခုကို ထိမှန်ခဲ့ကြောင်း Odessa ရှိ ဒေသ အာဏာပိုင်များက ထုတ်ဖော်ပြောဆိုသည်။

ရုရှားတပ်ဖွဲ့များသည် ဒေသတွင်းကျေးရွာသုံးရွာရှိ ပစ်မှတ်တချို့ကို တိုက်ခိုက်ခဲ့ကြောင်း၊ သို့သော် ထိခိုက်ဒဏ်ရာရမှု တစ်စုံတစ်ရာမရှိကြောင်း Sumy Oblast ဒေသ အုပ်ချုပ်ရေးမှူး Dmytro Zhyvyskyi က ထုတ်ဖော်ပြောဆိုခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် ဒေသတွင်းတွင် အလုံးစုံထိုးစစ်ဆင်နွှဲပြီးနောက် Azovstal သံနှင့်သံမဏိစက်ရုံအတွင်းသို့ဝင်ရောက်ခဲ့ကြောင်းယူကရိန်းကာကွယ်ရေးဝန်ကြီးဌာနက သတင်း ထုတ်ပြန်ခဲ့သည်။ ရုရှားမစ်ဆိုင်းဒုံးကျည်များသည် ယူကရိန်းနိုင်ငံ အလယ်ပိုင်းရှိ လေကြောင်းစနစ်များနှင့် နိုင်ငံတောင်ပိုင်းရှိ လက်နက်သိုလှောင်ရုံကြီးများကို ဖျက်ဆီး ခဲ့ကြောင်း ရုရှားကာကွယ်ရေး ဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

ပင်လယ်နက်အတွင်းရှိ ရုရှားရေတပ်သင်္ဘောအုပ်စုမှ ဖရီးဂိတ်တစ်စီးကို ယူကရိန်း သင်္ဘောဖျက်မစ်ဆိုင်းဒုံးကျည်ထိမှန်ခဲ့ကြောင်း၊ ရုရှားတပ်ဖွဲ့များသည် သင်္ဘောပေါ်တွင် ပါသည့် စစ်သည်များကို ကယ်ဆယ်ရန် ရဟတ်ယာဉ်များ စေလွှတ်ခဲ့ကြောင်း ယူကရိန်း ကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

Kharkiv ဒေသရှိ Bohodukhiv ဘူတာရုံအနီးရှိ အမေရိကန်ပြည်ထောင်စုနှင့် ဥရောပ နိုင်ငံများမှပေးပို့သည့် စစ်သုံးကိရိယာအများအပြားကို ဖျက်ဆီးခဲ့ကြောင်း ရုရှားကာကွယ်ရေး ဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။ ယူကရိန်းတပ်ဖွဲ့များသည် Popasna မြို့မှ ထွက်ခွာသွားပြီ ဖြစ်ကြောင်း Luhansk Oblast မြို့ အုပ်ချုပ်ရေးမှူး Serhiy Haidai က ပြောဆိုခဲ့သည်။ Odessa မြို့ရှိ စျေးဝယ်စင်တာတစ်ခုနှင့် ဟိုတယ်နှစ်လုံးကို ရုရှားတို့၏ မစ်ဆိုင်း ဒုံးကျည်ထိမှန်ခဲ့ပြီး အများအပြား ဒဏ်ရာရရှိခဲ့ကြောင်း သတင်းများက ဆိုသည်။

နှစ်ဖက်လုံး ရှေ့မတိုးနောက်မဆုတ်သာ အခြေအနေတွင်ရှိနေပြီး နိုင်ငံတောင်ပိုင်းနှင့် အရှေ့ပိုင်းတွင် မည်သည့်ဘက်ကမှ ရှေ့တိုးနိုင်မည့်အခြေအနေမရှိကြောင်း အမေရိကန် ကာကွယ်ရေးဝန်ကြီးဌာန ထောက်လှမ်းရေးအေဂျင်စီ ညွှန်ကြားရေးမှူး Scott Berrier က ထုတ်ဖော်ပြောဆိုသည်။ Sloviansk မြို့ရှိ ခရိုင်နှစ်ခုကို ရုရှားတို့၏မစ်ဆိုင်းဒုံးကျည် များ ထိမှန်ခဲ့ကြောင်း Sloviansk မြို့တော်ဝန်က ပြောဆိုသည်။ ရုရှားတပ်ဖွဲ့ဝင်များ အနေဖြင့် ယာဉ် ၅၀ ကျော် နှင့် တပ်ဖွဲ့ဝင်အများအပြားဆုံးရှုံးခဲ့ကြောင်းလည်း ၎င်းက ပြောဆိုသည်။

ရုရှားတပ်ဖွဲ့ဝင်များသည် Chernihiv ဒေသရှိ လက်နက်သိုလှောင်ရုံနှစ်ခုကို ဖျက်ဆီး နိုင်ခဲ့ကြောင်း၊ Odessa မြို့အနီးရှိ ရေဒါစခန်းတစ်ခုနှင့် Kharkiv ဒေသရှိ S–300 လေကြောင်းရန် ကာကွယ်ရေးစနစ်တို့ကို ဖျက်ဆီးနိုင်ခဲ့ခြင်းဖြစ်ကြောင်း ရုရှားကာကွယ်ရေး ဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

ရုရှားတပ်ဖွဲ့များ ယူကရိန်းကို စတင်တိုက်ခိုက်ချိန်မှစ၍ အမေရိကန်ကာကွယ်ရေး ဝန်ကြီး Lloyd Austin နှင့် ရုရှားကာကွယ်ရေးဝန်ကြီး Sergei Shoigu တို့ ပထမဆုံးအကြိမ် တယ်လီဖုန်းဖြင့် ဆက်သွယ်ပြောဆိုခဲ့ကြသည်။ ရုရှားတပ်ဖွဲ့ဝင်များသည် Kharkiv မြို့မှ ဆုတ်ခွာသွားကြပြီဖြစ်ကြောင်းနှင့် ထောက်ပံ့ရေးလမ်းကြောင်းကို အာရုံစိုက်ဆောင်ရွက် နေသည်ကို တွေ့ရကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာန အဆင့်မြင့်အရာရှိတစ်ဦး က ပြောဆိုသည်။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် Izium မြို့အနီးရှိ ရုရှားတပ်ဖွဲ့ဝင်များအား တန်ပြန်တိုက်ခိုက်မှုများပြုလုပ်နေကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ထားသည်။ ရုရှားတပ်ဖွဲ့ဝင်များသည် Donbas ဒေသရှိ နေအိမ် ၂၃ လုံးကို တိုက်ခိုက်ဖျက်ဆီးခဲ့ကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ထားသည်။

ယူကရိန်းတပ်ဖွဲ့ဝင်တချို့ ရုရှားတပ်ဖွဲ့ဝင်များထံ လက်နက်ချခဲ့သည်ဟု သတင်းများက ဆိုသည်။ Mariupol မြို့တစ်မြို့လုံးကို ရုရှားတပ်ဖွဲ့ဝင်များက ထိန်းချုပ်ထားနိုင်ခဲ့သည်။ စစ်သား ၂၁၁ ဦးကို ဘေးလွတ်ရာသို့ ရွှေ့ပြောင်းကယ်ဆယ်နိုင်ခဲ့ပြီး ဒဏ်ရာအပြင်းအထန်ရရှိသည့် စစ်သည် ၅၃ ဦး အပါအဝင် အခြားစစ်သည် ၂၆ဝ ဦးကိုနီးစပ်ရာ ဆေးရုံသို့ တင်ပို့နိုင်ခဲ့ကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာန ဒုတိယကာကွယ်ရေးဝန်ကြီးက ပြောဆိုခဲ့သည်။

ရုရှားတပ်ဖွဲ့ဝင်များသည် Mariupol မြို့ကို အပြည့်အဝ ထိန်းချုပ်နိုင်ခဲ့သည်။ ရုရှားတပ်ဖွဲ့ဝင်များသည် မောင်းသူမဲ့လေယာဉ်များကို တိုက်ခိုက်ရန် အင်အားကောင်းသည့် မျိုးဆက်သစ် လေဆာလက်နက်များကို အသုံးပြုတိုက်ခိုက်နေကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် Kharkiv ဒေသရှိ ယဉ်ကျေးမှု အဆောက်အအုံတစ်ခုကို မစ်ဇိုင်းဒုံးကျည်ဖြင့်ပစ်ခတ်တိုက်ခိုက်ခဲ့သည်။အဆိုပါတိုက်ခိုက်မှုသည်ရူးမိုက်သည့်လုပ်ရပ်တစ်ခုဖြစ်သည်ဟု ယူကရိန်းသမ္မတ ဇဲလန်စကီးက ပြစ်တင်ရှုတ်ချခဲ့သည်။

အမေရိကန်နှင့် ဥရောပမှ ယူကရိန်းသို့ထောက်ပံ့သည့် လက်နက်ကြီးများကို ဖျက်ဆီးရန် ခရူမစ်ဆိုင်းဒုံးကျည်များကို အသုံးပြုတိုက်ခိုက်ခဲ့ကြောင်း၊ Odessa မြို့အနီးရှိ လောင်စာဆီသိုလှောင်ရုံ၊ Su-25 တိုက်လေယာဉ်နှစ်စီးနှင့် မောင်းသူမဲ့လေယာဉ် ၁၄ စင်းတို့ကို တိုက်ခိုက်ဖျက်ဆီးနိုင်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးသည် ယူကရိန်းနိုင်ငံအတွင်း ထုတ်ပြန်ထားသည့် စစ်ဖက်ဆိုင်ရာဥပဒေကို ၂၀၂၂ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်နေ့အထိ သက်တမ်းတိုးခဲ့သည်။ Mariupol မြို့ Azovstal သံမဏိစက်ရုံတွင် လက်နက်ချခဲ့သည့် ယူကရိန်းစစ်သည်များအနေဖြင့် Donetsk ပြည်သူ့သမ္မတနိုင်ငံတွင် တရားရင်ဆိုင်ရမည်ဖြစ်ကြောင်း Donetsk ပြည်သူ့သမ္မတနိုင်ငံ ခေါင်းဆောင်ဖြစ်သူ Denis Pushilin က ထုတ်ဖော်ပြောဆိုခဲ့သည်။

Kherson ဒေသတွင် ရုရှားစစ်အခြေစိုက်စခန်းတစ်ခု တည်ဆောက်ရန် Kherson ဒေသ၏ စစ်ဖက်-အရပ်ဖက်ဆိုင်ရာအုပ်ချုပ်ရေး ဒုတိယအကြီးအကဲဖြစ်သူ Kirill Stremousov က ရုရှားအစိုးရထံ ပန်ကြားခဲ့သည်။ ရုရှားစစ်အခြေစိုက်စခန်းသည် ဒေသနှင့်ဒေသတွင်း နေထိုင်သူများ၏ လုံခြုံရေးအတွက် အလွန်အရေးကြီးကြောင်းလည်း ၎င်းက ထပ်လောင်းပြောဆိုခဲ့သည်။

ရုရှားဒူးမားလွှတ်တော်သည် စစ်သားဟောင်းများကို စစ်မှုပြန်လည်ထမ်းဆောင်ခွင့်ပြုသည့်ဥပဒေတစ်ရပ်ကို ပြဋ္ဌာန်းခဲ့သည်။ အဆိုပါဥပဒေအရ အသက် ၄၀ နှင့် ၆၅ နှစ်ကြားရှိ စစ်သည်ဟောင်းများ စစ်မှုပြန်လည်ထမ်းဆောင်ခွင့်ရရှိမည် ဖြစ်သည်။

ရုရှားတပ်ဖွဲ့များသည် ကျေးရွာများနှင့် ရထားလမ်းကွန်ရက်များကို အပြည့်အဝထိန်းချုပ်မှုရရှိနိုင်ရန်အတွက် နယ်ပယ်စုံတွင် ထိုးစစ်ဆင်တိုက်ခိုက်မှုများပြုလုပ်နေကြောင်း ယူကရိန်း ကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ထားသည်။

Sievierodonetsk ဒေသရှိ အဆောက်အအုံ ၉၀ ရာခိုင်နှုန်းခန့် ပျက်စီးသွားခဲ့ပြီဖြစ်ကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာန အရာရှိများက ပြောဆိုသည်။ ယူကရိန်းတပ်ဖွဲ့ဝင်များ အသုံးပြုသည့် MiG–29s ထဲမှတစ်စီးသည် ရုရှားတို့၏ Su–35 တိုက်လေယာဉ်တစ်စီးအား လေကြောင်းတိုက်ပွဲတစ်ခုတွင် ပစ်ချနိုင်ခဲ့ကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

ရုရှားတပ်ဖွဲ့ဝင်များသည် Luhansk ဒေသရှိ Lyman မြို့ကို သိမ်းပိုက်ခဲ့သည်။ Lyman မြို့သည် Siverskyy Donets မြစ်ကိုဖြတ်၍ တည်ဆောက်ထားသည့် ရထားလမ်းနှင့် တံတားများ၊ လမ်းများရှိသည့်အတွက် အရေးပါသည့်မြို့ ဖြစ်သည်။ သမ္မတ ဇဲလန်စကီးသည် စစ်ပွဲစတင်ချိန်ကတည်းက Kyiv မြို့အပြင်ဘက်ဖြစ်သည့် Kharkiv မြို့သို့ ပထမဆုံးသွားရောက်ခဲ့သည်။

ရုရှားတပ်ဖွဲ့ဝင်များသည် Sievierodonetsk ဒေသ၏ ဆင်ခြေဖုံးသို့ ဝင်ရောက်လာပြီဖြစ်ကြောင်းနှင့် အပြင်းအထန် တိုက်ခိုက်မှုများ ပြုလုပ်နေကြောင်း ယူကရိန်းလုပ်ငန်းရှင်တစ်ဦးလည်းဖြစ်၊ နိုင်ငံရေးသမားတစ်ဦးလည်းဖြစ်သူ Serhiy Haidai က ပြောဆိုခဲ့သည်။ ယူကရိန်းတပ်ဖွဲ့ဝင်များအနေဖြင့် Kherson Oblast ဒေသ၏ မြောက်ပိုင်းတွင် အကန့်အသတ်ဖြင့်ပြုလုပ်သည့် တန်ပြန်ထိုးစစ်တစ်ရပ်ဆင်နွှဲနေကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

## ၂၀၂၂ ခုနှစ်၊ ဇွန်လ

အမေရိကန်ပြည်ထောင်စုသည် ယူကရိန်းကို အဆင့်မြင့်လက်နက်များ ထောက်ပံ့ပေးရန် သဘောတူညီခဲ့သည်။ သို့သော် ယူကရိန်းခေါင်းဆောင်များအနေဖြင့် အဆိုပါလက်နက်များကိုအသုံးပြု၍ ရုရှားနိုင်ငံအတွင်းရှိ ပစ်မှတ်များကို တိုက်ခိုက်ခြင်းမပြုပါဆိုသည့် ကတိပေးခဲ့ရသည်ဟု ဆိုပါသည်။ ယင်းလုပ်ရပ်မှာ မီးလောင်ရာလေပင့်သည့် လုပ်ရပ်ဖြစ်ကြောင်း ရုရှားအစိုးရက ပြောရေးဆိုခွင့်ရှိသူ Dmitry Peskov ကလည်း ပြောဆိုခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် ယူကရိန်းနယ်မြေ၏ ၂၀ ရာခိုင်နှုန်းခန့်ကို ထိန်းချုပ်နိုင်ခဲ့ကြောင်း ယူကရိန်းသမ္မတ ဇဲလန်စကီးက ပြောဆိုခဲ့သည်။ ယူကရိန်းတပ်ဖွဲ့ဝင်များသည် Sievierodonetsk မြို့သို့ ချဉ်းကပ်ဝင်ရောက်လာသော ရုရှားတပ်ဖွဲ့ဝင်များကို တစ်ဆင့်ချင်းပိတ်ဆို့တားဆီး

နိုင်ခဲ့ပြီး ရုရှားတပ်ဖွဲ့ဝင် ၂၀ ရာခိုင်နှုန်း ကို ပြန်လည်တွန်းလှန်နိုင်ခဲ့ကြောင်း Sievierodo netsk မြို့အုပ်ချုပ်ရေးမှူး Serhiy Haidai က ပြောဆိုခဲ့သည်။

ရုရှားတပ်ဖွဲ့ဝင်များသည် ယူကရိန်းနိုင်ငံ၏ တတိယမြောက် လူဦးရေအထူထပ်ဆုံးမြို့လည်းဖြစ်၊ ပင်လယ်ဆိပ်ကမ်းမြို့လည်းဖြစ်သော Odessa မြို့အနီးတွင် လက်နက်များသယ်ဆောင်ပျံသန်းလာသည့် ယူကရိန်းစစ်ဘက် သယ်ယူပို့ဆောင်ရေးလေယာဉ်ကို ပစ်ချခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

ရုရှားတပ်ဖွဲ့၏ အမှတ်(၂၉) ကွပ်ကဲရေးမှူး ကြယ်သုံးပွင့်ဗိုလ်ချုပ်ကြီး Roman Berdnikov ကို သုတ်သင်နိုင်ခဲ့ကြောင်း ယူကရိန်းစစ်ဘက်က အခိုင်အမာပြောဆိုခဲ့သည်။ ဗိုလ်ချုပ်ကြီး Roman Berdnikov ကျဆုံးကြောင်း ရုရှားနိုင်ငံရုပ်သံကလည်း အတည်ပြုထုတ်လွှင့်ခဲ့သည်။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် ပင်လယ်နက်အတွင်းရှိ ရုရှားစစ်သင်္ဘောကို ပင်လယ်နက်ကမ်းခြေ ကီလိုမီတာ ၁၀၀ အကွာအဝေးမှနေ၍ တိုက်ခိုက်ပြီး ပြန်လည်တွန်းလှန်နိုင်ခဲ့ကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

ရုရှားအစိုးရ ဆောက်လုပ်ရေးနှင့် အိမ်ရာဝန်ကြီးဌာန ဝက်ဘ်ဆိုက်မှာ ဟက်ကာများ၏ တိုက်ခိုက်ခြင်းကိုခံရသည်။ အဆိုပါဝက်ဘ်ဆိုက်သို့ ဝင်ရောက်ရန် ကြိုးစားပါက Glory to Ukraine သို့ ရောက်ရှိသွားသည်။

Mariupol မြို့ အဆောက်အဦအပျက်အစီးများကြားတွင်တွေ့ရသည့် လူသေအလောင်းတစ်ရာကို ရေခဲတိုက်များအတွင်းသို့ ရွှေ့ပြောင်းခဲ့ပြီးဖြစ်ကြောင်း Mariupol မြို့ လက်ထောက်မြို့တော်ဝန်က ပြောဆိုခဲ့ကြောင်း AP သတင်းတစ်ရပ်တွင် ဖော်ပြထားသည်။

ယူကရိန်းတပ်ဖွဲ့ဝင်တချို့သည် စက်မှုဇုန်အတွင်း ခိုအောင်းနေကြသော်လည်း ရုရှားတပ်ဖွဲ့ဝင်များအနေဖြင့် Sievierodonetsk မြို့နေရာအများစုကို ထိန်းချုပ်နိုင်ပြီဖြစ်ကြောင်း Sievierodonetsk မြို့ အုပ်ချုပ်ရေးမှူး Serhiy Haidai က ပြောဆိုခဲ့သည်။

သမ္မတပူတင်သည် ရုရှား-ယူကရိန်း ပဋိပက္ခနှင့်ပတ်သက်၍ မိန့်ခွန်းတစ်ရပ် ပြောကြားခဲ့သည်။ မိန့်ခွန်းတွင် သူလုပ်ဆောင်နေသည့်အရာများ၊ အင်အားပြန်လည်စုဖွဲ့နေမှုများနှင့် လုပ်ဆောင်ခဲ့သည့်အရာများကို ထည့်သွင်းပြောကြားခဲ့သည်။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် ရုရှားထိန်းချုပ်ထားသည့် Kherson ဆိပ်ကမ်းမြို့တောင်ပိုင်းတွင် လေကြောင်းတိုက်ခိုက်မှုများ ပြုလုပ်ခဲ့ကြောင်း သမ္မတဇဲလန်စကီးက ပြောဆိုခဲ့သည်။ Kherson နှင့် Zaporizhzhia ဒေသများတွင် နိုင်ငံသားများအား ပထမဆုံး ရုရှားနိုင်ငံကူးလက်မှတ်များ ထုတ်ပေးခဲ့ကြောင်း ဒေသအဆင့်အရာရှိများက ပြောဆိုသည်။

ယူကရိန်းနိုင်ငံ Ternopil ဒေသတွင် အနောက်နိုင်ငံများက ထောက်ခံပေးထားသည့်

လက်နက်များသိုလှောင်ထားရှိရာနေရာကို ဖျက်ဆီးရန် ခရူမစ်ဆိုင်းဒုံးကျည်ကို အသုံးပြုခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။ Donetsk နှင့် Kharkiv အနီးတွင်လည်း ယူကရိန်း Su–25 တိုက်လေယာဉ်သုံးစင်းကို ပစ်ချနိုင်ခဲ့ကြောင်းလည်း သတင်းထုတ်ပြန်ခဲ့သည်။

ယူကရိန်းနိုင်ငံ၏ ကျန်ဒေသများနှင့် Sievierodonetsk မြို့ကို ဆက်သွယ်ထားသည့် နောက်ဆုံးတံတားသုံးစင်းကို ဖျက်ဆီးခဲ့ကြောင်း Sievierodonetsk မြို့ အုပ်ချုပ်ရေးမှူး Serhiy Haidai က ပြောဆိုသည်။ မြို့အတွင်း ကျန်ရှိနေသည့် ဒေသခံများသည် အလွန်ခက်ခဲသည့် အခြေအနေများနှင့် ရင်ဆိုင်နေရကြောင်းနှင့် ရုရှားတပ်ဖွဲ့ဝင်များသည် မြို့၏ ၈၀ ရာခိုင်နှုန်းကို ထိန်းချုပ်ထားကြောင်းလည်း ၎င်းက ပြောဆိုခဲ့သည်။ Donetsk မြို့တွင် ယူကရိန်းတပ်ဖွဲ့ဝင်များ ဆုတ်ခွာစဉ် ငါးဦးသေဆုံးပြီး ၂၂ ဦး ဒဏ်ရာရရှိခဲ့ကြောင်း ရုရှားကျောထောက်နောက်ခံပေးထားသည့် ခွဲထွက်ရေးသမားများက ပြောဆိုသည်။

Azot ဓာတုစက်ရုံအတွင်း ခိုအောင်းနေကြသည့် ယူကရိန်းတပ်ဖွဲ့ဝင်များအား ဇွန်လ ၁၅ ရက်နေ့ ရုရှားစံတော်ချိန် နံနက် ၈ နာရီတွင် လက်နက်ချရန် ရုရှားကာကွယ်ရေး အမျိုးသားစီမံခန့်ခွဲမှုဌာနအကြီးအကဲ Mikhail Mizintsev က ပြောဆိုခဲ့သည်။ စက်ရုံအတွင်း ရှိနေကြသည့်အရပ်သားများကိုလူသားချင်းစာနာထောက်ထားမှုအရဖွင့်ပေးထားသည့်လမ်းကြောင်း (Humanitarian Corridor)မှတစ်ဆင့် ထွက်ခွာခွင့်ပြုကြောင်းလည်း ၎င်းက ထပ်လောင်းပြောဆိုခဲ့သည်။

ရုရှားကယ်ဆယ်ရေးသင်္ဘော Spasatel Vasily Bekh သည် သင်္ဘောဖျက်ဒုံးကျည်နှစ်စင်းထိမှန်ပြီး နစ်မြုပ်သွားခဲ့ကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။

သမ္မတပူတင်သည် St. Petersburg မြို့တွင်ကျင်းပသည် စီးပွားရေးဖိုရမ်တွင် ဒဏ်ခတ်ပိတ်ဆို့မှုများနှင့်ပတ်သက်၍မိန့်ခွန်းပြောကြားခဲ့သည်။ ရုရှားနိုင်ငံအပေါ် စီးပွားရေးဒဏ်ခတ်ပိတ်ဆို့မှုများသည် အစကတည်းက အောင်မြင်နိုင်ခြေမရှိကြောင်း၊ ရုရှားနိုင်ငံထက် ပိတ်ဆို့သူများကို ပိုမိုထိခိုက်စေမည်ဖြစ်ကြောင်း၊ ရူးမိုက်ပြီး ဆင်ခြင်မဲ့လုပ်ရပ်ဖြစ်ကြောင်း၊ ရုရှားလုပ်ငန်းများအနေဖြင့် ပြည်တွင်းတွင် ရင်းနှီးမြှုပ်နှံခြင်းကသာ ပိုမိုလုံခြုံမှုရှိကြောင်း၊ ယင်းအချက်ကို မလိုက်နာသူများသည် နိုင်ငံခြားတွင် သန်းနှင့်ချီ၍ ဆုံးရှုံးခဲ့ပြီးဖြစ်ကြောင်း ထည့်သွင်းပြောကြားခဲ့သည်။

အမေရိကန်ပြည်ထောင်စုအနေဖြင့် ယူကရိန်းနိုင်ငံအား M142 High Mobility Artillery Rocket System (HIMARS) အရေအတွက် နှစ်ဆပေးပို့ရန်စဉ်းစားနေကြောင်း အမေရိကန်အစိုးရက ထုတ်ဖော်ပြောဆိုခဲ့သည်။ HIMARS တာဝေးပစ် ဒုံးကျည်များပေးပို့ရန် ယူကရိန်းအစိုးရက အမေရိကန်အစိုးရထံ တောင်းဆိုထားသည်။

Dnipro မြို့အနီးရှိ အမိန့်ပေးစင်တာတစ်ခုကို Kalibr မစ်ဆိုင်းဒုံးကျည်များနှင့်

ပစ်ခတ်တိုက်ခိုက်ခဲ့ကြောင်း၊ ယူကရိန်းစစ်တပ်အရာရှိ ၅၀ ကျော်ကို အဆိုပါ တိုက်ခိုက်မှုအတွင်း ရှင်းလင်းနိုင်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက သတင်းထုတ်ပြန်ခဲ့သည်။ ရုရှားတပ်ဖွဲ့ဝင်များသည် Sievierodonetsk မြို့ အရှေ့ပိုင်းဆင်ခြေဖုံးရှိ Metiolkine ဒေသကို သိမ်းပိုက်ခဲ့ကြောင်း Sievierodonetsk မြို့ အုပ်ချုပ်ရေးမှူး Serhiy Haidal က ပြောဆိုသည်။

ရုရှားနိုင်ငံမှ ဂျာမနီနိုင်ငံ Kaliningrad မြို့သို့ ရထားဖြင့် ကုန်ပစ္စည်းပို့ဆောင်မှုအပေါ် လစ်သူရေးနီးယားနိုင်ငံက ပိတ်ပင်ခဲ့မှုနှင့်ပတ်သက်၍ မော်စကိုရှိ အီးယူသံအမတ်ကြီးအား ရုရှားနိုင်ငံခြားရေးဝန်ကြီးဌာနက ခေါ်ယူသတိပေးခဲ့သည်။ လစ်သူရေးနီးယားနိုင်ငံ၏ လုပ်ရပ်မှာ တရားမဝင်ကြောင်းနှင့် ရုရှားနိုင်ငံအနေဖြင့် အမျိုးသားအကျိုးစီးပွားကို ကာကွယ်ခွင့်ရှိကြောင်းလည်း ပြောဆိုခဲ့သည်။ လစ်သူရေးနီးယားနိုင်ငံကမူ ယင်းမှာ လစ်သူရေးနီးယားနိုင်ငံက ပြုလုပ်ခြင်းမဟုတ်ဘဲ အီးယူ၏ ဒဏ်ခတ်ပိတ်ဆို့မှုသာဖြစ်ကြောင်း ပြောဆိုခဲ့သည်။

ယူကရိန်းနိုင်ငံဘက်မှ ဦးတည်ပျံသန်းလာသည့် မောင်းသူမဲ့လေယာဉ်နှစ်စီး၏ ပစ်ခတ်မှုကြောင့် ရုရှားနိုင်ငံနယ်စပ်မြို့အနီးရှိ ရေနံချက်စက်ရုံကို ထိမှန်ခဲ့သည်။ ယူကရိန်းနိုင်ငံ Luhansk Oblast ဒေသ Zolote နှင့် Hirske မြို့ရှိ ယူကရိန်းတပ်ဖွဲ့များကို ရုရှားတပ်ဖွဲ့များက ဝိုင်းဝန်းပိတ်ဆို့ထားခဲ့ကြသည်။

ယူကရိန်းတပ်ဖွဲ့များကို Sievierodonetsk မြို့မှ ဆုတ်ခွာရန်အမိန့်ပေးခဲ့ကြောင်း Sievierodonetsk မြို့ အုပ်ချုပ်ရေးမှူး Serhiy Haidai က ပြောဆိုသည်။ Sievierodonetsk တစ်မြို့လုံးသည် ရုရှားတပ်ဖွဲ့များ၏ ထိန်းချုပ်မှုအောက် ရောက်ရှိသွားပြီဖြစ်ကြောင်း ဒေသအုပ်ချုပ်ရေးအကြီးအကဲ Oleksiy Babchenko က ပြောဆိုခဲ့သည်။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် M142 High Mobility Artillery Rocket System (HIMARS) ခေါ် တာဝေးပစ်ဒုံးကျည်စနစ်များကို စတင်ဖြန့်ကြက် ချထားခဲ့သည်။ ရုရှားတပ်ဖွဲ့ဝင်များသည် ယူကရိန်းနိုင်ငံမြို့တော် Kyiv အား မစ်ဆိုင်းဒုံးကျည် ၁၄ စင်း ပစ်ခတ်တိုက်ခိုက်ခဲ့သည်။ ယင်းတို့အနက် X101 မစ်ဆိုင်းဒုံးကျည်များသည် Caspian ပင်လယ်ရှိ Tu–95 နှင့် Yu–160 ဗုံးကြဲလေယာဉ်များမှ ပစ်ခတ်တိုက်ခိုက်ခဲ့ခြင်းဖြစ်သည်။

ရုရှားတပ်ဖွဲ့များသည် Kremenchuk မြို့ရှိ ဈေးဝယ်စင်တာတစ်ခုကို မစ်ဆိုင်းဒုံးကျည်များဖြင့် ပစ်ခတ်တိုက်ခိုက်ခဲ့သည်ဟု ဆိုပါသည်။ သို့သော် ရုရှားကာကွယ်ရေးဝန်ကြီးဌာနကမူယင်းကိုငြင်းဆိုခဲ့ပြီးအမေရိကန်နှင့်အီးယူမှထောက်ပံ့ထားသည့်လက်နက်သိုလှောင်ရုံကိုထိမှန်ပြီးပေါက်ကွဲအားပိုမိုပြင်းထန်ကာဈေးဝယ်စင်တာကိုထိခိုက်စေခဲ့ခြင်းဖြစ်ကြောင်း ပြောဆိုခဲ့သည်။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် Lysychansk မြို့မှ ဆုတ်ခွာနေကြပြီး Siversk, Kramatorsk, and Sloviansk မြို့များတွင် ခြေကုပ်ယူနိုင်ရန် ဆက်လက်တိုက်ခိုက်နေ

ကြကြောင်း ရုရှားနိုင်ငံဆိုင်ရာ Luhansk ပြည်သူ့သမ္မတနိုင်ငံ (ရုရှားသမ္မတပူတင် လက်မှတ်ရေးထိုး အတည်ပြုထားသည့်နိုင်ငံ) ဆိုင်ရာ သံအမတ်ကြီးက ပြောဆိုခဲ့သည်။

ရုရှားတပ်ဖွဲ့ဝင်များသည် မြွေကျွန်းမှ ရုတ်တရက်ပြန်လည်ထွက်ခွာသွားခဲ့ပြီး ယူကရိန်းတပ်ဖွဲ့များက ပြန်လည်နေရာယူခဲ့သည်။ ရုရှားအောက်လွှတ်တော်သည် ရုရှား–ယူကရိန်းပဋိပက္ခကို အကြောင်းပြု၍ ရုရှား မီဒီယာများကို ပိတ်ပင်သည့်နိုင်ငံများမှ နိုင်ငံခြားမီဒီယာများကိုလည်း ပိတ်ပင်ရန် ရုရှားအစိုးရ ရှေ့နေချုပ်အား အခွင့်အာဏာအပ်နှင်းသည့် ဥပဒေသစ်တစ်ရပ် ပြဋ္ဌာန်းခဲ့သည်။

**၂၀၂၂ ခုနှစ်၊ ဇူလိုင်လ**

ရုရှားတပ်ဖွဲ့ဝင်များသည် Odessa မြို့ကို မစ်ဆိုင်းဒုံးကျည်ဖြင့် သုံးကြိမ်ပစ်ခတ်တိုက်ခိုက်ခဲ့သည်ဟု ဆိုပါသည်။ တိုက်ခိုက်မှုအတွင်း ၂၁ ဦးသေဆုံးခဲ့သည်ဟု သတင်းများတွင် ဖော်ပြသည်။

ဗြိတိန်နိုင်ငံသားနှစ်ဦးဖြစ်သည့် Andrew Hill နှင့် Dylan Healy တို့ကို ကြေးစားစစ်သားအဖြစ် ဆောင်ရွက်ခဲ့သည့်အတွက် Donetsk ပြည်သူ့သမ္မတနိုင်ငံ (ရုရှားသမ္မတပူတင်က လက်မှတ်ရေးထိုးအသိအမှတ်ပြုထားသောနိုင်ငံ)တွင် တရားစွဲဆိုခဲ့သည်။ အခြားဗြိတိန်နိုင်ငံသားနှစ်ဦးဖြစ်သည့် Shaun Pinner နှင့် Aiden Aslin တို့ကိုလည်း ဇွန်လအတွင်းက အလားတူပြစ်မှုဖြင့် တရားစွဲဆိုပြီး တရားရုံးက သေဒဏ်ချမှတ်ခဲ့သည်။

ဩစတြေးလျဝန်ကြီးချုပ် Anthony Albanese သည် ယူကရိန်းနိုင်ငံ Kyiv မြို့သို့ သွားရောက်ခဲ့ပြီး ယူကရိန်းအား တိုက်ခိုက်ခဲ့သည့်အတွက် ရုရှားနိုင်ငံအား ဒဏ်ခတ်ပိတ်ဆို့မှုများ ချမှတ်သွားမည်ဖြစ်ကြောင်း၊ ရုရှားထိပ်တန်းနိုင်ငံရေးသမား ၁၆ ဦးကို ခရီးသွားလာခွင့်ပိတ်ပင်ခြင်းနှင့် ရုရှားရွှေများ တင်သွင်းခြင်းတို့ကို ပိတ်ပင်သွားမည်ဖြစ်ကြောင်း ကတိပြုပြောကြားခဲ့သည်။

Luhansk မြို့တွင် ရုရှားတပ်ဖွဲ့ဝင်များ၏ အပြင်းအထန်တိုက်ခိုက်မှုကြောင့် ဒဏ်ရာရလူနာများကို အပြင်သို့သယ်ထုတ်ရန်ပင် ခက်ခဲကြောင်း Luhansk မြို့ အုပ်ချုပ်ရေးမှူး Serhiy Haidai က ပြောဆိုခဲ့သည်။

ရုရှားနိုင်ငံအတွင်းရှိ စစ်လက်နက်ပစ္စည်းထုတ်လုပ်သည့် ကုမ္ပဏီများအား စစ်လက်နက်ပစ္စည်းများ ပိုမိုထုတ်လုပ်နိုင်ရေးအတွက် အလုပ်သမားများ အချိန်ပိုဆင်းရမည့် ဥပဒေတစ်ရပ် ပြဋ္ဌာန်းနိုင်ရေး ရုရှားအောက်လွှတ်တော်က စတင်ပြင်ဆင်နေပြီ ဖြစ်သည်။

ရုရှားလေကြောင်းမှ ပစ်လွှတ်သည့် ပစ်မှတ်တိကျသော မစ်ဆိုင်းဒုံးကျည်များသည် ယူကရိန်းနိုင်ငံအတွင်းရှိ အမေရိကန်တို့၏ M142 High Mobility Artillery Rocket System (HIMARS)ကို ဖျက်ဆီးနိုင်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာန ပြောရေးဆိုခွင့်ရှိသူ Igor Konashenkov က ပြောဆိုခဲ့သည်။

အနောက်နိုင်ငံများက ထောက်ပံ့ထားသည့် လက်နက်ကြီးများသည် ရုရှားတပ်ဖွဲ့များ၏ ထိုးစစ်အလားအလာကို သိသိသာသာ လျှော့ချပေးနိုင်ကြောင်း၊ သီတင်းပတ်တိုင်းတွင် ရုရှားတပ်ဖွဲ့ဝင်များ၏ ဆုံးရှုံးမှုများမြင့်တက်လာကြောင်း ယူကရိန်းသမ္မတ ဇဲလန်စကီးက ပြောဆိုခဲ့သည်။

အနာဂတ်ငြိမ်းချမ်းရေးဆွေးနွေးမှု၏ အစိတ်အပိုင်းတစ်ခုဖြစ်သည့်အတွက် ရုရှားနှင့် ရုရှားလိုလားသည့် တပ်ဖွဲ့များအနေဖြင့် ယူကရိန်းတောင်ပိုင်းမှ တပ်များဆုတ်ခွာရန် မဖြစ်နိုင်ကြောင်း ဗြိတိန်နိုင်ငံဆိုင်ရာ ရုရှားသံအမတ်ကြီး Andrey Kelin က မီဒီယာနှင့် တွေ့ဆုံမေးမြန်းခန်းတစ်ခုတွင် ပြောကြားခဲ့သည်။ ရုရှားတပ်ဖွဲ့များ ပစ်ခတ်ခဲ့သည့် ဒုံးကျည်များသည် Chasiv Yar မြို့ရှိ အဆောက်အဦ တစ်ခုကို ထိမှန်ခဲ့ပြီး အနည်းဆုံး လူ ၄၈ ဦး သေဆုံးခဲ့ကြောင်း သတင်းများပေါ်ထွက်ခဲ့သည်။

ရုရှားမှ ဂျာမနီသို့ပို့လွှတ်သည့် တစ်ခုတည်းသော အကြီးဆုံးဓာတ်ငွေ့ပိုက်လိုင်းအား ပုံမှန်ပြင်ဆင်မှုများ စတင်ပြုလုပ်ခဲ့သည်။ ဓာတ်ငွေ့ပို့လွှတ်မှု ၁၀ ရက်ခန့်ကြာ ရပ်ဆိုင်းမည်ဟု ခန့်မှန်းထားသည်။ သို့သော် ယူကရိန်းတွင် ဖြစ်ပွားနေသည့်စစ်ပွဲကြောင့် ဓာတ်ငွေ့ပို့လွှတ်မှု ရပ်ဆိုင်းသွားမည်ကို အစိုးရများနှင့် ကုမ္ပဏီများအနေဖြင့် စိုးရိမ်နေကြသည်။

ယူကရိန်းနိုင်ငံမြောက်ပိုင်းရှိ Kharkiv မြို့တွင် ရုရှားတပ်ဖွဲ့များ၏ တိုက်ခိုက်မှုကြောင့် သုံးဦးသေဆုံးခဲ့ပြီး နှစ်ဦးဒဏ်ရာရရှိခဲ့ကြောင်း ဒေသဆိုင်ရာအုပ်ချုပ်ရေးမှူးက ပြောဆိုသည်။

ယူကရိန်းနိုင်ငံသည် NATO's Multilateral Interoperability Program ၏ တွဲဖက်အဖွဲ့ဝင် တစ်နိုင်ငံဖြစ်လာခဲ့ပြီဖြစ်ကြောင်း ယူကရိန်းသမ္မတ ဇဲလန်စကီးက ပြောဆိုခဲ့သည်။ ယင်းမှာ ဥရောပတွင် စုပေါင်းလုံခြုံရေးဆောင်ရွက်မည့် တိုးတက်မှုတစ်ခုဖြစ်ကြောင်းလည်း ၎င်းက ပြောဆိုခဲ့သည်။

မြောက်ကိုရီးယားနိုင်ငံသည် Donetsk ပြည်သူ့သမ္မတနိုင်ငံနှင့် Luhansk ပြည်သူ့သမ္မတနိုင်ငံတို့၏ လွတ်လပ်ရေးကို အသိအမှတ်ပြုခဲ့သည်။ ယင်းအတွက် ယူကရိန်းအစိုးရကလည်း မြောက်ကိုရီးယားနိုင်ငံအား ပြင်းထန်သည့် ဒဏ်ခတ်ပိတ်ဆို့မှုများ ချမှတ်ခဲ့သည်။

ယူကရိန်းနိုင်ငံ အနောက်အလယ်ပိုင်းရှိ Vinnytsia မြို့တွင် ဒုံးကျည်တစ်စင်း ကျရောက်ပေါက်ကွဲခဲ့သဖြင့် အနည်းဆုံး လူ ၂၂ ဦး သေဆုံးခဲ့သည်ဟု သတင်းများ ထွက်ပေါ်ခဲ့သည်။

ရုရှားဖက်ဒရေးရှင်းနိုင်ငံအား အကြမ်းဖက်နိုင်ငံတစ်နိုင်ငံအဖြစ် သတ်မှတ်ရန် ယူကရိန်းသမ္မတ ဇဲလန်စကီးက နိုင်ငံတကာအသိုက်အဝန်းအား တိုက်တွန်းခဲ့သည်။

ဒွန်းဘက်ဒေသရှိ အမည်ဖော်ပြထားခြင်းမရှိသည့် အမိန့်ပေးဌာနတစ်ခုတွင် တပ်ဖွဲ့ဝင်များအား စစ်ဆေးစဉ် ယူကရိန်းရှိ စစ်ရေးရည်မှန်းချက်များအား အရှိန်မြှင့်တိုက်ခိုက်ရန် ရုရှားကာကွယ်ရေးဝန်ကြီးက အမိန့်ပေးခဲ့သည်။

ရုရှားကြည်းတပ်တွင် သေကျေဒဏ်ရာရရှိခြင်းကြောင့် စစ်သည်အင်အား ၅၀,၀၀၀၊ တင့်ကား ၁၇၀၀ နှင့် တိုက်ခိုက်ရေးယာဉ် ၄၀၀၀ နီးပါး ဆုံးရှုံးခဲ့ကြောင်း ဗြိတိန်ကာကွယ်ရေးဝန်ကြီးဌာန ရေတပ်ဗိုလ်ချုပ်ကြီး Sir Tony Radakin က ပြောကြားခဲ့သည်။ ယင်းဆုံးရှုံးမှုသည် ရုရှားမြေပြင်တပ်ဖွဲ့အင်အား၏ ၃၀ ရာခိုင်နှုန်းကျော် ရှိကြောင်းလည်း ၎င်းက ပြောဆိုသည်။ ယူကရိန်းတပ်ဖွဲ့ဝင်များသည် အနောက်နိုင်ငံများမှရရှိသည့် လက်နက်များကြောင့် ရုရှားတပ်ဖွဲ့များကို အထိနာအောင် တိုက်ခိုက်ခဲ့ကြောင်း သမ္မတဇဲလန်စကီးက ပြောဆိုခဲ့သည်။

ရုရှားနိုင်ငံအတွင်းရှိ Novye Yurkovichi ကျေးရွာကို ယူကရိန်းပိုင်နက်အတွင်းမှ ပစ်ခတ်မှုပြုလုပ်ခဲ့ရာ တစ်စုံတစ်ရာ ထိခိုက်ဒဏ်ရာရရှိမှုမရှိကြောင်း ရုရှားပိုင်နက် Bryansk ဒေသ၏အုပ်ချုပ်ရေးမှူး Alexander Bogomaz က ပြောဆိုခဲ့သည်။ ယူကရိန်းလွှတ်တော်သည် ယူကရိန်းရှေ့နေချုပ် Iryna Venediktova ထောက်လှမ်းရေးအကြီးအကဲ Ivan Bakanov နှင့် အခြားထောက်လှမ်းရေးအရာရှိများကို ရုရှားအစိုးရအရာရှိများနှင့် ပူးပေါင်းဆောင်ရွက်မှုရှိသည်ဆိုသည့် စွပ်စွဲချက်ဖြင့် ထုတ်ပယ်ရန် မဲပေးဆုံးဖြတ်ခဲ့ကြသည်။

ဆီးရီးယားနိုင်ငံသည် ယူကရိန်းနိုင်ငံနှင့် သံတမန်အဆက်အသွယ် ဖြတ်တောက်ခဲ့သည်။ အမေရိကန်အစိုးရသည် ယူကရိန်းအစိုးရအား (၁၆)ကြိမ်မြောက် အကူအညီအဖြစ် HIMARS စနစ်များ၊ ရော့ကတ်များနှင့် လက်နက်ကြီးများ ပေးအပ်သွားမည်ဖြစ်ကြောင်း ကြေညာခဲ့သည်။

ဗြိတိန်နိုင်ငံအနေဖြင့် ယူကရိန်းနိုင်ငံအား လက်နက်ကြီး၊ တန်ပြန်ထောက်လှမ်းရေး၊ ရေဒါစနစ်နှင့် မောင်းသူမဲ့ဒရုန်းပေါင်း ၅၀၀၀ ပေးပို့ထောက်ပံ့သွားမည်ဖြစ်ကြောင်း ဗြိတိန်ကာကွယ်ရေးဝန်ကြီး Ben Wallace က ကြေညာခဲ့သည်။

ပင်လယ်နက်ဆိပ်ကမ်းများတွင် ရုရှားတပ်ဖွဲ့များက ပိတ်ဆို့ထားရာ ယူကရိန်းနိုင်ငံထွက်ဂျုံများတင်ပို့နိုင်ရေး သဘောတူညီချက်တစ်ရပ်ကို ကုလသမဂ္ဂနှင့် တူကီယဲနိုင်ငံ တာဝန်ရှိသူများရှေ့မှောက်တွင်ရုရှားနှင့်ယူကရိန်းနိုင်ငံတာဝန်ရှိသူများလက်မှတ်ရေးထိုးခဲ့ကြသည်။

ယူကရိန်းနိုင်ငံထွက် ဂျုံများတင်ပို့နိုင်ရေးသဘောတူညီချက် လက်မှတ်ရေးထိုးပြီး တစ်ရက်မပြည့်မီမှာပင် ရုရှားတပ်ဖွဲ့ဝင်များက Odesa ပင်လယ်ဆိပ်ကမ်းများတွင် Kalibr မစ်ဆိုင်းဒုံးကျည်များဖြင့် ပစ်ခတ်တိုက်ခိုက်ခဲ့ကြောင်း သတင်းများထွက်ပေါ်ခဲ့သည်။ ထိုသို့ ပစ်ခတ်ခဲ့သည့် မစ်ဆိုင်းဒုံးကျည်လေးစင်းတွင် နှစ်စင်းကိုကြားဖြတ်နိုင်ခဲ့ကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာန ပြောခွင့်ရပုဂ္ဂိုလ်က ပြောဆိုခဲ့သည်။ အဆိုပါပစ်ခတ်မှုသည် ယူကရိန်းစစ်သင်္ဘောတစ်စင်းနှင့် Harpoon သင်္ဘောဖျက်မစ်ဆိုင်းဒုံးကျည်များထားရှိရာ လက်နက်ဂိုဒေါင်ကိုဖျက်ဆီးနိုင်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာန ပြောခွင့်ရပုဂ္ဂိုလ် Konashenkov က ပြောဆိုခဲ့သည်။

ယူကရိန်းနိုင်ငံ၏ စတုတ္ထမြောက်အကြီးဆုံးမြို့ဖြစ်သည့် Dnipropetrovsk မြို့ရှိ

HIMARS မစ်ဆိုင်းဒုံးကျည် ၁၀၀ ကို ဖျက်ဆီးနိုင်ခဲ့ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက အခိုင်အမာပြောဆိုခဲ့သည်။

ယူကရိန်းကြည်းတပ် တပ်ဖွဲ့ဝင် ၉၂ ဦးကို လူသားဖြစ်တည်မှု၏ လုံခြုံမှု၊ ငြိမ်းချမ်းမှုအပေါ် ကျူးလွန်သည့်ရာဇဝတ်မှုအပါအဝင် စွဲချက်ပေါင်း ၁၃၀၀ ကျော်ဖြင့် အမှုဖွင့်ရန် ရုရှားစုံစမ်းရေးကော်မတီအကြီးအကဲ Alexander Bastrykin က တရားရုံးကို အမိန့်ပေးခဲ့သည်။

ရုရှားတပ်ဖွဲ့ဝင်များသည် Bakhmut မြို့သို့ ချဉ်းကပ်နိုင်ရန်အတွက် ယူကရိန်းနိုင်ငံတွင် ဒုတိယအကြီးဆုံးမြို့ဖြစ်သည့် Vuhlehirska ဓာတ်အားပေးစက်ရုံကို သိမ်းပိုက်ခဲ့ကြောင်း သတင်းများထွက်ပေါ်ခဲ့ရာ ယူကရိန်းအစိုးရကလည်း အတည်ပြုပေးခဲ့သည်။

ယူကရိန်းနိုင်ငံတောင်ပိုင်း Kherson ဆိပ်ကမ်းမြို့ Dnieper မြစ်ကိုဖြတ်၍ တည်ဆောက်ထားသည့် Antonivka တံတားကို အရပ်သားများ သွားလာခွင့်အတွက် ပိတ်ထားကြောင်း၊ တံတားကိုဖျက်ဆီးရန် မလွယ်ကူကြောင်း၊ မရည်ရွယ်ကြောင်း ယူကရိန်းကြည်းတပ် ပြောခွင့်ရပုဂ္ဂိုလ်တစ်ဦးက ပြောဆိုခဲ့သည်။

Donetsk ဒေသတွင် တိုက်ခိုက်နေကြသည့် ယူကရိန်းစစ်သားများနှင့် အရာရှိများသည် ရုရှားတပ်ဖွဲ့များအား လက်နက်ကြီးပစ်အားလျှော့ချရန် ကမ်းလှမ်းခဲ့သည်ဆိုသည်မှာ ခိုင်လုံသည့် အထောက်အထားမဟုတ်ဟု ဆိုပါသည်။ အနောက်နိုင်ငံများမှ အငြိမ်းစားစစ်သည်များနှင့် ဖွဲ့စည်းထားသည့် အဖွဲ့အချို့သည် ယူကရိန်းတပ်သားသစ်များကို အလွတ်သဘော လေ့ကျင့်ပေးမှုများ ပြုလုပ်ပေးနေပါသည်။

Olenivka အကျဉ်းထောင်တွင် ပေါက်ကွဲမှုတစ်ခုဖြစ်ပွားခဲ့ရာ ယူကရိန်းစစ်အကျဉ်းသား ၄၀ ဦးအဖမ်းခံရပြီး ၇၅ ဦးဒဏ်ရာရရှိခဲ့ကြောင်း RIA သတင်းဌာနက သတင်းထုတ်လွှင့်ခဲ့သည်။ အဆိုပါတိုက်ခိုက်မှုသည် ယူကရိန်းစစ်အကျဉ်းသားများကို ကွပ်မျက်ခြင်းနှင့် ညှင်းပန်းနှိပ်စက်ခြင်းတို့ကို ဖုံးကွယ်ရန်၊ ရုရှားတပ်ဖွဲ့များကကျူးလွန်ခြင်းအား ဖုံးကွယ်ရန် တိုက်ခိုက်ခဲ့ခြင်းဖြစ်သည်ဟု ယူကရိန်းဗိုလ်ချုပ်ကြီးတစ်ဦးက ပြောဆိုခဲ့သည်။

ယူကရိန်း HIMARS ရော့ကတ်တစ်ခုသည် ဇူလိုင်လ ၃၀ ရက်နေ့ညတွင် ခရိုင်းမီယားဒေသမှ Kherson Oblast၊ Brylivka ဘူတာရုံကို ခုတ်မောင်းရောက်ရှိလာသည့် ရုရှားရထားတစ်စင်းကို ထိမှန်ပျက်စီးခဲ့ကြောင်း Odesa Regional State Administration ပြောခွင့်ရပုဂ္ဂိုလ်တစ်ဦးက ပြောဆိုခဲ့သည်။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် ပင်လယ်နက်အတွင်းရှိ ရုရှားရေတပ်အုပ်စုဌာနချုပ်ကို မောင်းသူမဲ့ဒရုန်းဖြင့် တိုက်ခိုက်ခဲ့ကြောင်း၊ ငါးဦးဒဏ်ရာရရှိခဲ့ပြီး ရေတပ်နေ့အခမ်းအနားကျင်းပခြင်းကို ဖျက်သိမ်းခဲ့ရကြောင်းနှင့် မောင်းသူမဲ့ဒရုန်းသည် ယူကရိန်းပြည်တွင်းထုတ်ဖြစ်ပြီး ပေါက်ကွဲအားပြင်းထန်မှုမရှိကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာန ပြောခွင့်ရပုဂ္ဂိုလ်က စွပ်စွဲပြောဆိုခဲ့သည်။

## ၂၀၂၂ ခုနှစ်၊ ဩဂုတ်လ

ယူကရိန်းမှ စားနပ်ရိက္ခာများ ပြည်ပသို့တင်ပို့နိုင်ရေး ရုရှားနှင့်ယူကရိန်းတို့၏သဘော တူညီချက်အရ ဂျုံများတင်ဆောင်ထားသည့် သင်္ဘောသည် ပထမဆုံးအကြိမ်အဖြစ် Odesa ဆိပ်ကမ်းမှထွက်ခွာကာ လက်ဘနွန်နိုင်ငံသို့ ဦးတည်ခုတ်မောင်းခဲ့ပါသည်။ အမေရိကန် အစိုးရသည် ယူကရိန်းအစိုးရအား ၁၇ ကြိမ်မြောက် အမေရိကန်ဒေါ်လာ ၅၅၀ သန်း တန်ဖိုးရှိ စစ်ရေးအကူအညီများ ထပ်မံပေးအပ်မည်ဖြစ်ကြောင်း ကြေညာခဲ့သည်။

ယူကရိန်းဂျုံများတင်ဆောင်လာသည့် ပထမဆုံးသင်္ဘောသည် တူကီယဲနိုင်ငံသို့ ရောက်ရှိ ခဲ့ပြီး ထပ်မံတင်ပို့ရန်ရှိကြောင်းလည်း ယူကရိန်းအစိုးရက ထုတ်ဖော်ပြောဆိုခဲ့သည်။

Zaporizhzhia နျူကလီးယားဓာတ်ပေါင်းဖိုသည် ရုရှားတို့၏လက်အောက်တွင် ထိန်းချုပ်၍ မရနိုင်ကြောင်း၊ အဆိုပါ ဓာတ်အားပေးစက်ရုံအား နိုင်ငံတကာအဏုမြူစွမ်းအင် အေဂျင်စီ (IAEA)က စစ်ဆေးရန်အတွက် ရုရှားနှင့် ယူကရိန်းနှစ်နိုင်ငံလုံး၏ သဘောတူညီ ချက်ကို စောင့်ဆိုင်းနေကြောင်း IAEA အကြီးအကဲ Refael Grossi က ပြောဆိုသည်။

မက်ဆီဒိုးနီးယားပြည်သူ့သမ္မတနိုင်ငံက ယူကရိန်းနိုင်ငံအား Su-25s ဂျက်တိုက် လေယာဉ်လေးစင်း လှူဒါန်းမည်ဖြစ်ကြောင်း ထုတ်ဖော်ပြောဆိုခဲ့သည်။ အဆိုပါ ဂျက်တိုက် လေယာဉ်များသည် ၂၀၀၁ ခုနှစ်တွင် ယူကရိန်းနိုင်ငံက ရောင်းချခဲ့သည့် လေယာဉ်များ ဖြစ်သည်။

အမေရိကန်အစိုးရသည် ယူကရိန်းအစိုးရအား အမေရိကန်ဒေါ်လာ တစ်ဘီလီယံနှင့် ညီမျှသည့် စစ်ရေးအကူအညီသစ်များ ထပ်မံပေးအပ်ရန် ပြင်ဆင်နေကြောင်း ထုတ်ဖော် ပြောဆိုခဲ့သည်။ ရုရှားကျောထောက်နောက်ခံပြုပေးထားသည့် Kakhovka ဆိပ်ကမ်းမြို့ ဒုတိယ အကြီးအကဲ Vitaly Gura မှာ ပစ်သတ်ခံရပြီးနောက် သေဆုံးသွားခဲ့သည်။

ယူကရိန်းဂျုံများတင်ဆောင်လာသည့် ပထမဆုံးသင်္ဘော ပင်လယ်နက်ဆိပ်ကမ်းမှ ထွက်ခွာလာနိုင်ခြင်းသည် ရုရှား-ယူကရိန်းစစ်ပွဲ အဆုံးသတ်နိုင်ရေး ဆွေးနွေးပွဲဆီ ခေါ်ဆောင် နိုင်ရန်အတွက် စံနမူနာကောင်းတစ်ရပ်အဖြစ် ပုပ်ရဟန်းမင်းကြီးက ကြိုဆိုကြောင်း ပြောဆို ခဲ့သည်။ အမေရိကန်အစိုးရက ယူကရိန်းနိုင်ငံအား ၁၈ ကြိမ်မြောက် စစ်ရေးအကူအညီများ ပေးအပ်သွားမည်ဖြစ်ကြောင်း ကြေညာခဲ့သည်။

ခရိုင်းမီးယားရှိ ရုရှားအခြေစိုက်စခန်းတွင် ပေါက်ကွဲမှု ၁၂ ကြိမ်ဖြစ်ပွားခဲ့သည်ဟု သတင်းများထွက်ပေါ်ခဲ့သည်။ အဆိုပါ စစ်အခြေစိုက်စခန်းသည် ယူကရိန်းတပ်ဖွဲ့များနှင့် ၂၂၀ ကီလိုမီတာအကွာတွင် တည်ရှိသည်။ အနည်းဆုံး ရုရှားလေယာဉ်ကိုးစင်း ပျက်စီးခဲ့ ကြောင်း ယူကရိန်းအစိုးရဘက်က ပြောဆိုသော်လည်း ပေါက်ကွဲရသည့်အကြောင်းအရင်း ကိုမူ ထုတ်ဖော်ပြောဆိုခဲ့ခြင်း မရှိပါ။

ရုရှား-ယူကရိန်းစစ်ပွဲသည် ခရိုင်းမီးယားနှင့်စတင်ခဲ့ခြင်းဖြစ်ပြီး ခရိုင်းမီးယားနှင့်

အဆုံးသတ်ရမည်ဖြစ်ကြောင်း ယူကရိန်းသမ္မတဇဲလန်စကီးက ပြောဆိုခဲ့သည်။ ရုရှားတပ်ဖွဲ့များအနေဖြင့် ဖေဖော်ဝါရီလ ၂၄ ရက်နေ့က ၎င်းတို့ရှိခဲ့သည့်နေရာကို ပြန်ဆုတ်မည်ဆိုပါက ရုရှားနှင့် ငြိမ်းချမ်းရေးကို လက်ခံမည်ဖြစ်ကြောင်းလည်း ၎င်းကပြောဆိုခဲ့သည်။

ပိုလန်၊ ဆလိုဗက်ကီးယားနှင့် ချက်ပြည်သူ့သမ္မတနိုင်ငံတို့သည် ယူကရိန်းစစ်ပွဲတွင် အသုံးပြုရန်အတွက် လက်နက်ကြီးများ၊ လက်နက်သိုလှောင်ရုံများနှင့် စစ်ဘက်ဆိုင်ရာ ကိရိယာများ တိုးမြှင့်ထုတ်လုပ်ရန် သဘောတူညီခဲ့ကြသည်။

Zaporizhzhia နျူကလီးယားစက်ရုံအနီးတစ်ဝိုက်တွင် စစ်မဲ့ဇုန်အဖြစ်သတ်မှတ်ရန် ကုလသမဂ္ဂအတွင်းရေးမှူးချုပ် Antonio Guterres က တောင်းဆိုခဲ့သည်။ ဆွီဒင်နိုင်ငံအနေဖြင့် ယူကရိန်းစစ်ပွဲတွင် အသုံးပြုရန်အတွက် လက်နက်များ တိုက်ရိုက်ထုတ်လုပ် တင်ပို့ရန် အဆင်သင့်ရှိကြောင်း ဆွီဒင်ကာကွယ်ရေးဝန်ကြီး Peter Hultqvist က ပြောဆိုခဲ့သည်။

ရုရှားတပ်မှူးများသည် Dnieper မြစ် အနောက်ဘက်ကမ်းမှ အရှေ့ဘက်ကမ်းသို့ ဆုတ်ခွာသွားပြီး Kherson မြို့တွင် ရုရှားတပ်ဖွဲ့များသာ ကျန်ရစ်ခဲ့ကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးဌာန ပြောခွင့်ရပုဂ္ဂိုလ်က ပြောဆိုခဲ့သည်။ နိုင်ငံတကာအဏုမြူစွမ်းအင်အေဂျင်စီအဖွဲ့မှ ပညာရှင်များကို Zaporizhzhia နျူကလီးယား စက်ရုံသို့ သွားရောက်ခွင့်ပြုမည်ဖြစ်ကြောင်း ရုရှားအစိုးရက ကတိပြုခဲ့သည်။

ခရိုင်းမီးယားမြောက်ပိုင်းရှိ Dzhankoi ဒေသ၊ Maiske ကျေးရွာတွင် ပေါက်ကွဲမှုတစ်ခု ဖြစ်ပွားခဲ့သည်။ အဆိုပါ ပေါက်ကွဲမှုကြောင့် လူနှစ်ဦးထိခိုက်ဒဏ်ရာရရှိခဲ့သည်။ ယင်းမှာ ပစ်ခတ်မှုတစ်ခုကြောင့်ဟု ရုရှားအရာရှိများကဆိုသည်။ ပေါက်ကွဲမှုကြောင့် ရထားဝန်ဆောင်မှုလုပ်ငန်းများကို ရပ်တန့်ခဲ့ပြီး ပြည်သူပေါင်း ၂၀၀၀ ကို ဘေးလွတ်ရာသို့ ရွှေ့ပြောင်းပေးခဲ့သည်။ ယင်းပေါက်ကွဲမှုသည် နိုင်ငံရေး၊ စစ်ရေး အကျိုးအမြတ်အတွက် အဖျက်လုပ်ရပ်တစ်ခုဖြစ်ကြောင်း ရုရှားကာကွယ်ရေးဝန်ကြီးဌာနက ပြစ်တင်ပြောဆိုခဲ့သည်။ Kharkiv မြို့ရှိ သုံးထပ်အဆောက်အဦတစ်ခုအား ရုရှားမစ်ဆိုင်းဒုံးကျည်ထိမှန်ခဲ့ရာ လူ ၁၂ ဦး သေဆုံးပြီး ၂၀ ဦး ဒဏ်ရာရရှိခဲ့သည်။ အဆိုပါအဆောက်အဦမှာ လုံးဝပျက်စီးသွားခဲ့သည်။

ယူကရိန်းနိုင်ငံအနောက်ပိုင်းတွင် အကြီးဆုံးမြို့ဖြစ်သော Lviv မြို့တွင် ကုလသမဂ္ဂအတွင်းရေးမှူးချုပ် Antonio Guterres ၊ တူကီယဲသမ္မတ Recep Tayyip Erdogan နှင့် ယူကရိန်းသမ္မတ Volodymyr Zelenaskyy တို့ပါဝင်သည့် သုံးပွင့်ဆိုင် အစည်းအဝေးတစ်ရပ်ကို ကျင်းပခဲ့သည်။ အစည်းအဝေး၌ ဆွေးနွေးခဲ့သည့် ခေါင်းစဉ်များတွင် Zaporizhzhia နျူကလီးယားစက်ရုံလုံခြုံရေး၊ စားနပ်ရိက္ခာတင်ပို့ရေးနှင့် စစ်အကျဉ်းသားများ လဲလှယ်ရေးတို့လည်း ပါဝင်သည်။

အမေရိကန်အစိုးရသည် ယူကရိန်းနိုင်ငံအား (၁၉) ကြိမ်မြောက် စစ်ရေးအကူအညီအဖြစ် အမေရိကန်ဒေါ်လာ ၇၇၅ သန်း ထောက်ပံ့ပေးမည်ဖြစ်ကြောင်း ကြေညာခဲ့သည်။ အဆိုပါစစ်ရေးအကူအညီတွင် ScanEagle ထောက်လှမ်းရေးဒရုန်း ၁၅ စင်း၊ HIMARS

ရော့ကတ်များ၊ Javelin တင့်ဖျက် မစ်ဆိုင်းဒုံးကျည်အစင်း ၁၀၀၀၊ MaxxPro M1224 MRAP ယာဉ် ၄၀ စင်း၊ ၁၀၅ မမ ၁၆ လက်နှင့် HARM မစ်ဆိုင်းဒုံးကျည်များ ပါဝင်သည်။

ယူကရိန်းတပ်ဖွဲ့များသည် ရုရှားတို့သိမ်းပိုက်ထားသည့် ခရိုင်းမီးယားဒေသရှိ ရုရှားပင်လယ်နက် ရေတပ်ဌာနချုပ်ပေါ်တွင် ဒရုန်းဖြင့် တိုက်ခိုက်မှုများပြုလုပ်ခဲ့ကြောင်း ရုရှားအစိုးရက ထုတ်ဖော်ပြောဆိုခဲ့သည်။

Alexander Dugin ၏ သမီးဖြစ်သူ ရုရှားဝါဒဖြန့်ချိရေးသမားတစ်ဦးဖြစ်သူ Darya Dugina သည် မော်စကိုမြို့အပြင်ဘက်ရှိ Bolshiye Vyazyomy အဆောက်အဦအနီးတွင် သံသယဖြစ်ဖွယ် ကားဗုံးပေါက်ကွဲမှုတစ်ခုတွင် သေဆုံးသွားခဲ့သည်။ ယင်းပေါက်ကွဲမှုအတွက် ယူကရိန်းအစိုးရကို ရုရှားအစိုးရက စွပ်စွဲခဲ့သည်။ သို့သော်ယူကရိန်းအစိုးရက တရားဝင်ငြင်းဆိုခဲ့ပြီး ၎င်းတို့သည် ရာဇဝတ်သား သို့မဟုတ် အကြမ်းဖက်သည့် နိုင်ငံတစ်နိုင်ငံမဟုတ်ကြောင်း တုံ့ပြန်ခဲ့သည်။

ရုရှားခရီးသွားများအား ဥရောပမဂ္ဂဇင်းများအတွင်းသို့ ဝင်ရောက်ခွင့်အား လုံးဝပိတ်ပင်ရေး အကောင်အထည်ဖော်ရန် တောင်းဆိုမှုအား ဆန့်ကျင်ကြောင်း ဥရောပသမဂ္ဂ နိုင်ငံခြားရေးမူဝါဒဆိုင်ရာ အကြီးအကဲ Josep Borrell က ပြောဆိုခဲ့သည်။

ယူကရိန်းတပ်ဖွဲ့နှင့် အရေးပေါ်လုပ်ငန်းများအပါအဝင် သင်တန်းအစီအစဉ်အမျိုးမျိုးအတွက် အမေရိကန်ဒေါ်လာ ၃ ဒသမ ၈၅ သန်း ပေးအပ်မည်ဖြစ်ကြောင်း ကနေဒါဝန်ကြီးချုပ် Justin Trudeau က ကြေညာခဲ့သည်။

ရုရှားတပ်ဖွဲ့များ ယူကရိန်းကို စတင်တိုက်ခိုက်ခဲ့ပြီးနောက် ဗြိတိန်ဝန်ကြီးချုပ် Boris Johnson ယူကရိန်းနိုင်ငံသို့ တတိယအကြိမ်မြောက် သွားရောက်ခဲ့သည်။ ယူကရိန်းနိုင်ငံအား စစ်ရေးအကူအညီ ပေါင်စတာလင် ၅၄ သန်းပေးမည်ဖြစ်ကြောင်းလည်း ကြေညာခဲ့သည်။ အမေရိကန်အစိုးရကလည်း ၂၀ ကြိမ်မြောက်အဖြစ် ယူကရိန်းနိုင်ငံအား စစ်ရေးအကူအညီအဖြစ် အမေရိကန်ဒေါ်လာ သုံးဘီလီယံပေးမည်ဖြစ်ကြောင်း အမေရိကန်ကာကွယ်ရေးဝန်ကြီးဌာနက ထုတ်ပြန်ကြေညာခဲ့သည်။

ယခုနှစ်ကုန်တွင် ယူကရိန်းစစ်ပွဲ၌ အသုံးပြုရန်အတွက် စစ်သည်အင်အား ၁၃၇၀၀၀ စုဆောင်းရန် သမ္မတပူတင်က အမိန့်တစ်ရပ်ထုတ်ပြန်ခဲ့သည်။ စစ်သည်များအား အမိန့်ဖြင့် မဖြစ်မနေစုဆောင်းရမည်လား၊ သို့မဟုတ် စေတနာ့ဝန်ထမ်းအဖြစ် ဝင်ရောက်ရမည် လားဆိုသည်မှာ ရှင်းလင်းခြင်းမရှိပါ။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် Luhansk Oblast ဒေသ၊ Kadiivka မြို့ရှိ ဟိုတယ် Donbas ကို HIMARS မစ်ဆိုင်းဒုံးကျည် ၁၀ စင်းဖြင့် တိုက်ခိုက်ခဲ့ကြောင်း ရုရှားမီဒီယာများက သတင်းဖော်ပြကြသည်။ အဆိုပါဟိုတယ်ကို စစ်ဘားတိုက်အဖြစ် အသုံးပြုနေခြင်း

ဖြစ်ကြောင်း၊ တိုက်ခိုက်မှုကြောင့် ရုရှားလေထီးဆင်းစစ်သည် ၂၀၀ ခန့် သေဆုံးခဲ့ကြောင်း ယူကရိန်းအစိုးရဘက်က ထုတ်ဖော်ပြောဆိုခဲ့သည်။

Dell Technologies Inc ကုမ္ပဏီသည် ဩဂုတ်လလယ်တွင် ရုရှားနိုင်ငံရှိ ၎င်း၏ရုံးများ ပိတ်ခဲ့ပြီးနောက် ရုရှားနိုင်ငံအတွင်းရှိ ကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်ချက်များအားလုံးကို ရပ်တန့်ကြောင်း ကြေညာခဲ့သည်။ အမေရိကန်အစိုးရအနေဖြင့် ယူကရိန်းနိုင်ငံအား ကူညီရန် HIMARS ယူနစ်များနှင့် GMLRS ရော့ကတ်များ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း ကြေညာခဲ့သည်။

ယူကရိန်းတပ်ဖွဲ့အနေဖြင့် နိုင်ငံတောင်ပိုင်းတွင် တန်ပြန်ထိုးစစ်တစ်ရပ်ဆင်နွှဲသွားမည်ဖြစ်ကြောင်း ကြေညာခဲ့သည်။ ထို့နောက် Kherson ဆိပ်ကမ်းအနီးရှိ ရုရှား၏ ရှေ့တန်းခံစစ်လိုင်းကို ချိုးဖျက်နိုင်ခဲ့ကြောင်း ယူကရိန်းအစိုးရက ကြေညာခဲ့သည်။

ယူကရိန်းစစ်ပွဲတွင်ပါဝင်သော ရုရှားနိုင်ငံသားများအား ခရီးသွားဗီဇာပိတ်ပင်ရန် ဥရောပသမဂ္ဂအဖွဲ့ဝင် ၂၆ နိုင်ငံအား အက်စတိုးနီးယား နိုင်ငံခြားရေးဝန်ကြီးက တိုက်တွန်းခဲ့သည်။ ရုရှားနိုင်ငံသည် Nord Stream 1 မှတစ်ဆင့် ဂျာမနီသို့ဓာတ်ငွေ့ပို့လွှတ်နေသည့် ပိုက်လိုင်းကို ပြုပြင်ရမည်ဖြစ်သည့်အတွက် သုံးရက်ကြာရပ်ဆိုင်းကြောင်း ကြေညာခဲ့သည်။

**၂၀၂၂ ခုနှစ်၊ စက်တင်ဘာလ**

နိုင်ငံတကာအဏုမြူစွမ်းအင်အေဂျင်စီ စစ်ဆေးရေးမှူးသည် Zaporizhzhia အဏုမြူဓာတ်အားပေးစက်ရုံသို့ ဆိုက်ရောက်လာခဲ့ကြသည်။ နော်ဝေနိုင်ငံပိုင် ရေနံကုမ္ပဏီ Equinor သည် ရုရှားနိုင်ငံအတွင်းရှိ ၎င်းတို့၏ဖက်စပ်လုပ်ငန်းများမှ နုတ်ထွက်ခဲ့သည်။

Gazprom ကုမ္ပဏီသည် ဓာတ်ငွေ့ပို့လွှတ်မှု ပြန်လည်စတင်သည့်နေ့ရက်ကို ပြောကြားခြင်းမရှိဘဲ Nord Stream 1 ကို ပိတ်ပြီး ပြင်ဆင်မှုလုပ်ငန်းများကို ပြုလုပ်ခဲ့သည်။ နိုင်ငံတကာ ရာဇဝတ်တရားရုံး (International Criminal Court)သည် ယူကရိန်းတွင် ဖြစ်နေသည့် လူမျိုးတုံးသတ်ဖြတ်မှု၊ လူသားများအပေါ် ရာဇဝတ်မှုကျူးလွန်မှုနှင့် စစ်ရာဇဝတ်မှုတို့ကို စုံစမ်းစစ်ဆေးလျက်ရှိသည်ဟု သတင်းများတွင် ဖော်ပြထားသည်။

ရုရှားအစိုးရသည် Hollywood သရုပ်ဆောင်များဖြစ်ကြသည့် Sean Penn နှင့် Ben Stiller တို့အပါအဝင် အမေရိကန်နိုင်ငံသား ၂၅ ယောက်အား ဒဏ်ခတ်ပိတ်ဆို့မှုစာရင်းတွင် ထပ်မံထည့်သွင်းခဲ့သည်။

ယူကရိန်းနိုင်ငံအရှေ့တောင်ပိုင်းရှိ ဆိပ်ကမ်းမြို့ဖြစ်သည့် Berdyansk တွင် ရုရှားအစိုးရက ခန့်အပ်ထားသည့် အရာရှိတစ်ဦးဖြစ်သည့် Artem Bardin မှာ ကားဗုံးခွဲတိုက်ခိုက်မှုတစ်ခုတွင် အပြင်းအထန်ဒဏ်ရာရရှိသွားခဲ့သည်။

ယူကရိန်းနိုင်ငံ၏လိုအပ်ချက်အရလည်းကောင်း၊အမေရိကန်တို့၏လက်နက်စျေးကွက် မူလအတိုင်းပြန်လည်ရရှိစေရန်အတွက်လည်းကောင်း ၁၅၅ မမ ကျည်များ နှစ်ဆတိုးမြှင့် ထုတ်လုပ်သွားမည်ဖြစ်ကြောင်း ပင်တဂွန်စစ်ဌာနချုပ်က ထုတ်ပြန်ကြေညာခဲ့သည်။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် Kharkiv ဒေသရှိ နယ်မြေတချို့ကို ပြန်လည်သိမ်းပိုက် နိုင်ခဲ့သည်။ ယူကရိန်းတပ်ဖွဲ့ဝင်များသည် တန်ပြန်ထိုးစစ်များ ဆင်နွှဲခဲ့ရာ Kupiansk နှင့် Izium မြို့တို့ကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့သည်။

Kharkiv ဒေသရှိ ရုရှားတပ်ဖွဲ့ဝင်များအနေဖြင့် Oskol မြစ်၏ အရှေ့ဘက်ကမ်းသို့ ပြန်လည်ဆုတ်ခွာခဲ့သည့် မြေပုံတစ်ချပ်ကို ရုရှားကာကွယ်ရေးဝန်ကြီးဌာနက ထုတ်ပြန်ခဲ့သည်။

ယူကရိန်းတပ်ဖွဲ့ဝင်များအနေဖြင့် နိုင်ငံတောင်ပိုင်းနှင့် အရှေ့ပိုင်းတို့တွင် ရုရှားတို့ထံမှ စုစုပေါင်းစတုရန်းကီလိုမီတာ ၆၀၀၀ ကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့ကြောင်း ယူကရိန်းသမ္မတ ဇဲလန်စကီးက ပြောဆိုခဲ့သည်။ ဒေသအဆင့် ရုရှားအရာရှိ ၃၅ ဦးတို့သည် သမ္မတပူတင် အား နုတ်ထွက်ပေးရန် လက်မှတ်ရေးထိုး တောင်းဆိုခဲ့ကြသည်။

ရုရှားတပ်ဖွဲ့ဝင်များသည် လွန်ခဲ့သည့် ၃ ရက်ခန့်က Kreminna မြို့မှ ဆုတ်ခွာသွားခဲ့ ကြပြီဖြစ်ကြောင်း၊ ဒေသခံများက ယူကရိန်းအလံများကို လွှင့်တင်ထားကြကြောင်း ယူကရိန်း တပ်ဖွဲ့ဝင်များ မြို့ထဲသို့ ဝင်ရောက်လာခြင်းမရှိသေးကြောင်း၊ Luhansk ဒေသ ယူကရိန်း အုပ်ချုပ်ရေးမှူး Serhiy Haidai က ထုတ်ဖော်ပြောဆိုခဲ့သည်။

ယူကရိန်းကို တိုက်ခိုက်ခဲ့ခြင်းသည် အမှားတစ်ခုဖြစ်သည်ဆိုသည်ကို မယုံကြည် ကြောင်း သမ္မတပူတင်က ဂျာမန်အဓိပတိ Olaf Scholz ကို ပြောဆိုခဲ့သည်။ ထို့ပြင် ယူကရိန်းနှင့် ငြိမ်းချမ်းရေးဆွေးနွေးမှု မျှော်လင့်ချက်မှာ အလွန်နည်းကြောင်းလည်း ၎င်းက ကုလသမဂ္ဂအတွင်းရေးမှူးချုပ် Antonio Guterres အား ပြောဆိုခဲ့သည်။

အမေရိကန်ပြည်ထောင်စုသည် ယူကရိန်းနိုင်ငံအား စစ်ရေးအကူအညီ အမေရိကန် ဒေါ်လာ သန်း ၆၀၀ ထပ်မံပေးအပ်မည်ဖြစ်ကြောင်း ကြေညာခဲ့သည်။

ပင်လယ်နက်အတွင်းရှိ သင်္ဘောအုပ်စုများသည် မြေပြင်ထိုးစစ်ကို အထောက်အကူ ပေးရန် တာဝေးပစ် ခရုမစ်ဆိုင်းဒုံးကျည်များကို ဆက်လက်အသုံးပြုနေသော်လည်း ခံစစ် အသွင်သာ ထိန်းသိမ်းထားနိုင်ကြောင်း ဗြိတိန်ကာကွယ်ရေးဝန်ကြီးဌာန၏ ထောက်လှမ်းရေး သတင်းလွှာ တွစ်တာစာမျက်နှာတွင် ဖော်ပြထားသည်။

အမေရိကန်တို့၏ လုံခြုံရေးအကူအညီများ မကြာမီ ပိုမိုရောက်ရှိလာတော့မည်ဖြစ် ကြောင်း ယူကရိန်းကာကွယ်ရေးဝန်ကြီးက ပြောဆိုခဲ့သည်။

ဒိန်းမတ်နိုင်ငံသည်လည်း ရုရှားနိုင်ငံသားများအား ပြည်ဝင်ဗီဇာပိတ်ပင်ခြင်း သို့မဟုတ် ဆိုင်းငံ့ခြင်းပြုလုပ်သည့် ဥရောပနိုင်ငံများတွင် ပါဝင်လာခဲ့သည်။

ယူကရိန်းမြေပြင်တပ်ဖွဲ့များသည် တန်ပြန်ထိုးစစ်ဆင်နွှဲရာတွင် Luhansk ဒေသရှိ Bilohorivka ကျေးရွာကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့သည်။

ကုလသမဂ္ဂအနေဖြင့် ရုရှားစားနပ်ရိက္ခာများနှင့် ဓာတ်မြေသြဇာများ ကမ္ဘာ့စျေးကွက်သို့ ရောက်ရှိနိုင်ရေး အမေရိကန်ပြည်ထောင်စု၊ ဥရောပသမဂ္ဂတို့နှင့် လက်တွဲလုပ်ဆောင်နေကြောင်း၊ ကုလသမဂ္ဂအတွင်းရေးမှူးချုပ် Antonio Guterres က ထုတ်ဖော်ပြောဆိုကြောင်း ရိုက်တာသတင်းတစ်ရပ်တွင် ဖော်ပြထားသည်။ အရန်စစ်သား စုဆောင်းရေးကို ချက်ချင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း သမ္မတပူတင်က မိန့်ခွန်းတစ်ခုတွင် တရားဝင် ထုတ်ဖော်ပြောဆိုခဲ့သည်။

ရုရှားနိုင်ငံခြားရေးဝန်ကြီး Sergey Lavrov သည် ရုရှားနိုင်ငံက ယူကရိန်းနိုင်ငံအား တိုက်ခိုက်ခဲ့သည့်စစ်ပွဲကို ကာကွယ်ပြောဆိုခဲ့ပြီး ယူကရိန်းအစိုးရသည် လူအစုလိုက် အပြုံလိုက် သတ်ဖြတ်မှုကို ကျူးလွန်နေကြောင်းလည်း ယူကရိန်းအစိုးရကို စွပ်စွဲပြောဆိုခဲ့သည်။

ရုရှားတပ်ဖွဲ့များ သိမ်းပိုက်ထားသောဒေသများတွင် ရုရှားနိုင်ငံနှင့်ပူးပေါင်းရန် ဆန္ဒခံယူပွဲများကို ကျင်းပခဲ့သည်။ အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်နှင့် ဂျာမန်အဓိပတိ Olaf Scholz ကမူ အဆိုပါဆန္ဒခံယူပွဲများသည် အတုအယောင်ဖြစ်သည်ဟု ရည်ညွှန်းပြောဆိုခဲ့သည်။

ရုရှားအစိုးရက အရန်တပ်သားသစ် စုဆောင်းမည်ဟု ကြေညာပြီးနောက် ရုရှားနိုင်ငံမှ ဂျော်ဂျီယာနိုင်ငံသို့ ဝင်ရောက်ရန်ကြိုးစားနေသည့် ကားတန်းကြီးဖြစ်ပေါ်ခဲ့ကြောင်း ရုရှားအစိုးရတာဝန်ရှိသူများက ဝန်ခံပြောကြားခဲ့သည်။

ယူကရိန်းနိုင်ငံတောင်ပိုင်းတွင် အရပ်သားများအပေါ် တိုက်ခိုက်ခဲ့ကြောင်း ရုရှားနှင့် ယူကရိန်းအစိုးရတာဝန်ရှိသူများက အပြန်အလှန်စွပ်စွဲပြောဆိုခဲ့ကြသည်။ ယူကရိန်းနိုင်ငံရှိ ရုရှားတို့သိမ်းပိုက်ထားသည့် နယ်မြေအတွင်း ရုရှားနိုင်ငံနှင့် ပူးပေါင်းဆောင်ရွက်ရန် ဆန္ဒခံယူပွဲများကျင်းပခဲ့သည့်အတွက်ဗြိတိန်နိုင်ငံကရုရှားနိုင်ငံအပေါ်ဒဏ်ခတ်ပိတ်ဆို့မှုအသစ်များ ထပ်မံချမှတ်ခဲ့သည်။ အရန်တပ်သားသစ်စုဆောင်းမှုကြောင့် ရုရှားနိုင်ငံမှ ထွက်ပြေးလာကြသည့် ရုရှားနိုင်ငံ သားများ၏ လုံခြုံရေးကို အာမခံကြောင်း Kazakhstan သမ္မတ Kassym-Jomart က ပြောကြားခဲ့သည်။

ဥရောပကော်မရှင်သည် ရုရှားနိုင်ငံအပေါ် ဒဏ်ခတ်ပိတ်ဆို့မှုအသစ်များ ထပ်မံချမှတ်ခဲ့သည်။ အဆိုပါဒဏ်ခတ်မှုတွင် ရုရှားထုတ်ကုန်တင်သွင်းမှုကို တားမြစ်ခြင်း၊ ရုရှားရေနံများကို စျေးနှုန်းသတ်မှတ်ခြင်း၊ ယူကရိန်းနိုင်ငံအား တိုက်ခိုက်ရာတွင် ပါဝင်ပတ်သက်သည့် တစ်ဦးတစ်ယောက်ချင်းနှင့် တစ်ဖွဲ့ချင်းစီအား ပစ်မှတ်ထား၍ ဒဏ်ခတ်ပိတ်ဆို့မှုများ ပြုလုပ်ခြင်းတို့ပါဝင်သည်။

သမ္မတပူတင်သည် Kherson နှင့် Zaporozhye တို့ကို လွတ်လပ်သော အချုပ်အခြာအာဏာပိုင် ပြည်နယ်များအဖြစ် အသိအမှတ်ပြုသည့် အမိန့်နှစ်ရပ်ကို လက်မှတ်ရေးထိုး

အတည်ပြုခဲ့သည်။ ယူကရိန်းနယ်မြေလေးခုအား သိမ်းယူခဲ့ခြင်းနှင့်ပတ်သက်၍ ရုရှားအစိုးရအား ကုလသမဂ္ဂအတွင်းရေးမှူးချုပ် အန်တိုနီယိုဂူတားရက်စ်က သတိပေးပြောကြားခဲ့သည်။ ရုရှားအစိုးရအနေဖြင့် အန္တရာယ်ရှိသည့် တင်းမာမှုတစ်ခုကို တိုးမြှင့်ဆောင်ရွက်နေခြင်းဖြစ်သည်ဟုလည်း စွပ်စွဲခဲ့ပြီး အန္တရာယ်ရှိသည့် အခြေအနေမှ နောက်ပြန်ဆုတ်ရန်လည်း တိုက်တွန်းခဲ့သည်။

ဆန္ဒခံယူပွဲများအပေါ် ကုလသမဂ္ဂအကြီးအကဲ၏ ထုတ်ပြန်ကြေညာချက်သည် စံနှစ်မျိုးကျင့်သုံးနေခြင်းဖြစ်ကြောင်း ရုရှားသံတမန်များက ပြောကြားခဲ့သည်။

## ၂၀၂၂ ခုနှစ်၊ အောက်တိုဘာလ

ယူကရိန်းတပ်ဖွဲ့များသည် လိုင်မန်မြို့ဝင်ပေါက်တစ်ခုတွင် ယူကရိန်းအလံကို လွှင့်ထူခဲ့သည်။ ထိုနေ့မွန်းလွဲပိုင်းတွင် လိုင်မန်အား ထိန်းချုပ်မှု ဆုံးရှုံးသွားကြောင်း ရုရှားက အတည်ပြုခဲ့သည်။ လိုင်မန်အနီးရှိ Yampil မြို့ကို ယူကရိန်းစစ်သားများက ပြန်လည်သိမ်းယူကြောင်း ဇဲလန်စကီးမှ ကြေညာခဲ့သည်။

ယူကရိန်းသံချပ်ကာတပ်ထိုးစစ်သည် ဒနီပါမြစ်တစ်လျှောက်ရှိ ရွာအများအပြားကို တောင်ဘက်ရှိရုရှားနယ်စပ်မှတစ်ဆင့် ထိုးဖောက်ခဲ့သည်။ ယူကရိန်းအာဏာပိုင်များသည် Nyzhe Zolone ၊ Pidlyman ၊ Nyznya Zhuravkai Borova နှင့် kharkiv Oblast ရှိ Borova နှင့် Shyikivka တို့ကို ပြန်လည်ထိန်းချုပ်နိုင်ခဲ့သည်။

ရုရှားကာကွယ်ရေးဝန်ကြီး Sergei Shoigu ၏အဆိုအရ ရုရှားသည် "တစ်စိတ်တစ်ပိုင်းစည်းရုံးခြင်း"ဟု ကြေညာပြီးနောက် စစ်မှုထမ်းရန် လူပေါင်းနှစ်သိန်းကျော်ကို ဆင့်ခေါ်ထားသည်။ အမေရိကန်နိုင်ငံသည် ယူကရိန်းအား ဒေါ်လာ ၆၂၅ သန်းတန် အစီအစဉ်သစ်နှင့် HIMARS ဒုံးပျံအမြောက်စနစ် ၄ ခုကိုလည်း ထောက်ပံ့ခဲ့သည်။

Kherson ဒေသ၏ လက်ထောက်ခေါင်းဆောင် Kirill Stremousov က ရုရှားတပ်ဖွဲ့များသည် ယူကရိန်းတပ်များကို ပြန်လည်တိုက်ခိုက်ရန် ပြန်လည်စုဖွဲ့ထားကြောင်း ပြောကြားခဲ့သည်။

CNN ၏ အဆိုအရ Darya Dugina ၏ ကားဗုံးခွဲမှုသည် "ယူကရိန်းအစိုးရအတွင်းရှိ အစိတ်အပိုင်းများ"မှ ခွင့်ပြုချက်ရနိုင်သည်ဟု အမည်မသိ "အမေရိကန်ထောက်လှမ်းရေး အရာရှိများ"က ယုံကြည်ကြသည်။ ယူကရိန်းတာဝန်ရှိသူများက ၎င်းတို့သည် ပြီးခဲ့သည့် ၂၄ နာရီအတွင်း မောင်းသူမဲ့ လေယာဉ် အစင်း ၂၀ ကို ပစ်ချခဲ့သည်ဟု ဆိုသည်။

ခရိုင်းမီးယားနှင့် ရုရှားပြည်မကြီးကြား အဓိကဆက်သွယ်ထားသည့် ၁၉ ကီလိုမီတာရှည်လျားသော Kerch ရေလက်ကြားတံတားသည် ပေါက်ကွဲမှုနှင့်မီးလောင်ကျွမ်းမှုကြောင့် ကားလမ်း၏ တစ်စိတ်တစ်ပိုင်း ပြိုကျပျက်စီးသွားခဲ့သည်။ သမ္မတဗလာဒီမာပူတင်က အဆိုပါဖြစ်ရပ်နှင့်ပတ်သက်၍ စုံစမ်းစစ်ဆေးရန် အမိန့်ပေးခဲ့သည်။

ရုရှားစစ်တပ်သည် Zaporizhzhia ရှိ တိုက်ခန်းတစ်ခန်းတွင် ဒုံးကျည်ခြောက်စင်း ပစ်လွှတ်ခဲ့သည်ဟု သတင်းတချို့က ဆိုသည်။ အလက်ဇန်းဒါးလူကာရှန်ကိုသည် ရုရှားနှင့် "ပူးပေါင်းဒေသခံတပ်ဖွဲ့များ"ကို ဘီလာရုစ် တွင် ဖွဲ့မည်ဟု ကြေညာခဲ့ပြီး၊ စစ်ပွဲတွင်လည်း ထပ်မံပါဝင်နိုင်သည်ဟု ကြေညာခဲ့သည်။

ယူကရိန်းသမ္မတဇဲလန်စကီးသည် G–7 အစည်းအဝေး၌ မိန့်ခွန်းပြောကြားရာတွင် ယူကရိန်းအတွက် "လေကာဒိုင်း"ဖန်တီးပေးရန်နှင့် ရုရှားအပေါ်ပိတ်ဆို့အရေးယူမှုများ ပိုမို တင်းကျပ်စွာပြုလုပ်ရန် G–7 ခေါင်းဆောင်များကို တောင်းဆိုခဲ့သည်။

ယူကရိန်းအား စစ်ရေးအကူအညီဖြင့် ပံ့ပိုးကူညီရန် ဘရပ်ဆဲလ်တွင် နေတိုးကာကွယ်ရေး ဝန်ကြီးများ တွေ့ဆုံမှုတွင် ၎င်းတို့၏ ကတိကဝတ်ကို ထပ်မံအတည်ပြုခဲ့သည်။ ယူကရိန်း သမ္မတဇဲလန်စကီးသည် အောက်တိုဘာ ၁၃ ရက်နေ့က ဘရပ်ဆဲလ်တွင် နေတိုးကာကွယ် ရေးဝန်ကြီးများတွေ့ဆုံစဉ် ၎င်း၏လေကြောင်းကာကွယ်ရေးစွမ်းရည်များ ပိုမိုရရှိရန် ပြောကြား ခဲ့သည်။ ၂၀၂၂ ခုနှစ်၊ အောက်တိုဘာ ၁၄ ရက်နေ့တွင် အမေရိကန်နိုင်ငံက ကီယက်ဗ်ကို စစ်ရေးအကူအညီနောက်ထပ်ဒေါ်လာ ၇၂၅ သန်းပေးသွားမည်ဖြစ်ကြောင်း ပြောကြားခဲ့သည်။

ယူကရိန်းနယ်စပ်အနီးရှိ Belgorod ခရိုင် Soloti မြို့ရှိ ရုရှားစစ်လေ့ကျင့်ရေးကွင်း၌ တိုက်ခိုက်မှုဖြစ်ပွားခဲ့ပြီး အခင်းဖြစ်ပွားစဉ်အတွင်း တိုက်ခိုက်သူနှစ်ဦး သေဆုံးခဲ့သည်။ ယူကရိန်းနှင့်ပတ်သက်၍ တင်းမာမှုများ ပြင်းထန်နေချိန်တွင် နေတိုးနှင့် ရုရှားတို့သည် ယခုလတွင်စီစဉ်ထားသော နျူကလီးယားစစ်ရေးလေ့ကျင့်မှုကို သီးခြားစီကျင်းပရန် စီစဉ် ထားသည်။

ယူကရိန်းလေတပ်က ဒရုန်း ၃၇ စင်းကို ကြားဖြတ်ဟန့်တားခဲ့သည်ဟု ပြောကြားခဲ့ သည်။ ရုရှား Sukhoi Su–34 တိုက်လေယာဉ်သည် ရုရှားနိုင်ငံ Yeysk မြို့ရှိ လူနေ အဆောက်အအုံတစ်ခုသို့ ပျက်ကျခဲ့ရာ တိုက်ခန်းအများအပြား မီးလောင်ကျွမ်းခဲ့သည်။

ယူကရိန်းနှင့် ရုရှားကြား အကျဉ်းသားလဲလှယ်မှုတွင် အမျိုးသမီး ၁၀၈ ဦး လွတ်မြောက် ခဲ့ပြီး ထိုအထဲတွင် အမှုထမ်း ၉၇ ဦးနှင့် Azovstal မှ လွတ်မြောက်လာသူ ၃၇ ဦးတို့ ပါဝင်သည်။

ယူကရိန်းသည် ရုရှား၏လုပ်ရပ်ရှားမှုကို လျစ်လျူရှုရန် ဒေသခံများကို တောင်းဆိုထား သည်။ ရုရှားသမ္မတ ဗလာဒီမာပူတင်သည် Donetsk၊ Luhansk၊ Kherson နှင့် Zaporizhzhia Oblasts တို့တွင် စစ်အုပ်ချုပ်ရေး ကြေညာခဲ့သည်။

ယူကရိန်းတောင်ပိုင်း Kherson ဒေသတွင် အရပ်သား ၁၅,၀၀၀ ခန့်ကို ရှေ့တန်းမှ ဘေးလွတ်ရာသို့ ရွှေ့ပြောင်းပေးထားကြောင်း ရုရှားကျောထောက်နောက်ခံပြု အရာရှိ တစ်ဦးက ပြောကြားခဲ့သည်။ ယူကရိန်းနှင့်ဆက်ဆံရေးအခြေအနေ ကောင်းမွန်ကြောင်း ပြသရန်အတွက် အမေရိကန် ကွန်ဂရက်လွှတ်တော်ကိုယ်စားလှယ်အဖွဲ့သည် ကီယက်ဗ်သို့ သွားရောက်ခဲ့သည်။

လေကြောင်းတိုက်ခိုက်မှုများကြောင့် အရေးကြီးသော အခြေခံအဆောက်အအုံနှင့် စွမ်းအင်ဆိုင်ရာ အဆောက်အအုံများကို ထိမှန်ခဲ့ရာ ယူကရိန်းနိုင်ငံတစ်ဝန်းတွင် လျှပ်စစ်ဓာတ်အား ပြတ်တောက်ခဲ့သည်။ ရုရှားခေါင်းဆောင်များသည် Kherson ရှိ နေထိုင်သူအားလုံးကို ရွှေ့ပြောင်းရန် တိုက်တွန်းခဲ့သည်။

တူကီယဲမှ ယူကရိန်းသို့ထွက်ခွာမည့် ကုန်တင်သင်္ဘော ၁၆၅ စင်းကို ရုရှားက နှောင့်နှေးအောင် ဆောင်ရွက်နေသည်ဟု ယူကရိန်းကစွပ်စွဲထားသည်။

အမေရိကန် ဘတ်စကက်ဘောကြယ်ပွင့် Brittney Griner အား မူးယစ်ဆေးဝါးမှောင်ခိုမှုဖြင့် ရုရှားတရားရုံးတစ်ရုံးက အောက်တိုဘာလ ၂၅ ရက်နေ့တွင် စွဲချက်တင်လိုက်သည်။ တရားသူကြီးက ဖေဖော်ဝါရီလ ၁၇ ရက်မှစတင်၍ ချုပ်နှောင်ထားသည့် အချိန်များကိုရေတွက်ရန် ဆုံးဖြတ်ခဲ့ခြင်းကြောင့် Griner အား ချမှတ်ထားသည့် ထောင်ဒဏ်ကိုးနှစ်မှာ လျှော့ရက်ရရှိသွားသည်။

ရုရှားသည် US Navy SEALs နှင့် British Armed Forces မှ လေ့ကျင့်ပေးထားသော အာဖဂန်အမျိုးသားတပ်မတော်ကွန်မန်ဒိုတပ်ဖွဲ့၏အဖွဲ့ဝင်များကို စတင်စုဆောင်းခဲ့သည်။ ရုရှားတပ်ဖွဲ့များသည် ဒနီပါမြစ်၏ ညာဘက်ကမ်းမှ ယူကရိန်းအရပ်သား ၇၀,၀၀၀ ခန့်ကို ရွှေ့ပြောင်းစေခဲ့ပြီး အချို့ကို ရုရှားတောင်ပိုင်းသို့ ရွှေပြောင်းစေခဲ့သည်။ ဗလာဒီမာပူတင်သည် ရုရှား၏ မဟာဗျူဟာနျူကလီးယားတပ်ဖွဲ့များ၏ စစ်ရေး လေ့ကျင့်မှုကို စောင့်ကြည့်ခဲ့သည်ဟုဆိုသည်။

တောင်ကိုရီးယားနိုင်ငံသည် ယူကရိန်းသို့ လက်နက်များပေးပို့ခဲ့ခြင်းမရှိကြောင်း ငြင်းဆိုထားသည်။ ဥရောပသမဂ္ဂသည် ယူကရိန်းတပ်များအတွက် ၎င်း၏လေ့ကျင့်ရေးမစ်ရှင်ကိုဦးဆောင်ရန် ပိုလန်နိုင်ငံမှ ဗိုလ်ချုပ်ကြီး Piotr Trytek အား ခန့်အပ်ခဲ့သည်။

Sevastopol ရေတပ်အခြေစိုက်စခန်းအား မောင်းသူမဲ့ယာဉ်များ၊ ဒရုန်းများဖြင့် တိုက်ခိုက်ခဲ့သည်။ ရုရှားအစိုးရများ၏ အဆိုအရ UAV ကိုးစင်းနှင့် USV ခုနစ်စင်းတို့ကို ဖျက်ဆီးခဲ့သည်။ တိုက်ခိုက်မှုပြင်ဆင်ရာတွင် ဗြိတိန်ပါဝင်သည်ဟု ရုရှားက စွပ်စွဲထားသည်။ တိုက်ခိုက်မှုအပြီးတွင် ရုရှားသည် Black Sea Grain Initiative တွင် ၎င်း၏ ပါဝင်မှုကို ရပ်ဆိုင်းခဲ့သော်လည်း လေးရက်အကြာတွင် ၎င်း၏ပါဝင်မှုကို ပြန်လည်စတင်ခဲ့သည်။

ခရိုင်းမီးယားကို အောက်တိုဘာ ၂၉ ရက်နေ့က ဒရုန်းဖြင့်တိုက်ခိုက်မှုအတွက် ယူကရိန်းကို အပြစ်တင်ပြီးနောက် မော်စကိုက သဘောတူညီချက်မှ နုတ်ထွက်ကြောင်း ကြေညာခဲ့သည်။ Kyiv သည် ရုရှားနိုင်ငံအား အတုအယောင်တိုက်ခိုက်မှုများကို တီထွင်ပြီး သဘောတူညီချက်ကို “blackmail” အဖြစ် အသုံးပြုနေသည်ဟု စွပ်စွဲခဲ့သည်။

ယူကရိန်းနိုင်ငံက ပစ်ချခဲ့သည့် ဒုံးကျည်တစ်စင်းသည် မော်လ်ဒိုဗာပြည်နယ် နာဆလက်စီယာရွာသို့ ကျရောက်ခဲ့ပြီး လူသေဆုံးမှုမရှိခဲ့သော်လည်း အိမ်တချို့တွင် ပြတင်းပေါက်များကွဲအက်သွားခဲ့သည်။

## ၂၀၂၂ ခုနှစ်၊ နိုဝင်ဘာလ

ရုရှားသည် ၎င်း၏တစ်စိတ်တစ်ပိုင်းစည်းရုံးခြင်း ပြီးဆုံးကြောင်း ကြေညာခဲ့သည်။ ရုရှားအစိုးရသည် ယူကရိန်းသင်္ဘောများအား ပင်လယ်နက်ကိုဖြတ်၍ အရေးကြီး စားနပ်ရိက္ခာများ တင်ပို့မှုခွင့်ပြုသည့်သဘောတူညီချက်ကို ဒီဇင်ဘာလ ၃ ရက်နေ့က ငြင်းဆိုခဲ့ပြီးနောက် ယခုထပ်မံ၍ ခွင့်ပြုခဲ့သည်။

မြောက်ကိုရီးယားသည် ရုရှားသို့ အမြောက်အမျှားကို လျှို့ဝှက်စွာပို့ဆောင်နေကြောင်း အမေရိကန်က ပြောကြားခဲ့သည်။ အကျဉ်းသားလဲလှယ်မှုတွင် ယူကရိန်းစစ်မှုထမ်း ၁၀၇ ဦးကို ယူကရိန်းသို့ ပြန်ပေးခဲ့သည်။

ယူကရိန်းကာကွယ်ရေးဝန်ကြီး Oleksii Reznikov သည် ၎င်း၏ ဆိုဗီယက်ခေတ်လက်နက်များအတွက် Ukroboronprom 152 နှင့် 122 mm အမြောက်များကို စတင်ထုတ်လုပ်တော့မည်ဖြစ်ကြောင်း ကြေညာခဲ့သည်။

သမ္မတပူတင်သည် ကြီးလေးသောရာဇဝတ်မှုများဖြင့် ပြစ်ဒဏ်ကျခံနေရသူများအား ရုရှားစစ်တပ်ထဲသို့ စည်းရုံးခွင့်ပြုမည့်အမိန့်ကို လက်မှတ်ရေးထိုးခဲ့သည်။ ယင်းက လူပေါင်း “ရာနှင့်ချီ”၍ စည်းရုံးနိုင်ခဲ့သည်။

သီတင်းပတ်များစွာ ငြင်းဆိုခဲ့ပြီးနောက် အီရန်သည် ရုရှားသို့ ဒရုန်းအရေအတွက် အကန့်အသတ်ဖြင့် ထောက်ပံ့ပေးခဲ့ကြောင်း ပထမဆုံးအကြိမ် တရားဝင် အသိအမှတ်ပြုခဲ့သည်။ ရုရှားသမ္မတ ဗလာဒီမာပူတင်သည် မော်စကိုအား ကြီးလေးသောပြစ်မှုဖြင့် ပြစ်ဒဏ်ချမှတ်ခံရသော နိုင်ငံသားများအား စစ်မှုထမ်းရန် ခွင့်ပြုသည့်ဥပဒေတစ်ရပ်ကို လက်မှတ်ရေးထိုးခဲ့သည်။

ရုရှားနှင့် သံတမန်ရေးအရ ဆွေးနွေးရန် လမ်းပွင့်နေသေးကြောင်း ယူကရိန်းအား မကြာသေးမီ သီတင်းပတ်က အမေရိကန်အကြီးတန်းအရာရှိများက တိုက်တွန်းခဲ့သည်။ ရုရှားဖက်ဒရယ်လုံခြုံရေးဝန်ဆောင်မှု(FSB)က Kherson တွင် ဖျက်ဆီးမှုနှင့် ကင်းထောက်အဖွဲ့ကို နှောင့်ယှက်ခဲ့သည့် ယူကရိန်းနိုင်ငံသားကိုးဦးကို ထိန်းသိမ်းခဲ့ကြောင်း နိုဝင်ဘာလ ၈ ရက်နေ့က ပြောကြားခဲ့သည်။

ယူကရိန်းတပ်ဖွဲ့များသည် Snihurivka သို့ ဝင်ရောက်ခဲ့သည်။ ရုရှားတပ်ဖွဲ့များသည် Kherson မြို့မှ ဆုတ်ခွာပြီး Dnipro အရှေ့ဘက်ကမ်းသို့ ဆုတ်ခွာကြောင်း ကြေညာခဲ့သည်။ Kherson ဒေသ၏ လက်ထောက်ခေါင်းဆောင် Kirill Stremousov သည် Henichesk အနီးတွင် ကားတိုက်မှုအတွင်း သေဆုံးသွားခဲ့သည်။

အမေရိကန်နိုင်ငံက ယူကရိန်းနိုင်ငံသို့ စစ်ဘက်ဆိုင်ရာထောက်ပံ့ငွေ ဒေါ်လာ သန်း ၄၀၀ ထောက်ပံ့ပေးကြောင်း ကြေညာခဲ့ပြီး ယင်းတွင် High Mobility Artillery Rocket System (HIMARS)အတွက် မော်တာများနှင့် ဒုံးကျည်များပါဝင်ကြောင်း ပြောကြားခဲ့သည်။

ရှေ့တန်းတပ်များသည် Dnipro မြစ်အနောက်ဘက်ကမ်းသို့ ရောက်ရှိစဉ်တွင် ယူကရိန်းတပ်ဖွဲ့ဝင်များသည် Kherson မြို့တွင်းသို့ ဝင်ရောက်ခဲ့သည်။

Kremlin ပြောရေးဆိုခွင့်ရှိသူ Dmitry Peskov က ရုရှားက ရယူထားသော ယူကရိန်းဒေသ လေးခုအနက်မှ တစ်ခုဖြစ်သော Kherson ဒေသသည် ရုရှား၏ တစ်စိတ်တစ်ပိုင်းအဖြစ် ကျန်ရှိနေဆဲဖြစ်ကြောင်း ပြောကြားခဲ့သည်။ Kherson သည် Dripro မြစ်အနောက်ဘက်ဒေသမှ ရုရှားတပ်များ ဆုတ်ခွာပြီးနောက် ယူကရိန်းစစ်ပွဲအတွင်း ရှေ့တန်းမြို့တစ်မြို့ဖြစ်လာသည်။

ကုလသမဂ္ဂအထွေထွေညီလာခံသည် ရုရှား–ယူကရိန်းပဋိပက္ခတွင် ယူကရိန်း၏ ပျက်စီးမှုအားလုံးအတွက် ရုရှားတွင် တာဝန်ရှိကြောင်းနှင့် လျော်ကြေးပေးရန် တောင်းဆိုသည့် ဆုံးဖြတ်ချက်တစ်ရပ်ကို ကုလသမဂ္ဂအထွေထွေညီလာခံက အတည်ပြုခဲ့သည်။

ယူကရိန်း၏ စစ်ဆင်ရေးကွပ်ကဲမှုတောင်ပိုင်း၏ အဆိုအရ၊ ယူကရိန်းဒုံးပျံနှင့် အမြောက်တပ်များသည် Dnipro မြစ်၏ ဘယ်ဘက်ကမ်းနှင့် Kinburn Spit ဧရိယာရှိ ရုရှား၏ တည်နေရာများကို တိုက်ခိုက်ခဲ့သည်။

ပိုလန်နှင့် နေတိုးခေါင်းဆောင်များက ပိုလန်နယ်မြေတွင် နိုဝင်ဘာ ၁၆ ရက်နေ့က လူနှစ်ဦးသေဆုံးစေသည့် ဒုံးကျည်သည် ရုရှား၏တိုက်ခိုက်မှုကို ကာကွယ်ရန်အတွက် ယူကရိန်းတပ်ဖွဲ့များက ပစ်ခတ်ခဲ့ခြင်းဖြစ်ဖွယ်ရှိကြောင်း၊ ယင်းဖြစ်ရပ်မှာ မတော်တဆမှုတစ်ခုဖြစ်သည်ဟု ယူဆရသည်။ ပဋိပက္ခအတွင်း နေတိုးနိုင်ငံကို ပထမဆုံးအကြိမ် တိုက်ရိုက်ထိမှန်ခြင်းဖြစ်သည်။

ဒုံးကျည်တိုက်ခိုက်မှုပြီးနောက် လူ ၁၀ သန်းကျော်သည် နိုဝင်ဘာ ၁၇ ရက်တွင် လျှပ်စစ်မီးပြတ်တောက်ခဲ့သော်လည်း တစ်ရက်အကြာတွင် ယူကရိန်းတာဝန်ရှိသူများက ယူကရိန်း၏ “၁၀၀ ရာခိုင်နှုန်းနီးပါး” လျှပ်စစ်ဓာတ်အား ပြန်လည်ရရှိပြီဖြစ်ကြောင်း အစီရင်ခံခဲ့သည်။

Kremlin ထိပ်တန်းအရာရှိတစ်ဦးသည် အကျဉ်းကျနေသည့် ရုရှားလက်နက်ရောင်းဝယ်သူတစ်ဦးပါဝင်သည့် အမေရိကန်နှင့် အကျဉ်းသားလဲလှယ်မှုတွင် တိုးတက်မှု ရှိလာနိုင်ကြောင်း အချက်ပြခဲ့သည်။

ဗြိတိန်ဝန်ကြီးချုပ် Rishi Sunak သည် ဗြိတိန်ခေါင်းဆောင်ဖြစ်လာပြီးနောက်ပိုင်း ၎င်း၏ ပထမဆုံး ယူကရိန်းခရီးစဉ်အတွင်း နိုဝင်ဘာ ၁၉ ရက်နေ့က ကိယက်ဗ်တွင် ဖဲလန်စကီးနှင့်တွေ့ဆုံခဲ့သည်။ ရှစ်လအတွင်း ပထမဆုံးအကြိမ်အဖြစ် Kyiv မှ ခရီးသည်တင်ရထားတစ်စင်းသည် ပြီးခဲ့သည့် သီတင်းပတ်က ရုရှားတပ်များ ပြန်လည်ဆုတ်ခွာသွားပြီး နောက်ပိုင်း တောင်ပိုင်း Kherson မြို့သို့ ထွက်ခွာခဲ့သည်။

နယူးဇီလန်ကာကွယ်ရေးဝန်ကြီး Peeni Henare သည် ကိယက်ဗ်သို့လာရောက်သည့်

ပထမဆုံးဝန်ကြီးဖြစ်လာခဲ့သည်။ နယူးဇီလန်သည် နောက်ထပ်အကူအညီများကို ထည့်သွင်းစဉ်းစားရန် ပြင်ဆင်ထားကြောင်း ၎င်းက ပြောဆိုခဲ့သည်။

နျူကလီးယားဓာတ်အားပေးစက်ရုံတွင် ပစ်ခတ်မှုများကြောင့် အပြန်အလှန် အပြစ်တင်ပြောဆိုမှုများရှိခဲ့ပြီး IAEA အကြီးအကဲက မည်သူမဆို "မီးနှင့်မကစား"သင့်ကြောင်း သတိပေးခဲ့သည်။

ယူကရိန်းနိုင်ငံတောင်ပိုင်း Kherson ဒေသရှိ ဒေသခံများမှ ဆန္ဒအလျောက် ဘေးလွတ်ရာသို့ ရွှေ့ပြောင်းမှုများ စတင်တော့မည်ဖြစ်ကြောင်း ပြောကြားခဲ့သည်။ ယူကရိန်းတွင် တိုက်ခိုက်မှုနှင့်ဆက်နွယ်သော ဓာတ်အားလိုင်းချို့ယွင်းမှုကြောင့် မော်လ်ဒိုဗာနိုင်ငံသည်လည်း မီးပျက်မှုများ ကြုံတွေ့နေရသည်။

မကြုံစဖူး ဓာတ်အားပြတ်တောက်မှုကြောင့် ယူကရိန်းနျူကလီးယားစက်ရုံ လေးရုံကို တစ်ပြိုင်နက်ပိတ်ခဲ့သည်။ ဓာတ်အားပြတ်တောက်မှုကြောင့် မြေအောက်၌ တစ်ညလုံး ပိတ်မိနေခဲ့သော မိုင်းလုပ်သား ၃၀၀၀ နီးပါးကို ကယ်ဆယ်နိုင်ခဲ့သည်။

ခက်ခဲကြမ်းတမ်းသော ဆောင်းရာသီ၏အအေးဒဏ်နှင့် ရုရှားတပ်ဖွဲ့များ၏ အဆက်မပြတ် ပစ်ခတ်တိုက်ခိုက်မှုများရှိလာမည်ဖြစ်ကြောင်း ယူကရိန်းအစိုးရ အဆင့်မြင့်အရာရှိများက သတိပေးခဲ့ပြီးနောက် မကြာသေးမီက ရုရှားတို့၏ထိန်းချုပ်မှုမှ လွတ်မြောက်ခဲ့သည့် Kherson မြို့ခံတချို့ကို ဘေးလွတ်ရာသို့ ပြောင်းရွှေ့ပေးခဲ့ရသည်။

ဖင်လန်နိုင်ငံနှင့် ဆွီဒင်နိုင်ငံတို့သည် နေတိုးစစ်မဟာမိတ်အဖွဲ့သို့ဝင်ရောက်နိုင်ရေးနှင့် ပတ်သက်၍ ဟန်ဂေရီနှင့် တူကီယဲနိုင်ငံတို့က ထောက်ခံအတည်ပြုကြလိမ့်မည်ဟု ယုံကြည်ကြောင်း နေတိုးစစ် မဟာမိတ်အဖွဲ့ အတွင်းရေးမှူးချုပ် Jens Stoltenberg က ပြောဆိုခဲ့သည်။

ယခုအခါ ယူကရိန်းလျှပ်စစ်ဓာတ်အားလိုအပ်ချက်၏ ၇၅ ရာခိုင်နှုန်းခန့်ကို ဖြည့်ဆည်းနိုင်ပြီဖြစ်ကြောင်း ယူကရိန်းနိုင်ငံ၏ မဟာဓာတ်အားလိုင်း ထောက်ပံ့ရေးဌာနက ပြောဆိုထားသည်။ ရုရှားတို့၏ မစ်ဆိုင်းဒုံးကျည်ပစ်ခတ်တိုက်ခိုက်မှုများကြောင့် ယခုသီတင်းပတ်အစောပိုင်းက ဓာတ်အားပြတ်တောက်မှု အများအပြား ဖြစ်ပေါ်ခဲ့သည်။

ယူကရိန်းမြို့တော် ကီယက်ဗ်တွင် အခက်အခဲများကြားမှ ပြုပြင်မှုများပြုလုပ်ပြီးနောက် လျှပ်စစ်မီး၊ ရေ၊ စွမ်းအင်နှင့် အင်တာနက်ရရှိမှုတို့သည် ပုံမှန်နီးပါးအခြေအနေသို့ ရောက်ရှိနေပြီဖြစ်ကြောင်း မြို့တော်တာဝန်ရှိသူများက ထုတ်ဖော်ပြောဆိုခဲ့သည်။

အမေရိကန်နှင့် ရုရှားတို့သည် အမေရိကန်အကျဉ်းသား Brittnery Griner နှင့် Paul Whelan လွတ်မြောက်ရေးအတွက် ဆက်လက်ဆွေးနွေးနေကြောင်း ရုရှားနိုင်ငံဆိုင်ရာ အမေရိကန်သံရုံးယာယီတာဝန်ခံက ရုရှားနိုင်ငံပိုင်မီဒီယာကို ပြောဆိုခဲ့သည်။

ယူကရိန်းနိုင်ငံ၏ လျှပ်စစ်ဓာတ်အားလိုအပ်ချက်သည် ၃၀ ရာခိုင်နှုန်းအထိ မြင့်တက်လာခဲ့ကြောင်း နိုင်ငံပိုင်လျှပ်စစ်ကုမ္ပဏီ၏ ဖော်ပြချက်အရ သိရသည်။ မကြာသေးမီက ပစ်ခတ်တိုက်ခိုက်မှုများကြောင့် ယူကရိန်းနိုင်ငံအတွင်း စွမ်းအင်ထောက်ပံ့ရေးအခြေခံအဆောက်အအုံများ ပျက်စီးသွားခဲ့သည်။

အမေရိကန်အစိုးရအနေဖြင့် ဂျာမနီရှိ အမေရိကန်အခြေစိုက်စခန်းတစ်ခုတွင် တစ်လလျှင် ယူကရိန်းစစ်သည် ၂၅၀၀ ခန့်အထိ လေ့ကျင့်သင်ကြားပေးရန် စဉ်းစားနေကြောင်း အမေရိကန်အရာရှိများ၏ ပြောဆိုချက်အရ သိရသည်။

## ၂၀၂၂ ခုနှစ်၊ ဒီဇင်ဘာလ

အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်က ဗလာဒီမာပူတင်နှင့်ဆက်သွယ်ရန် လတ်တလောအစီအစဉ်မရှိဟု ပြောကြားခဲ့သည်။ သို့သော် သမ္မတပူတင်အနေဖြင့် ယူကရိန်းစစ်ပွဲကို အဆုံးသတ်ရန် နည်းလမ်းရှာနေသည်ဟုဆိုပါက ၎င်းအနေဖြင့် ရုရှားခေါင်းဆောင်နှင့် စကားပြောရန် အသင့်ရှိကြောင်း ထပ်လောင်းပြောဆိုခဲ့သည်။

ဥရောပသမဂ္ဂသည် ရုရှားသွင်းကုန်အများစုအပေါ် တားမြစ်ပိတ်ပင်ချက် အသက်မဝင်မီ ရက်ပိုင်းမျှအလိုတွင် ရုရှားရေနံအပေါ် ဈေးနှုန်းသတ်မှတ်ချက်နှင့်ပတ်သက်၍ သဘောတူညီချက်တစ်ရပ် ရရှိခဲ့သည်။

Zaporizhzhia နျူကလီးယားဓာတ်အားပေးစက်ရုံကို ကာကွယ်ရန်အတွက် နှစ်ကုန်တွင် ရုရှား၊ ယူကရိန်းတို့နှင့် သဘောတူညီချက်တစ်ရပ် ရရှိလိမ့်မည်ဟု ကုလသမဂ္ဂ နျူကလီးယား စောင့်ကြည့်ရေးအဖွဲ့က မျှော်လင့်ထားသည်။

ရုရှားရေနံနှင့် အခြားသောအနောက်နိုင်ငံများ၏ ပိတ်ဆို့အရေးယူမှုများအပေါ် အီးယူ၏ ဈေးနှုန်းကန့်သတ်ချက်ကြောင့် OPEC နှင့် ၎င်းမဟာမိတ်များသည် လက်ရှိရေနံထွက်ရှိမှုကို ဖြတ်တောက်ထားရန် ဆုံးဖြတ်ခဲ့သည်။

သမ္မတဗလာဒီမာပူတင်သည် အောက်တိုဘာလအတွင်းက ပေါက်ကွဲမှုကြောင့် တစ်စိတ်တစ်ပိုင်းပျက်စီးသွားသော ခရိုင်းမီးယားကျွန်းဆွယ်နှင့် ရုရှားပြည်မကြီးအကြား အဓိကဆက်သွယ်ထားသည့် Kerch တံတားသို့သွားရောက်ခဲ့ကြောင်း ရုရှားနိုင်ငံပိုင်မီဒီယာက ဖော်ပြခဲ့သည်။

ယူကရိန်းနှင့် နယ်နိမိတ်ချင်းထိစပ်နေသည့် ဒေသတွင်းလေယာဉ်ကွင်းတစ်ခုတွင် ဒီဇင်ဘာ ၆ ရက်နေ့က ဒရုန်းနှင့်တိုက်ခိုက်မှုဖြစ်ပွားခဲ့ကြောင်း ရုရှားနိုင်ငံအနောက်ဘက်ရှိ Kursk ဒေသအုပ်ချုပ်ရေးမှူးက ပြောဆိုခဲ့သည်။ သမ္မတဗလာဒီမာပူတင်က ရုရှားလက်နက်တိုက်အား အဟန့်အတားအဖြစ် ရှုမြင်ထားကြသော်လည်း နျူကလီးယားစစ်ပွဲ၏ ခြိမ်းခြောက်မှုမှာ တိုးလာနေကြောင်း သမ္မတ ဗလာဒီမာပူတင်က ပြောကြားခဲ့သည်။

အမျိုးသမီးဘတ်စကတ်ဘောအသင်း (WNBA) ကြယ်ပွင့် Brittney Griner သည် လက်နက်ပွဲစား Viktor Bout နှင့် အကျဉ်းသားလဲလှယ်မှုအရ ရုရှားအကျဉ်းထောင်မှ ပြန်လည်လွတ်မြောက်လာခဲ့ကြောင်း သိရသည်။

အမျိုးသမီးဘတ်စကတ်ဘောအသင်း (WNBA) ကြယ်ပွင့် Brittney Griner သည် ရုရှားအကျဉ်းထောင်မှ ပြန်လည်လွတ်မြောက်လာပြီးနောက် အမေရိကန်မြေသို့ ပြန်လည်ရောက်ရှိနေပြီဖြစ်သည်။

ဥရောပကောင်စီအနေဖြင့် ယူကရိန်းအား ၂၀၂၃ ခုနှစ်တွင် ယူရို ၁၈ ဘီလီယံအကူအညီ ပေးနိုင်မည့် ဥပဒေတစ်ရပ်ပြဋ္ဌာန်းနိုင်သော သဘောတူညီချက်တစ်ရပ် ချမှတ်နိုင်ခဲ့သည်။ အဆိုပါ သဘောတူညီချက်ကို လာမည့်သီတင်းပတ်တွင် ဥရောပပါလီမန်သို့ တင်ပြသွားမည်ဖြစ်ကြောင်း Kyiv Indenpendent သတင်းတစ်ရပ်တွင် ဖော်ပြထားသည်။

ယူကရိန်းကို အမေရိကန်က မကြုံစဖူးထောက်ပံ့ပေးသည့် ကာကွယ်ရေးနှင့်ငွေကြေး အကူအညီအတွက် ကျေးဇူးတင်ကြောင်း ဇဲလန်းစကီးက သူ၏တရားဝင် Telegram messaging app တွင် ပြောကြားခဲ့သည်။ တစ်ချိန်တည်းတွင် ယူကရိန်းတပ်ဖွဲ့များသည် သိမ်းပိုက်ခံ ယူကရိန်းဒေသများကို တိုက်ခိုက်မှုများပြုလုပ်ခဲ့ရာ တောင်ဘက်ရှိ Melitopol နှင့် အရှေ့ဘက်ရှိ Donetsk တို့ကို ဒုံးကျည်များထိမှန်ခဲ့ကြောင်း ဒေသအဆင့်တာဝန်ရှိသူများက ပြောကြားခဲ့သည်။

ယူကရိန်းသမ္မတဇဲလန်းစကီးသည် G-7 အစည်းအဝေးသို့ virtual စနစ်ဖြင့် ပါဝင်တက်ရောက်ခဲ့ပြီး ငြိမ်းချမ်းရေးအတွက် အာမခံချက်ဖြစ်စေနိုင်သည့် အဆင့်သုံးဆင့်ကို ချပြခဲ့သည်။ ဘိုင်ဒန်အစိုးရသည် ဖမ်းဆီးခံထားရသော အမေရိကန်နိုင်ငံသား Paul Whelan ကိစ္စဆွေးနွေးရန်အတွက် ယခုသီတင်းပတ်အတွင်း ရုရှားနိုင်ငံနှင့် စေ့စပ်ဆွေးနွေးမည်ဖြစ်ကြောင်း အမျိုးသားလုံခြုံရေးအကြံပေး Jake Sullivan က ပြောကြားခဲ့သည်။

ဘိုင်ဒန်အစိုးရသည် ရုရှားတို့က ယူကရိန်းအား တိုက်ခိုက်မှုများကို တန်ပြန်နိုင်ရန်အတွက် ယူကရိန်းသို့ အဆင့်မြင့်တာဝေးပစ် လေကြောင်းကာကွယ်ရေးစနစ်တစ်ခုပေးပို့မည့် အစီအစဉ်အပြီးသတ်နေကြောင်း အမေရိကန်တာဝန်ရှိသူများက ပြောကြားခဲ့သည်။

ယူကရိန်းလေကြောင်းရန် ကာကွယ်ရေးတပ်ဖွဲ့များသည် မြို့တော်ကီယက်ဗ်မြို့ပေါ်ရှိ အီရန်လုပ် ဒရုန်း ၁၃ စင်းကို ပစ်ချခဲ့ကြောင်းနှင့် သမ္မတဇဲလန်းစကီးက မြို့တော်အား တိုက်ခိုက်မှုမှတားဆီးပြီးနောက် နိုင်ငံတော်စွမ်းအင်အော်ပရေတာက ၎င်း၏ဓာတ်အား အခြေခံအဆောက်အအုံတစ်ခုမျှ မပျက်စီးကြောင်း ပြောကြားခဲ့သည်။

ယူကရိန်းအတွက် အထောက်အပံ့ ဒေါ်လာ သန်း ၈၀၀ ပါဝင်သော ကြီးမားသော ကာကွယ်ရေးအသုံးစရိတ်ဥပဒေကြမ်းကို အမေရိကန်ကွန်ဂရက်က အတည်ပြုခဲ့သည်။

အမေရိကန်အစိုးရသည် သမ္မတပူတင်နှင့်နီးစပ်သော အာဏာပိုင်များ၊ အုပ်ချုပ်ရေးမှူးများနှင့် ယူကရိန်းရှိ ရုရှားအသုံးချခံပုဂ္ဂိုလ်များကို ပစ်မှတ်ထားပြီး ဒဏ်ခတ်ပိတ်ဆို့မှုအသစ်များ ချမှတ်ခဲ့ကြောင်း ထုတ်ပြန်ခဲ့သည်။

ဒီဇင်ဘာ ၁၆ ရက်နေ့တွင် ကမ္ဘာ့ဖလားဖိုင်နယ်မစတင်မီ ကမ္ဘာ့ငြိမ်းချမ်းရေးသတင်းစကားကိုမျှဝေရန် သမ္မတဇဲလန်စကီး၏ တောင်းဆိုချက်ကို ကမ္ဘာ့ဘောလုံးအဖွဲ့ချုပ်(FIFA)က ပယ်ချခဲ့ကြောင်း၊ FIFA နှင့်နီးစပ်သည့် သတင်းရင်းမြစ်တစ်ခုက CNN သို့ ပြောကြားခဲ့သည်။

ဒီဇင်ဘာ ၁၇ ရက်နေ့က ယူကရိန်းသည် ရုရှားခံတပ်တစ်ခုအတွင်း ဒုံးကျည်ဒါဇင်နှင့်ချီပြီး ကောင်းကင်မှပစ်ချခဲ့သည်ဟု ယူကရိန်းဘက်မှ ပြောဆိုမှုများရှိသော်လည်း အနည်းဆုံး ၁၆ စင်းက ၎င်း၏ပစ်မှတ်များကိုထိမှန်ပြီး အခြေခံအဆောက်အဦများ ပြင်းထန်စွာ ပျက်စီးသွားခဲ့သည်။

သန်းနဲ့ချီသောဒေသခံများအတွက် ဝန်ဆောင်မှုများ ပုံမှန်အတိုင်း ပြန်လည်ရောက်ရှိခဲ့သော်လည်း အချို့နေရာများတွင် အကြီးစားဓာတ်အားပြတ်တောက်မှုများ ရှိနေဆဲဖြစ်ကြောင်း သမ္မတဇဲလန်စကီးက ပြောကြားခဲ့သည်။ အမေရိကန်သည် ယူကရိန်းသို့ မကြာမီအချိန်အတွင်း အဆင့်မြင့် Patriot ဒုံးကျည်ကာကွယ်ရေးစနစ်များကို ပေးပို့နိုင်တော့မည်ဖြစ်ကြောင်း CNN က ဖော်ပြသည်။

ယူကရိန်းနယ်စပ်အနီး ရုရှားနိုင်ငံတောင်ပိုင်းသို့ ရောက်ရှိလာသည့် ရေဒါဖြင့် ဖမ်းယူနိုင်ခြင်းမရှိသော အမေရိကန်လုပ် မစ်ဆိုင်းဒုံးကျည်လေးစင်းကို ပစ်ချနိုင်ခဲ့ကြောင်း ရုရှားအစိုးရက သတင်းထုတ်ပြန်ခဲ့သည်။

ရုရှား-ယူကရိန်းစစ်ပွဲ စတင်ချိန်ကတည်းက ယူကရိန်းသမ္မတဇဲလန်စကီး၏ ပထမဆုံးနိုင်ငံခြားခရီးစဉ်အဖြစ် အမေရိကန်ပြည်ထောင်စုကို သွားရောက်မည်ဖြစ်ရာ အမေရိကန်သမ္မတဂျိုးဘိုင်ဒန်ကလည်း အိမ်ဖြူတော်တွင် လက်ခံကြိုဆိုရန် စီစဉ်နေကြောင်းသိရသည်။

ယူကရိန်းသမ္မတဇဲလန်စကီးက ၎င်း၏ပထမဆုံးနိုင်ငံရပ်ခြားခရီးစဉ်တွင် စစ်ပွဲစတင်ကတည်းက အမေရိကန်၏ထောက်ခံမှုအတွက် ကျေးဇူးတင်ကြောင်းပြောကြားခဲ့သည်။ ဇဲလန်စကီးက ရုရှား၏တိုက်ခိုက်မှုများကို တန်ပြန်ရန်အတွက် လေကြောင်းရန်ကာကွယ်ရေးစနစ်များသည်အရေးကြီးကြောင်း ထပ်လောင်းပြောကြားခဲ့သည်။

ယူကရိန်းသမ္မတဇဲလန်စကီးသည် ၎င်း၏ပထမဆုံးပြည်ပခရီးစဉ်အပြီးတွင် အမေရိကန်ပြည်ထောင်စုမှ ထွက်ခွာခဲ့သည်။ Kyiv သို့သွားရာလမ်းတွင် ပိုလန်သမ္မတနှင့်တွေ့ဆုံခဲ့သော ဇဲလန်စကီးသည် "ရလဒ်ကောင်းများ"ဖြင့် အိမ်သို့ပြန်လာကြောင်း ဗီဒီယိုမက်ဆေ့ချ်တွင် ပြောကြားခဲ့သည်။

အမေရိကန်သည် Patriot ဒုံးပျံကာကွယ်ရေးစနစ်များအတွက် ယူကရိန်းတပ်ဖွဲ့များကို လေ့ကျင့်သင်ကြားပေးတော့မည်ဖြစ်ကြောင်း အရာရှိတစ်ဦးက ပြောကြားခဲ့သည်။ အဆိုပါ

စနစ်များကို ဒေါ်လာ ၁ ဒသမ ၈ ဘီလီယံအကူအညီပေးရေး အစီအစဉ်အသစ်တွင် ထည့်သွင်းထားသည်။

ဗလာဒီမာပူတင်သည် ဥရောပသမဂ္ဂ၏ ဈေးနှုန်းကန့်သတ်ထားသော နိုင်ငံများသို့ ရေနံနှင့်ရေနံထွက်ကုန်များတင်ပို့ခြင်းကို တားမြစ်သည့်အမိန့်ကို ထုတ်ပြန်ရန် ပြင်ဆင်နေပြီး ရုရှားအတွက် ရေနံထုတ်လုပ်မှုကို ငါးရာခိုင်နှုန်းမှ ခုနစ်ရာခိုင်နှုန်း လျှော့ချရန်လိုအပ်ကြောင်း ရုရှားဒုတိယဝန်ကြီးချုပ်က ပြောကြားခဲ့သည်။

ရုရှားသမ္မတကရုရှားသည်စစ်ပွဲအဆုံးသတ်ရေးအတွက်ကြိုးပမ်းမည်ဖြစ်ကြောင်းနှင့် ယင်းတွင် သံတမန်လမ်းကြောင်းပေါ်ရှိ စေ့စပ်ညှိနှိုင်းမှုမျိုး မလွဲမသွေပါဝင်မည်ဖြစ်ကြောင်း ပြောကြားခဲ့သည်။

ရုရှားပိုင်နက်အတွင်းပိုင်းရှိ လေတပ်စခန်းတစ်ခုအနီးတွင် ယူကရိန်းဒရုန်းတစ်စီး ပျက်ကျပြီးနောက် ရုရှားစစ်သည်သုံးဦး သေဆုံးခဲ့သည်ဟု ရုရှားကာကွယ်ရေး ဝန်ကြီးဌာနက ပြောကြားခဲ့ကြောင်းရုရှား နိုင်ငံပိုင်သတင်းများတွင် ဖော်ပြထားသည်။

ရုရှားနိုင်ငံခြားရေးဝန်ကြီး Sergey Lavrov က ယူကရိန်း သိမ်းပိုက်ထားသော ဒေသလေးခုနှင့်ပတ်သက်ပြီး ရုရှား၏အဆိုပြုချက်များကို လက်ခံရမည်ဟု သတိပေးခဲ့ကြောင်း နိုင်ငံပိုင်မီဒီယာတွင် ဖော်ပြထားသည်။

ရုရှားမျိုးနွယ်များသည် Luhansk ဒေသရှိ အဓိကကျသည့် Krerminna မြို့မှ အခြားဒေသသို့ ပြောင်းရွှေ့သွားကြကြောင်း၊ အဆိုပါမြို့ကို ဆုံးရှုံးလိုက်ရခြင်းသည် ရုရှားတို့ အား ဒေသအချို့ရှိ ၎င်းတို့၏တပ်ဖွဲ့များကို ထောက်ပို့ပေးရန် အကန့်အသတ်ဖြစ်စေမည်ဖြစ်ကြောင်း ယူကရိန်းအစိုးရပြောခွင့်ရသူက ပြောကြားခဲ့သည်။

ဖေဖော်ဝါရီလ ရုရှား–ယူကရိန်းစစ်ပွဲ စတင်ချိန်ကတည်းက ယူကရိန်းနိုင်ငံတစ်ဝန်း မြို့ကြီးများနှင့် ကျေးရွာများတွင် ပေါက်ကွဲမှုများဖြစ်ပေါ်ခဲ့ရာ ယင်းမှာရုရှားတပ်ဖွဲ့များ၏ အကြီးမားဆုံးသော မစ်ဆိုင်းဒုံးကျည်တိုက်ခိုက်မှုများထဲမှ တစ်ခုဖြစ်ကြောင်း ယူကရိန်း အစိုးရက ထုတ်ဖော်ပြောဆိုခဲ့သည်။

ဒီဇင်ဘာ ၃၀ ရက်နေ့က ပြုလုပ်သည့် virtual အစည်းအဝေးတွင် ရုရှားသမ္မတ ဗလာဒီမာပူတင်က တရုတ်သမ္မတ ရှီကျင့်ဖျင်အား ရုရှား၏ယူကရိန်းစစ်ပွဲသည် အနောက်နိုင်ငံများမှ မကြုံစဖူး ဖိအားပေးမှုများနှင့် ရင်ဆိုင်ရချိန်တွင် ၎င်းတို့၏ မိတ်ဖက်ဆက်ဆံရေးသည် ယခင်ကထက် ပိုမိုအရေးကြီးကြောင်းက ပြောကြားသည်။

Kyiv မြို့ခံအများအပြားသည် နှစ်သစ်ကူးပွဲတော်အား တည်ငြိမ်စွာဖြင့် ကျင်းပခဲ့ကြပြီး ၂၀၂၃ ခုနှစ်တွင် ငြိမ်းချမ်းရေးရရှိမည်ဟု မျှော်လင့်ကြောင်း ထုတ်ဖော်ပြောဆိုခဲ့သည်။

## ၂၀၂၃ ခုနှစ်၊ ဇန်နဝါရီလ

ရုရှားသည် လာမည့်ရက်သတ္တပတ်အနည်းငယ်အတွင်း တိုက်ခိုက်မှုကို အရှိန်မြှင့်ရန် ပြင်ဆင်နေပြီဖြစ်ကြောင်း ယူကရိန်းအမျိုးသားလုံခြုံရေး ထိပ်တန်းအရာရှိတစ်ဦးက ပြောကြားခဲ့သည်။ ဇဲလန်စကီးသည် ဥရောပကော်မရှင်ဥက္ကဋ္ဌ Ursula von der Leyen နှင့် အဆင့်မြင့် အစည်းအဝေး၏ အသေးစိတ်အချက်အလက်များကို ယင်းနှစ်တစ်နှစ်၏ ပထမဆုံးဖုန်းခေါ်ဆိုမှုတွင် ဆွေးနွေးခဲ့သည်။

ယူကရိန်းတပ်သည် ဒီဇင်ဘာလနောက်ဆုံးပတ်က kherson ဒေသရှိ Chulakivka မြို့အနီးတွင် ရုရှားတပ်ဖွဲ့ဝင်များနှင့်ပြင်းထန်သော တိုက်ခိုက်မှုတစ်ခုဖြစ်ပွားခဲ့ကြောင်း ယူကရိန်း စစ်တပ်က ပြောကြားခဲ့သည်။ ယူကရိန်းသို့ Bradley ကျည်ကာတိုက်ယာဉ်များ စေလွှတ်ရန် အမေရိကန်က စဉ်းစားနေကြောင်း သမ္မတဂျိုးဘိုင်ဒန်က ပြောကြားခဲ့သည်။ အမေရိကန်သမ္မတဂျိုးဘိုင်ဒန်က ပူတင်၏ ရည်ရွယ်ချက်နှင့်ပတ်သက်၍ သံသယရှိကြောင်း ပြောကြားခဲ့သည်။

ရုရှားသည် ဇန်နဝါရီလ ၆ ရက်နှင့် ၇ ရက်တို့တွင် ယူကရိန်းတွင် ယာယီအပစ်အခတ် ရပ်စဲကြောင်း ကြေညာခဲ့သည်ဟု ကရင်မလင်နန်းတော်၏အဆိုအရ သိရသည်။ ရုရှားသမ္မတ ဗလာဒီမာပူတင်၏ ဩသဒ္ဒေါခရစ်စမတ်တွင် ယာယီအပစ်အခတ်ရပ်စဲရေး တောင်းဆိုမှုကို ယူကရိန်းကပယ်ချပြီးနောက် တိုက်ပွဲများ ဆက်လက်ဖြစ်ပွားနေပါသည်။

ကီယက်ဗ်နှင့် မော်စကိုသည် အကျဉ်းသားအလဲအလှယ်ပြုလုပ်ပြီး ၎င်းတို့၏ မိခင်နိုင်ငံသို့ ပြန်လာသူ စုစုပေါင်းတပ်သား ၁၀၀ ဖြင့် အကျဉ်းသားလဲလှယ်မှုကို ပြုလုပ်ခဲ့ကြောင်း နှစ်နိုင်ငံတာဝန်ရှိသူများက ပြောကြားခဲ့သည်။ ယူကရိန်းအရှေ့ပိုင်း Donetsk ဒေသရှိ Bakhmut အနီးရှိ Soledar မြို့ငယ်လေးကို ရုရှားတပ်များ ထပ်မံချီတက်ရန် ကြိုးပမ်းနေကြောင်း တာဝန်ရှိသူများက ပြောကြားခဲ့သည်။

အမေရိကန်မြေပေါ်ရှိ Patriot ဒုံးကျည်စနစ်တွင် ယူကရိန်းစစ်သားများကို လာမည့် သီတင်းပတ်အတွင်း လေ့ကျင့်သင်ကြားပေးမည်ဖြစ်ကြောင်း ပင်တဂွန်စစ်ဌာနချုပ်က အတည်ပြုပြောကြားခဲ့သည်။

ပိုလန်သည် ယူကရိန်းသို့ Leopard တိုက်ပွဲဝင်တင့်ကားများ စေလွှတ်မည်ဟု ကြေညာခဲ့သည်။ ရုရှားနှင့် စစ်ဖြစ်ပွားမှုနောက်ပိုင်းတွင် အနောက်နိုင်ငံလုပ် တင့်ကားတစ်စီးကို ယူကရိန်းနိုင်ငံတွင်းသို့ ပထမဆုံးအကြိမ် စေလွှတ်ခဲ့ခြင်းဖြစ်သည်။

ရုရှားနိုင်ငံတွင် တစ်နှစ်နီးပါးထိန်းသိမ်းခံထားရသော အမေရိကန်ရေတပ်မှ စစ်မှုထမ်းဟောင်းတစ်ဦးအား ရုရှားအချုပ်ခန်းမှ ပြန်လွှတ်ပေးခဲ့ကြောင်း မိသားစုပြောရေးဆိုခွင့်ရှိသူတစ်ဦးက ပြောကြားခဲ့သည်။

ရုရှားကာကွယ်ရေးဝန်ကြီးဌာနသည် စစ်ဆင်ရေးတွင် ရုရှားစစ်ဘက်တပ်ဖွဲ့ဝင်များ

ပါဝင်ခဲ့သည်ဟု ဆိုလာသည့်အပေါ် "တိုက်ရိုက်ချေမှုန်းခြင်း"ကို ဦးဆောင်ခဲ့သည့် Mercenary Group Wagner အား ချီးကျူးဂုဏ်ပြုခဲ့သည်။

ရုရှားနိုင်ငံက အရှေ့ပိုင်းမြို့ကို ထိန်းချုပ်ထားကြောင်း သောကြာနေ့က ကြေညာပြီး နောက် ဆိုလီဒါတွင် တိုက်ပွဲများပြင်းထန်စွာ ဆက်လက်ဖြစ်ပွားနေသည်ဟု ယူကရိန်း အာဏာပိုင်များက ပြောကြားခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးက Soledar အရှေ့ပိုင်းမြို့တွင် တိုက်ပွဲများပြင်းထန်ပြီး ဆက်လက်ဖြစ်ပွားနေကြောင်းနှင့် ယခုအခါ ရုရှားက ၎င်းပိုင်နက်ကို ထိန်းချုပ်ထားသည် ဟု အခိုင်အမာ ပြောဆိုခဲ့သည်။

သီတင်းပတ်ကုန်တွင် တိုက်ပွဲများကြောင့် ဒေသအများအပြားအတွက် အရေးပေါ် ဓာတ်အားဖြတ်တောက်ခဲ့ကြောင်း ယူကရိန်းစွမ်းအင်ဝန်ကြီးက ပြောကြားခဲ့သည်။

IAEAအဖွဲ့သည် RivneNuclearဓာတ်အားပေးစက်ရုံသို့သွားရောက်လည်ပတ်ခဲ့သည်။ ယူကရိန်းစစ်သားများကို Patriot Missile စနစ်ဖြင့် အမေရိကန်တွင်လေ့ကျင့်သင်ကြား ထားကြောင်း အမေရိကန်စစ်တပ်က ပြောကြားခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးသည် ယူကရိန်းနိုင်ငံအား နေတိုးအဖွဲ့တွင် ပူးပေါင်း ပါဝင်ရန် ၎င်း၏ဆန္ဒကို ထပ်လောင်းပြောကြားခဲ့ပြီး မဟာမိတ်အဖွဲ့သည် မိမိတို့အတွက် အကောင်းဆုံး လုံခြုံရေးအာမခံချက်ဖြစ်ကြောင်း ကမ္ဘာ့စီးပွားရေးဖိုရမ်တွင် စုစည်းထား သော ခေါင်းဆောင်များအား ပြောကြားခဲ့သည်။

အမေရိကန်ကာကွယ်ရေးဝန်ကြီး Lloyd Austin သည် ဂျာမနီနိုင်ငံ ဘာလင်တွင် ၎င်း၏ Leopard တင့်ကားများကို ယူကရိန်းသို့ ပို့ဆောင်ခွင့်ပြုရန် ဖိအားများ များပြား လာသောကြောင့် ဂျာမနီနိုင်ငံ ဘာလင်တွင် ၎င်း၏ကာကွယ်ရေးဝန်ကြီးနှင့် တွေ့ဆုံခဲ့သည်။

ဂျာမနီသည် ၎င်း၏စစ်ရေးအကူအညီနှင့် ကိယက်ဗ်မှ လက်နက်များပိုမိုရရှိရန် ဖိအား များ များပြားလာသော်လည်း ယူကရိန်းသို့ Leopard-2 တင့်ကားများ စေလွှတ်ရေးနှင့် ပတ်သက်၍ ၎င်း၏ အဓိကမဟာမိတ်များနှင့် သဘောတူညီမှု မရရှိခဲ့ပေ။

ဂျာမနီသည် ၎င်း၏ Leopard-2 တင့်ကားများကို ယူကရိန်းသို့ ပေးပို့ရန် အနောက် မဟာမိတ်များနှင့် သဘောတူညီမှု မရရှိခဲ့သဖြင့် ယူကရိန်းအရာရှိအချို့၏ စိတ်ပျက်မှုနှင့် စိုးရိမ်မှုတို့ကို ဖြစ်ပေါ်စေခဲ့သည်။ အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်က ယူကရိန်းနိုင်ငံအတွက် လိုအပ်သည့် အကူအညီအားလုံးကို ရယူသွားမည်ဟု ကတိပြုခဲ့သည်။

ရုရှားတပ်များသည် Zaporizhzhia တောင်ဘက်ခြမ်းတွင် ထိုးစစ်ဆင်ရန် ကြိုးပမ်း နေသော်လည်း အရှေ့ပိုင်းနယ်မြေများတွင်လည်း တိုက်ပွဲများ ဆက်လက်ဖြစ်ပွားနေသည် ဟု ယူကရိန်းက ပြောသည်။

အနောက်အုပ်စုမဟာမိတ်များသည် ၎င်း၏ခေတ်မီ Leopard-2 တိုက်ပွဲဝင် တင့်ကားများကို ယူကရိန်းသို့ ပို့ဆောင်ခွင့်ပြုရန် ဘာလင်အား ဆက်လက်ဖိအား ပေးလျက်ရှိသည်။

ယူကရိန်းသို့ အမေရိကန်လုပ် Abrams တင့်ကား အစီးရေ ၃၀ ခန့် စေလွှတ်ရန် အစီအစဉ်ကို အမေရိကန်က အပြီးသတ်လုပ်ဆောင်နေကြောင်း ဆွေးနွေးမှုများနှင့် နီးစပ်သည့် အရာရှိနှစ်ဦးမှ ပြောကြားခဲ့သည်။

အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်က ဘာလင်အပေါ် သံတမန်ဖိအားပေးမှုများ သီတင်းပတ်များစွာ ကြုံတွေ့ပြီးနောက် Leopard-2 တင့်ကား ၁၄ စီး ပေးပို့မည်ဟု ဂျာမနီက အတည်ပြုပြီး ယူကရိန်းသို့ Abrams တင့်ကား ၃၁ စီး စေလွှတ်ရန် အစီအစဉ်ရှိကြောင်း ကြေညာခဲ့သည်။

ဂျာမနီနှင့် အမေရိကန်တို့က နိုင်ငံအတွက် ခေတ်မီတင့်ကားများ ပံ့ပိုးပေးမည့် အစီအစဉ်ကို ကြေညာပြီးနောက် နာရီပိုင်းအကြာတွင် ရုရှားနိုင်ငံက ကီယက်ဗ်နှင့် အခြားသော ယူကရိန်းမြို့များသို့ ဒုံးကျည်အသစ်များ လွှတ်တင်ခဲ့သည်။

အိမ်ဖြူတော်အမျိုးသားလုံခြုံရေး ပြောရေးဆိုခွင့်ရှိသူက အမေရိကန်မှ ကြေညာထားသော Abrams တင့်ကားများ ယူကရိန်းမြေပေါ်သို့ရောက်ရှိရန် လပေါင်းများစွာ အချိန်ယူရဦးမည်ဖြစ်ကြောင်း ပြောကြားခဲ့သည်။

ယူကရိန်းသို့ တိုက်လေယာဉ်များစေလွှတ်ခြင်းသည် မေးခွန်းထုတ်စရာ မဟုတ်ကြောင်း ဂျာမနီနိုင်ငံ ကာကွယ်ရေးဝန်ကြီးက ပြောကြားခဲ့သည်။ ယခုသီတင်းပတ် အစောပိုင်းတွင် Leopard-2 တိုက်ပွဲဝင် တင့်ကားများပေးပို့ရန် ဂျာမနီက အတည်ပြုပြီးနောက် အနောက်အုပ်စု ဂျက်တိုက်လေယာဉ်များအတွက် ယူကရိန်းအစိုးရ၏ ပန်ကြားချက်အသစ်များ ထွက်ပေါ်လာခြင်းဖြစ်သည်။

မဟာမိတ်များထံမှ ခေတ်မီစစ်ရေယာဉ် ဒါဇင်ပေါင်းများစွာအတွက် ကတိကဝတ်ပြုပြီးနောက် အနောက်နိုင်ငံဂျက်တိုက်လေယာဉ်များနှင့် တာဝေးပစ်ဒုံးကျည်စနစ်များကို ကီယက်ဗ်မှ အသစ်တစ်ဖန် ပြန်လည်တောင်းဆိုခဲ့သည်။

အနောက်နိုင်ငံမှ လေယာဉ်များနှင့် တာဝေးပစ်ဒုံးကျည်စနစ်များအတွက် ကီယက်ဗ်မှ အသစ်ပြန်လည်တောင်းဆိုမှုကြောင့် ယူကရိန်းသို့ တိုက်လေယာဉ်များ စေလွှတ်မည် မဟုတ်ကြောင်း အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်က ပြောကြားခဲ့သည်။

အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်က ကီယက်ဗ်မှ အသစ်ထပ်မံ တောင်းဆိုမှုများကြောင့် ယူကရိန်းအား တိုက်လေယာဉ်များ ထောက်ပံ့ပေးမည်မဟုတ်ကြောင်း ဝါရှင်တန်က ထပ်လောင်းပြောကြားခဲ့သည်။ ဂျာမနီကလည်း ဂျက်လေယာဉ်များ စေလွှတ်ရန် ငြင်းဆိုထားသည်။

## ၂၀၂၃ ခုနှစ်၊ ဖေဖော်ဝါရီလ

ရုရှားသည် ၎င်း၏ နျူကလီးယားစက်ရုံများကို စစ်ဆေးခြင်းမပြုရန် ဆက်လက် ငြင်းဆိုခြင်းဖြင့် အဓိကလက်နက်ထိန်းချုပ်ရေး သဘောတူညီချက်ကို ချိုးဖောက်နေကြောင်း အမေရိကန်နိုင်ငံခြားရေးဌာနက ပြောကြားခဲ့သည်။

အမေရိကန်ဒေါ်လာ ၂ ဒသမ ၂ ဘီလီယံရှိ ယူကရိန်း၏ လုံခြုံရေးအစီအစဉ်သစ်တွင် တာဝေးပစ်ဒုံးကျည်များပါဝင်မည်ဟု အမေရိကန်က မျှော်လင့်ထားကြောင်း တာဝန်ရှိသူများက ပြောကြားခဲ့သည်။

အီးယူခေါင်းဆောင်များသည် ကီယက်ဗ်တွင် ထိပ်သီးအစည်းအဝေးတစ်ခုကျင်းပပြီး ရုရှားအပေါ် အီးယူ၏ပိတ်ဆို့အရေးယူမှုအသစ်ကို ကတိပြုခဲ့ကြသည်။ယူကရိန်း၏ EU အဖွဲ့ဝင်ဖြစ်ရေးကိုလည်း ဆွေးနွေးခဲ့သည်။

ပြင်သစ်နှင့် အီတလီတို့သည် ယူကရိန်းသို့ တာဝေးပစ် လေကြောင်းရန်ကာကွယ်ရေး စနစ်ကို ယခုနှစ်နွေဦးရာသီတွင် ဆောင်ရွက်မည်ဖြစ်ကြောင်း ၎င်းနိုင်ငံများ၏ ကာကွယ်ရေး ဝန်ကြီးများက ပြောကြားခဲ့သည်။ အဆိုပါစနစ်သည် ဒရုန်းများ၊ ဒုံးကျည်များနှင့် တိုက် လေယာဉ်များကို ပစ်မှတ်ထားနိုင်သည်။ တိုက်ပွဲဖြစ်ပွားနေသော အရှေ့ဘက်မြို့ Bakhmut မှ ယူကရိန်းတပ်များ ဆုတ်ခွာသွားမည့် အရိပ်အယောင်မျိုး မတွေ့ရသေးကြောင်း mercenary group Wagner က ပြောသည်။

ယူကရိန်းတပ်ဖွဲ့များသည် ဂျာမနီ၏ Leopard တင့်ကားများဖြင့် တနင်္လာနေ့တွင် လေ့ကျင့်မှုစတင်မည်ဖြစ်ကြောင်း Reznikov က ပြောကြားခဲ့သည်။ တင့်ကားအဖွဲ့သား များသည် Challenger–2 အတွက် UK တွင် လေ့ကျင့်မှုများ ပြုလုပ်နေပြီဖြစ်သည်။ ယူကရိန်း သည် နောက်ဆုံးတွင် အမေရိကန်လုပ် F–16 တိုက်လေယာဉ်များလက်ခံရရှိမည်ဟု ယုံကြည်ကြောင်း ပြောကြားခဲ့သည်။

ဗြိတိန်ဝန်ကြီးချုပ် Rishi Sunak က ပထမဆုံး British Challenger–2 တင့်ကားများကို လာမည့်လတွင် ရောက်ရှိလာမည်ဟု ကတိပြုခဲ့ပြီး ဗြိတိန်မှယူကရိန်းလေသူရဲများအား နေတိုး၏ တိုက်လေယာဉ်များပေါ်တွင် လေ့ကျင့်သင်ကြားပေးမည်ဖြစ်ကြောင်း ကြေညာ ခဲ့သည်။

ယူကရိန်းသမ္မတဇဲလန်စကီးဘရပ်ဆဲလ်ရှိ EU ပါလီမန်တွင် မိန့်ခွန်းပြောကြားခဲ့ပြီး ကီယက်ဗ်အတွက် ခေတ်မီတင့်ကားများနှင့် တာဝေးပစ်ဒုံးကျည်များ ပိုမိုအသုံးပြုရန် တောင်းဆိုခဲ့ပြီး ဥရောပသမဂ္ဂအဖွဲ့ဝင်ဖြစ်ရန် တောင်းဆိုခဲ့သည်။

ပြင်သစ်နှင့် ဂျာမနီတို့က ကီယက်ဗ်ကို ဆက်လက်ပံ့ပိုးပေးမည်ဟု ကတိပြုခဲ့ပြီး ဗြိတိန်ဝန်ကြီးချုပ် Rishi Sunakက ယူကရိန်းလေယာဉ်မှူးများအား နေတိုး၏ အဆင့်မီ

တိုက်လေယာဉ်များပေါ်တွင် ယူကရိန်းလေယာဉ်မှူးများကို စတင်၍ လေ့ကျင့်ပေးမည်ဖြစ်ကြောင်း ပြောကြားခဲ့သည်။

သမ္မတဇဲလန်စကီးသည် ဥရောပမြို့တော်များသို့ သံတမန်ခရီးစဉ်အပြီးတွင် ကီယက်ဗ်အတွက် ခေတ်မီတင့်ကားများ၊ တာဝေးပစ်ဒုံးကျည်များနှင့် တိုက်လေယာဉ်များ ပိုမိုထားရှိရန် တောင်းဆိုခဲ့သည်။

ယူကရိန်းမြို့တော် ကီယက်ဗ်နှင့် ပတ်ဝန်းကျင်ဒေသများအပြင် Odesa နှင့် Dnipro ဒေသများသည် ဓာတ်အားဖြတ်တောက်မှုကို ရှောင်ရှားနိုင်သည်ဟု ယူကရိန်းနိုင်ငံပိုင် ဓာတ်အားပေးစက်ရုံ Ukrenergo မှ တာဝန်ရှိသူက ပြောကြားခဲ့သည်။

ဂျာမနီသည် ၎င်း၏ Leopard-2 တင့်ကားများပေါ်တွင် ယူကရိန်းစစ်သားများကို စတင်လေ့ကျင့်နေပြီဟု ပြောကြားခဲ့သည်။

နေတိုးအဖွဲ့ အတွင်းရေးမှူးချုပ် Jens Stoltenberg က ယူကရိန်းစစ်ဘက်မဟာမိတ်အဖွဲ့အား အချိန်ကာလကြာရှည်စွာ ဆက်လက်ပံ့ပိုးကူညီသွားမည်ဟု ပြောကြားခဲ့သည်။

ယူကရိန်းစစ်ပွဲအတွင်း ရုရှားနှင့် တရုတ်နိုင်ငံ၏မိတ်ဖက်ဆက်ဆံရေးနှင့် ပတ်သက်၍ အမေရိကန်ပြည်ထောင်စုသည် စိုးရိမ်ပူပန်မှုတိုးလာကြောင်း အမေရိကန်လက်ထောက်နိုင်ငံခြားရေးဝန်ကြီး Wendy Sherman က ပြောကြားခဲ့သည်။

Belarusian သမ္မတ Alexander Lukashenko က ဘီလာရုစ်နိုင်ငံကို တိုက်ခိုက်ခြင်းမခံရပါက ယူကရိန်းသို့ တပ်ဖွဲ့ဝင်များစေလွှတ်ရန် နည်းလမ်းမရှိကြောင်း ပြောကြားခဲ့သည်။

အမေရိကန်နိုင်ငံ ဒုတိယသမ္မတ Kamala Harris အပါအဝင် ကမ္ဘာ့ခေါင်းဆောင်များသည် ယူကရိန်းစစ်ပွဲ၏အဓိကအစီအစဉ်ဖြစ်သည့် မြူးနစ်လုံခြုံရေးညီလာခံ(၂၀၂၃)အတွက် ဂျာမနီတွင် တွေ့ဆုံကြသည်။

ယူကရိန်းစစ်ပွဲတွင် ရုရှားသည်လူသားမျိုးနွယ်အပေါ်ကျူးလွန်သည့် ရာဇဝတ်မှုများကို ကျူးလွန်ကြောင်း အမေရိကန်အစိုးရက တရားဝင်ကြေညာခဲ့သည်။

အီးယူ၏အဆင့်မြင့်သံတမန်အရာရှိက မဟာမိတ်များအား ကီယက်ဗ်ကို ပြန်လည်ထောက်ပံ့ရေးအမြန်လုပ်ဆောင်ရန် တိုက်တွန်းခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးနှင့် အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်တို့ တွေ့ဆုံစဉ် စစ်ရေးအကူအညီနှင့် ရုရှားနိုင်ငံအပေါ် ပိတ်ဆို့မှုအသစ်များအား ကြေညာပြီး ယူကရိန်းကို အမေရိကန်က ထောက်ခံကြောင်း ထပ်လောင်းပြောကြားခဲ့သည်။

အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်သည် ပိုလန်နိုင်ငံ၌ နေတိုး၏ အရှေ့ဘက်ခြမ်းမှခေါင်းဆောင်များနှင့် တွေ့ဆုံကာ ကီယက်ဗ်သို့ အံ့အားသင့်ဖွယ် ခရီးစဉ်တစ်ခုပါဝင်သည့် ဥရောပသို့ အလည်အပတ်ခရီးပြီးဆုံးခဲ့သည်။

အမျိုးသားလုံခြုံရေးအကြံပေး Jake Sullivan က ယူကရိန်းလိုအပ်သော အဓိက ပစ္စည်းများကိုရရှိရန် အမေရိကန်အနေဖြင့် တတ်နိုင်သမျှ ဆောင်ရွက်ပေးမည်ဟု ကတိပြု ထားသော်လည်း ကိယက်ဗ်မှ တောင်းဆိုထားသည့် F–16တိုက်လေယာဉ်များသည် လက်ရှိ လိုအပ်နေသော"သော့ချက်စွမ်းရည်" မဟုတ်ကြောင်း ပြောကြားခဲ့သည်။

ယူကရိန်းတိုက်လေယာဉ်များအတွက် ကိယက်ဗ်၏ ပန်ကြားချက်နှင့်ပတ်သက်ပြီး အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်က မေးမြန်းရာတွင် ယူကရိန်းအနေဖြင့် F–16 များ မလိုအပ် ကြောင်း ပြောကြားခဲ့သည်။

သမ္မတ ဇဲလန်စကီးက ၂၀၂၃ ခုနှစ်သည် ယူကရိန်း၏ အောင်ပွဲရနှစ် ဖြစ်လိမ့်မည်ဟု ပြောကြားခဲ့ပြီး ယူကရိန်းတည်ရှိခြင်း ရှိ၊ မရှိကို ဆုံးဖြတ်ပေးမည်ဖြစ်ကြောင်း တပ်ဖွဲ့များအား ပြောကြားခဲ့သည်။

အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်က ယူကရိန်းသို့ F–16 တိုက်လေယာဉ်များ စေလွှတ် ခြင်းအား ငြင်းဆိုထားပြီး တင့်ကားများ၊ လေကြောင်းရန် ကာကွယ်ရေးနှင့် အမြောက် စနစ်များကို အမေရိကန်က ပံ့ပိုးပေးနေသည်ဟု သမ္မတ ဂျိုးဘိုင်ဒန်က ပြောကြားခဲ့သည်။

ငြိမ်းချမ်းရေးဖော်ဆောင်သူအဖြစ် ပေကျင်းက အဆိုပြုထားသည့် အခန်းကဏ္ဍကို ယခုသီတင်းပတ်၌ ကိယက်ဗ်နှင့် ဝါရှင်တန်တို့က ပယ်ချခဲ့သည်။

အမေရိကန်ဘဏ္ဍာရေးဝန်ကြီး Janet Yellen သည် ယူကရိန်းနိုင်ငံအတွက် အမေရိကန်၏ စီးပွားရေးအထောက်အပံ့ကို ထပ်မံအတည်ပြုရန် ကိယက်ဗ်တွင် သမ္မတ ဇဲလန်စကီးနှင့် တွေ့ဆုံခဲ့သည်။ Krasnodar ဒေသရှိ ၎င်း၏ အရပ်ဘက်အခြေခံအဆောက်အအုံကို မောင်းသူမဲ့ လေယာဉ်ဖြင့်တိုက်ခိုက်ရန် ယူကရိန်းကကြိုးစားနေသည်ဟုရုရှားကပြောဆိုခဲ့သည်။

## ၂၀၂၃ ခုနှစ်၊ မတ်လ

ရုရှားမဟာမိတ် ဘီလာရုစ်သမ္မတ Alexander Lukashenko သည် တရုတ်နိုင်ငံသို့ သွားရောက်ခဲ့သည့် နိုင်ငံတော်ခရီးစဉ်အတွင်း တရုတ်၏ပံ့ပိုးကူညီမှုအတွက် ကျေးဇူးတင် ရှိကြောင်း၊ ယူကရိန်းစစ်ပွဲတွင် တရုတ်အား မပါဝင်သင့်ကြောင်း ပြောကြားခဲ့သည်။

ရုရှားဖက်ဒရေးရှင်းနိုင်ငံ အနောက်ပိုင်း၊ ယူကရိန်းနယ်စပ်အနီး Bryansk Oblast ဒေသရှိ ကျေးရွာနှစ်ရွာတွင် တိုက်ခိုက်မှုတစ်ခု ဖြစ်ပွားခဲ့ကြောင်း ရုရှားအစိုးရအာဏာပိုင် များက အတည်ပြုပြောကြားခဲ့သည်။ ယူကရိန်းအစိုးရကမူ အဆိုပါတိုက်ခိုက်မှုတွင် ၎င်းတို့ ပါဝင်ခြင်းမရှိကြောင်း ငြင်းဆိုထားပြီး ယင်းမှာ ရန်စမှုတစ်ခုသာဖြစ်ကြောင်း ပြောဆိုထား သည်။

အမေရိကန်ရှေ့နေချုပ် Merrick Garland သည် ယူကရိန်းနိုင်ငံသို့ ကြိုတင်ကြေညာ ခြင်းမရှိဘဲ သွားရောက်ခဲ့ပြီး ၎င်းတို့အပေါ်ရာဇဝတ်မှုများအတွက် ရုရှားကိုတာဝန်ယူရန် ဘိုင်ဒန်အစိုးရ၏ ကတိကဝတ်ကို ထပ်မံအတည်ပြုခဲ့သည်။ ပြင်းထန်သည့်ဖိအားများ

ရှိနေသည့်တိုင် အရှေ့ဘက်ခြမ်း Bakhmut မြို့တွင် ရှေ့တန်းနေရာများကို ထိန်းချုပ်ထားဆဲဖြစ်သည်ဟု ယူကရိန်းစစ်တပ် ပြောရေးဆိုခွင့်ရှိသူက ပြောပါသည်။

ရုရှားတပ်ဖွဲ့များသည် ယူကရိန်းနိုင်ငံ အရှေ့ပိုင်းရှိ Bakhmut မြို့ကို သိမ်းပိုက်ရန် လနှင့်ချီ၍ ကြိုးပမ်းခဲ့ရသည်။ Bakhmut သည် စစ်ရေးအရ အရေးပါသော မြို့တစ်မြို့ဖြစ်သည်။ ရုရှားနယ်စပ် Bryansk ဒေသရှိ စောင့်ကြည့်ရေးမျှော်စင်ကို မောင်းသူမဲ့လေယာဉ်ဖြင့် ဖျက်ဆီးခဲ့ကြောင်း ယူကရိန်းစစ်တပ်က ပြောကြားခဲ့သည်။

သမ္မတဇဲလန်စကီးက Bakhmut တွင် ယူကရိန်းတပ်များကို ထားရှိရန် ၎င်း၏ ဆုံးဖြတ်ချက်ကို ကာကွယ်ပြောဆိုခဲ့ပြီး အရှေ့ပိုင်းမြို့မှ ဆုတ်ခွာသွားပါက အခြားနယ်မြေများကို ရုရှားက သိမ်းပိုက်နိုင်မည်ဟု သတိပေးထားသည်။

အမေရိကန်အမျိုးသားထောက်လှမ်းရေးဌာန ဒါရိုက်တာ Avril Haines က ပဋိပက္ခသည် နှစ်ဖက်စလုံးမှ စစ်ဘက်ဆိုင်ရာ အသာစီးမရသည့် စစ်ပွဲကြီးဖြစ်လာကြောင်း ပြောကြားခဲ့သည်။ ယူကရိန်းသမ္မတ ဇဲလန်စကီးက က ရုရှားခေါင်းဆောင် သမ္မတ ဗလာဒီမာပူတင်နှင့် တွေ့ဆုံရန် စိတ်ကူးမရှိကြောင်း ပြောကြားခဲ့သည်။

ရုရှားသည် ယူကရိန်းစစ်မြေပြင်တွင် ကျန်ရှိနေသည့် အမေရိကန်နှင့် နေတိုးမှပေးထားသော လက်နက်အချို့ကို ဖမ်းမိပြီး အီရန်နိုင်ငံသို့ ပေးပို့ထားကြောင်းနှင့် မြို့တော်တီဟီရန်တွင် လက်နက်များ၏စနစ်များကိုပြုပြင်ပြောင်းလဲလိမ့်မည်ဟု အမေရိကန်က ယုံကြည်ကြောင်း အင်တာနက်သတင်းတချို့တွင် ဖော်ပြထားသည်။

ရုရှားသည် ရှေ့တန်းနယ်မြေ Bakhmut ရှိ အရှေ့ပိုင်းဒေသအများစုကို ထိန်းချုပ်ထားသော်လည်း ယူကရိန်းသည် ရုရှားတပ်များ ချီတက်လာခြင်းကို ထိရောက်စွာ ဟန့်တားထားကြောင်း ဗြိတိန်ကာကွယ်ရေးဝန်ကြီးဌာနက ပြောကြားသည်။

Bakhmut တွင် အရေးကြီးသော ထောက်ပံ့ရေးလမ်းကြောင်းများ ဆက်လက်ဖွင့်လှစ်ထားဆဲဖြစ်ကြောင်း ယူကရိန်းတပ်ဖွဲ့များက ပြောကြားခဲ့သည်။

ရုရှားနှင့် ကုလသမဂ္ဂတို့သည် ဂျီနီဗာတွင် ဆွေးနွေးမှုများ ပြုလုပ်ပြီးနောက် ယူကရိန်း၏ ကောက်ပဲသီးနှံ သဘောတူညီချက် (Ukraine grain) ကို ရက် ၆၀ သက်တမ်းတိုးရန် သဘောတူညီခဲ့ကြောင်း ရုရှားနိုင်ငံပိုင် သတင်းဌာနတစ်ခုက ဖော်ပြခဲ့သည်။

အမေရိကန်မောင်းသူမဲ့လေယာဉ်တစ်စင်းသည် ရုရှားတိုက်လေယာဉ်တစ်စင်းနှင့် ထိတွေ့ပြီး ပင်လယ်နက်ထဲသို့ ပျက်ကျခဲ့ကြောင်း အမေရိကန်လေတပ်က ပြောကြားခဲ့သည်။ ရုရှားကမူ ၎င်း၏ တိုက်လေယာဉ်များသည် အမေရိကန်၏ မောင်းသူမဲ့ဒရုန်းနှင့် ထိတွေ့မှုမရှိခဲ့ကြောင်း ငြင်းဆိုခဲ့သည်။

ပူးတွဲစစ်ဦးစီးချုပ် ဥက္ကဋ္ဌ ဗိုလ်ချုပ်ကြီး Mark Milley က ရုရှားတိုက်လေယာဉ်သည် ဒရုန်းကို ရည်ရွယ်ချက်ရှိရှိ တိုက်မိခဲ့ခြင်း ရှိ၊ မရှိကို အမေရိကန်တို့အနေဖြင့် မသိရသေးကြောင်း ပြောကြားခဲ့သည်။

ပိုလန်နိုင်ငံအနေဖြင့် လာမည့်ရက်ပိုင်းအတွင်း ၎င်း၏ MiG–29 တိုက်လေယာဉ် လေးစင်းကို ယူကရိန်းသို့ လွှဲပြောင်းပေးမည်ဖြစ်ကြောင်း ပိုလန်သမ္မတက ပြောကြားခဲ့သည်။

လေကြောင်းရန်ကာကွယ်ရေးကို မြှင့်တင်ရန်အတွက် ယူကရိန်းအစိုးရ၏ ထပ်ခါတလဲလဲ တောင်းဆိုမှုများကို နေတိုးအဖွဲ့ဝင်နစ်နိုင်ငံခွင့်ပြုလိုက်သည်။ ပိုလန်နိုင်ငံသည် လေယာဉ်လေးစင်းကို လွှဲပြောင်းမည်ဖြစ်ပြီး Slovakia မှ MiG–29 တိုက် လေယာဉ် ၁၃ စင်း ပေးပို့မည်ဖြစ်သည်။

ယူကရိန်းနှင့် ရုရှားတို့သည် သက်တမ်းကုန်ဆုံးမည့် ပင်လယ်နက်သဘောတူညီချက်ကို သက်တမ်းတိုးမြှင့်ရန် သဘောတူညီခဲ့ကြောင်း တူကီယဲအစိုးရက ပြောကြားခဲ့သည်။ အဆိုပါသဘောတူညီချက်သည် ကမ္ဘာလုံးဆိုင်ရာ ငတ်မွတ်ခေါင်းပါးမှုကို ကိုင်တွယ်ဖြေရှင်းရန်အတွက် အဓိကကျသည့် သဘောတူညီချက်တစ်ခု ဖြစ်သည်။

ရုရှားသမ္မတ ဗလာဒီမာပူတင်သည် ယူကရိန်းနိုင်ငံ Mariupol မြို့သို့ သွားရောက် လည်ပတ်ခဲ့ကြောင်း အင်တာနက်သတင်းတစ်ရပ်တွင် ဖော်ပြထားသည်။ ယူကရိန်းအခြေအနေများကို ဖြေရှင်းရန် ရုရှားက တရုတ်နိုင်ငံ၏ အဆိုပြုချက်ကို လေ့လာရန် အသင့်ရှိကြောင်း သမ္မတ ဗလာဒီမာပူတင်က ပြောကြားခဲ့သည်။

သမ္မတရှီကျင့်ဖျင်နှင့် သမ္မတ ဇဲလန်စကီးတို့အကြား ငြိမ်းချမ်းရေးအဆိုပြုချက်အား ဆွေးနွေးမှုများ ပြုလုပ်ရန် တရုတ်နိုင်ငံနှင့်ဆွေးနွေးမှုများလုပ်ဆောင်နေကြောင်း ယူကရိန်းအစိုးရအရာရှိ တစ်ဦးက  ပြောကြားခဲ့သည်။

တရုတ်သမ္မတ ရှီကျင့်ဖျင်သည် ရုရှားနိုင်ငံမှ ပြန်လည်မထွက်ခွာမီ ရုရှားသမ္မတ ဗလာဒီမာပူတင်နှင့် ဆက်ဆံရေး ပိုမိုနက်ရှိုင်းစေမည်ဟု ကတိပြုခဲ့သည်။

အပြည်ပြည်ဆိုင်ရာ အိုလံပစ်ကော်မတီ ဥက္ကဋ္ဌ Thomas Bach သည် ၂၀၂၄ ခုနှစ် Paris Games တွင် ရုရှားနှင့်ဘီလာရုစ် အားကစားသမားများပါဝင်ရန် ကော်မတီ၏ အစီအစဉ်ကို ကန့်ကွက်သောကြောင့် နိုင်ငံရေးသမားများအား "နိုင်ငံရေးနှင့်အားကစားကို ခွဲခြားထားရန်" ပန်ကြားခဲ့သည်။

တရုတ်နှင့် ရုရှားခေါင်းဆောင်များကြား ယခုသီတင်းပတ်အစောပိုင်းတွေ့ဆုံမှု အပြီးတွင် ၎င်းအနေဖြင့် စိုးရိမ်ပူပန်ခြင်းမရှိကြောင်း အမေရိကန်သမ္မတဂျိုးဘိုင်ဒန်က ပြောကြားခဲ့သည်။ ရုရှားသမ္မတ ဗလာဒီမာပူတင်၏ နျူကလီးယားအချက်ပြမှုမှန်သမျှသည် အနောက်နိုင်ငံများ အတွက် စိုးရိမ်စရာဖြစ်စေသည်။

အိမ်နီးချင်းဘီလာရုစ်တွင် နည်းဗျူဟာမြောက် နျူကလီးယားလက်နက်များထားရှိရန် စီစဉ်နေကြောင်း ရုရှားသမ္မတ ဗလာဒီမာပူတင်က ပြောကြားခဲ့သည်။ အိမ်နီးနားချင်း ဘီလာရုစ်တွင် နျူကလီးယားလက်နက်များ တပ်ဆင်ထားရှိမည့် အစီအစဉ်နှင့် ပတ်သက်၍ အနောက်နိုင်ငံများ၏ ဝေဖန်မှုကို ရုရှားအစိုးရက ပယ်ချခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးက မော်စကိုဓာတ်ရောင်ခြည် ခြိမ်းခြောက်မှုဟု စွပ်စွဲပြီး နောက် Zaporizhzhia နျူကလီးယားဓာတ်အားပေးစက်ရုံအတွက် လုံခြုံရေးအခြေအနေ ဆွေးနွေးရန် အဆင်သင့်ရှိကြောင်း ရုရှားက ပြန်လည်ပြောကြားခဲ့သည်။

ယူကရိန်းနှင့် ရုရှားဌာနခွဲတို့ကြား သဘောတူညီချက်ကို ဖျက်သိမ်းလိုက်သော်လည်း ယူကရိန်းနိုင်ငံ ကိယက်ဗ်မြို့ရှိ သမိုင်းဝင်ဘုရားကျောင်းတစ်ခုမှ ထွက်ခွာရန် ရုရှားလိုလား သော ယူကရိန်းသြသိုဒေါက်စ်မှ ဘုန်းတော်ကြီးများကို ယူကရိန်းမှ ညွှန်ကြားထားခြင်းမရှိ ကြောင်း ယဉ်ကျေးမှုဝန်ကြီးက ပြောကြားခဲ့သည်။

NATO အဖွဲ့ဝင်အဖြစ် လက်ခံရန် တူကီယဲပါလီမန်က အတည်ပြုလိုက်သောကြောင့် ဖင်လန်နိုင်ငံအနေဖြင့် နေတိုးအဖွဲ့သို့ ဝင်ရောက်ရန် ၎င်း၏နောက်ဆုံးအတားအဆီးကို ကျော်ဖြတ်နိုင်ခဲ့သည်။

**၂၀၂၃ ခုနှစ်၊ ဧပြီလ**

ရုရှားသမ္မတ ဗလာဒီမာပူတင်နှင့် တရုတ်သမ္မတ ရှီကျင့်ဖျင်တို့ကြား ဆွေးနွေးမှုမှာ မအောင်မြင်ကြောင်းနှင့် ဘီလာရုစ်တွင် ရုရှား၏ နျူကလီးယားလက်နက်များထားရှိရန် အစီအစဉ်ရှိကြောင်း ယူကရိန်းသမ္မတ ဇဲလန်စကီးက ပြောကြားခဲ့သည်။

စွဲချက်တင်ခံထားရသည့် ရုရှားသည် ကမ္ဘာ့ငြိမ်းချမ်းရေးနှင့် လုံခြုံရေးကို ထိန်းသိမ်း မည့် ကုလသမဂ္ဂလုံခြုံရေးကောင်စီ၏ ဦးဆောင်မှုနေရာကို ရယူခဲ့သည်။ ပိုလန်သည် ယူကရိန်း သို့ MiG–29 တိုက်လေယာဉ်အများအပြား ပေးပို့ခဲ့သည်။

မော်စကိုတွင် သူလျှိုလုပ်မှု စွဲချက်ဖြင့် ဖမ်းဆီးခံထားရသည့် Wall Street Journal သတင်းထောက်သည် ၎င်းအား ဖမ်းဆီးခြင်းအတွက် အယူခံဝင်ခဲ့ကြောင်း ရုရှားနိုင်ငံပိုင် သတင်းဌာနတွင် ဖော်ပြထားသည်။ အဆိုပါသတင်းထောက်ကို ချက်ချင်းလွှတ်ပေးရန် အမေရိကန်က တောင်းဆိုခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးသည် ပိုလန်နိုင်ငံသို့သွားရောက်ခဲ့ပြီး ပိုလန်နိုင်ငံခြားရေး ဝန်ကြီးနှင့်တွေ့ဆုံကာ နှစ်နိုင်ငံသဘောတူညီချက်များ လက်မှတ်ရေးထိုးခဲ့သည်။

ပေကျင်း၏ "ထိပ်တန်းဦးစားပေးသည် ယူကရိန်းစစ်ပွဲ အဆုံးသတ်ရေး တွန်းအား ပေးရန်ဖြစ်သည်" ဟု တရုတ်သမ္မတ ရှီကျင့်ဖျင်က EU ကော်မရှင်အကြီးအကဲ Ursula Vonder Leyen နှင့် ပြင်သစ်သမ္မတ Emmanuel Macron တို့နှင့်တွေ့ဆုံစဉ် ပြောကြား

ခဲ့သည်။ ပင်တဂွန်စစ်ဌာနချုပ်အနေဖြင့် လူမှုမီဒီယာများတွင် ပျံ့နှံ့နေသည့် ယူကရိန်းနှင့် ပတ်သက်သော အမေရိကန်နှင့် နေတိုးတပ်ဖွဲ့များ၏ လျှို့ဝှက်သတင်းအချက်အလက် မှတ်တမ်း အထောက်အထားများအား အစစ်အမှန်ဟုတ်၊ မဟုတ် စုံစမ်းစစ်ဆေးလျက် ရှိကြောင်း ပင်တဂွန်စစ်ဌာနချုပ် ပြောခွင့်ရပုဂ္ဂိုလ်တစ်ဦးက CNN သတင်းဌာနသို့ ပြောဆို ခဲ့သည်။

လူမှုမီဒီယာမှာ ပေါက်ကြားလာသော ယူကရိန်းနှင့် ပတ်သက်ထင်ရှားသည့် ထောက်လှမ်း ရေး စာရွက်စာတမ်းပေါက်ကြားမှုကို အမေရိကန်တရားရေးဌာနနှင့် ပင်တဂွန်စစ်ဌာနချုပ် တို့က စုံစမ်းစစ်ဆေးနေကြောင်း ထုတ်ပြန်ခဲ့သည်။

သမ္မတ ဇဲလန်စကီးက ယူကရိန်းသည် "ဤကမ္ဘာကို ကာကွယ်စောင့်ရှောက်နေသည်" ဟု ရှေ့တန်းတွင် ဆင်နွှဲနေသည့် ယူကရိန်းနိုင်ငံသားများထံ ရှင်ပြန်ထမြောက်ခြင်းနေ့ (Resurrection) သဝဏ်လွှာ ပေးပို့ခဲ့သည်။

အွန်လိုင်းတွင် ပေါက်ကြားခဲ့သည့် ပင်တဂွန်၏ လုံခြုံမှုအဆင့်အတန်းခွဲထားသော စာရွက်စာတမ်းများတွင် ယူကရိန်းလက်နက်၊ လေကြောင်းရန်ကာကွယ်ရေးနှင့် အဆင်သင့် ရှိမှုတွင် အဓိကအားနည်းချက်များကို ဖော်ပြကာ အမေရိကန်၏ ထိုးဖောက်ဝင်ရောက်မှုကို ဖော်ပြထားသည်။ ယူကရိန်းသည် ထိုပေါက်ကြားမှုကြောင့် စစ်ရေးအစီအစဉ်အချို့ကို ပြောင်းလဲခဲ့ပြီးဖြစ်ကြောင်း သမ္မတ ဇဲလန်စကီးက ပြောကြားခဲ့သည်။

ရုရှားအစိုးရ ဒူးမားလွှတ်တော်က စစ်မှုမထမ်းမနေရ ဆင့်ခေါ်နိုင်သည့် ဥပဒေပြင်ဆင်ချက် တစ်ရပ်ကို ပြဋ္ဌာန်းခဲ့သည်။ ယခင်ပြဋ္ဌာန်းထားသည့် ဥပဒေတွင်မူ ရပ်ပိုင်းဆိုင်ရာအရ သန်စွမ်းသူကိုသာ ထမ်းဆောင်စေခဲ့ခြင်းဖြစ်သည်။ စစ်မှုထမ်းရန်ဆင့်ခေါ်မှုကို ငြင်းဆို ပါက ယာဉ်မောင်းလိုင်စင်ပိတ်သိမ်းခြင်း၊ ကုမ္ပဏီတည်ထောင်ရန်အတွက် မှတ်ပုံတင်ရာ တွင် တားမြစ်ခြင်း၊ ကိုယ်ပိုင်လုပ်ငန်းတည်ထောင်ခြင်း၊ ချေးငွေရယူခြင်း၊ တိုက်ခန်းရောင်းချ ခြင်းနှင့် လူမှုဖူလုံရေးအာမခံချက်များ ဝယ်ယူခြင်းတို့အား ကန့်သတ်ခြင်းတို့ ပြုလုပ်သွား မည်ဖြစ်ကြောင်း ဖော်ပြထားသည်။

ယူကရိန်းနှင့်စပ်ဆိုင်ကာကွယ်ရေးဝန်ကြီးများက ယူကရိန်းမှာ နေတိုးတပ်များ ဝင်ရောက် တိုက်ခိုက်နေသည်ဟု စွပ်စွဲချက်များကိုငြင်းဆိုထားပြီး ပင်တဂွန်စစ်ဌာနချုပ်၏ လျှို့ဝှက် စာရွက်စာတမ်းများ ပေါက်ကြားမှုမှ ထွက်ပေါ်လာသည့် စွပ်စွဲချက်များကိုလည်း ငြင်းဆို ထားသည်။

အမေရိကန် လေတပ်တပ်ဖွဲ့ဝင်တစ်ဦးဖြစ်သည့် Jack Teixeira အား လျှို့ဝှက်စာရွက် စာတမ်းများပေါက်ကြားမှုနှင့်ပတ်သက်၍ ဖမ်းဆီးထားကြောင်း အမေရိကန်ရှေ့နေချုပ်က ပြောကြားခဲ့သည်။

လျှို့ဝှက်စာရွက်စာတမ်းများ ပေါက်ကြားမှုသံသယဖြင့် စွပ်စွဲခံထားရသော အမေရိကန်လေတပ်တပ်ဖွဲ့ဝင် Jack Teixeira အဖွဲ့ဝင်တစ်ဦးကို တရားဝင် စွဲချက်တင်ခဲ့သည်။ အဆိုပါလျှို့ဝှက်စာရွက်စာတမ်းများတွင် ယူကရိန်းနှင့် ရုရှားဆိုင်ရာ အချက်အလက်များ ပါဝင်သည်။

ရုရှားအစိုးရသည် စစ်မှုထမ်းခြင်းမှ ရှောင်တိမ်းရန် ပိုမိုခက်ခဲစေသည့် ဥပဒေတစ်ရပ်ကို ပြဋ္ဌာန်းခဲ့ရာ ယင်းမှာ ရုရှားအစိုးရအနေဖြင့် လက်ရှိပဋိပက္ခမှာ ပိုမိုရှည်ကြာလိမ့်မည်ဟု ဗြိတိန်အစိုးရ ပြောခွင့်ရပုဂ္ဂိုလ်က ပြောကြားခဲ့သည်။

တရုတ်ကာကွယ်ရေးဝန်ကြီး Li Shangfu သည် ရုရှားသမ္မတ ဗလာဒီမာပူတင်နှင့် တွေ့ဆုံခဲ့သည်။ ရုရှားတပ်ဖွဲ့ဝင်များ အသုံးပြုနေသည့် လက်နက်များတွင် တရုတ်နိုင်ငံထုတ်လက်နက်ပစ္စည်း အစိတ်အပိုင်းများ တွေ့ရမှုအရေအတွက် များပြားလာကြောင်း ယူကရိန်းတပ်ဖွဲ့ဝင်များ၏ အစီရင်ခံစာများ ထွက်ပေါ်ပြီးချိန်မှာပင် တရုတ်ကာကွယ်ရေးဝန်ကြီး၏ ရုရှားခရီးစဉ် ထွက်ပေါ်လာခဲ့ခြင်း ဖြစ်သည်။

ယူကရိန်းနိုင်ငံတွင်း ပဋိပက္ခများကို အမြန်ဆုံးအဆုံးသတ်ရန် လိုလားကြောင်း ရုရှားနိုင်ငံခြားရေးဝန်ကြီး ဆာဂေးလက်ဗရော့ဗ်က ဘရာဇီးနိုင်ငံခြားရေးဝန်ကြီးနှင့် တွေ့ဆုံပြီးနောက် ပြောကြားခဲ့သည်။

သမ္မတ ဗလာဒီမာပူတင်သည် ယူကရိန်းတောင်ပိုင်း Kherson ရှိ စစ်စခန်းမှ တပ်ဖွဲ့ဝင်များအား သွားရောက်တွေ့ဆုံခဲ့သည်။

ယူကရိန်းတပ်ဖွဲ့များအတွက် လက်နက်ခဲယမ်းများ ပြတ်တောက်သွားမှုကို ကိုင်တွယ်ဖြေရှင်း နေချိန်တွင် ဂျာမနီသည် Patriot ဒုံးကျည်ကာကွယ်ရေးစနစ်ကို ယူကရိန်းအစိုးရထံ ပေးအပ်ခဲ့သည်။

ယူကရိန်း၏ နေရာမှန်သည် နေတိုးအဖွဲ့တွင်ရှိသည်ဟု နေတိုးအတွင်းရေးမှူးချုပ် ဗိုလ်ချုပ်ကြီး Jens Stoltenberg က ကိယက်ဗ်သို့ ပထမဆုံး လာရောက်လည်ပတ်စဉ်တွင် ပြောကြားခဲ့သည်။

မဟာမိတ်အဖွဲ့များ အစည်းအဝေးတွင် ယူကရိန်းသည် စစ်ရေးမဟာမိတ်တွင် ပါဝင်မည်ဟု နေတိုး၏ အထွေထွေအတွင်းရေးမှူးချုပ်က ထပ်မံအတည်ပြုခဲ့သည်။ ယူကရိန်းသည် အဖွဲ့ဝင်နိုင်ငံ ဖြစ်သင့်သည်ဟု နေတိုးမဟာမိတ်အားလုံးက သဘောတူညီခဲ့ကြသော်လည်း မည်သည့်အချိန်တွင် ဖြစ်လာမည်ကို အတိအကျ မဖော်ပြထားပေ။

Donetsk အရှေ့ပိုင်းဒေသရှိ ရှေ့တန်းနယ်မြေအချို့တွင် ပစ်ခတ်မှုမှာ ရပ်တန့်ခြင်း မရှိသော်လည်း ရုရှားတပ်ဖွဲ့ဝင်များကို ရင်ဆိုင်ထားကြောင်း ယူကရိန်းစစ်တပ် ပြောရေးဆိုခွင့်ရှိသူတစ်ဦးက ပြောကြားခဲ့သည်။ စပိန်သည် ယူကရိန်းသို့ Leopard 2 တင့်ကားများ ပေးပို့ခဲ့သည်။

ပြင်သစ်နိုင်ငံဆိုင်ရာ တရုတ်သံအမတ်ကြီးက ဘောလ်တစ်ပြည်နယ်များသည် နိုင်ငံတကာဥပဒေတွင် ထိရောက်မှုမရှိကြောင်း ပြောဆိုပြီးနောက် ဆိုဗီယက်နိုင်ငံဟောင်းများ၏ အချုပ်အခြာအာဏာပိုင် နိုင်ငံအဆင့်အတန်းကို လေးစားကြောင်း ပေကျင်းက ပြောကြားခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် Bakhmut မြို့တွင် ထိုးစစ်ဆင်မှုများ ထပ်မံပြုလုပ်ရန် အာရုံစိုက်နေပြီး နေရာအချို့တွင်မူ ထိုးစစ်ဆင်မှုများကို လျှော့ချခဲ့သည်ဟု ယူကရိန်းစစ်တပ်က ပြောကြားခဲ့သည်။

ယူကရိန်းနှင့် ကမ္ဘာကိုပျက်ပြားစေမည့် နျူကလီးယားစွမ်းအင် အသုံးပြုနိုင်ချေမှ ရုရှားအား တားမြစ်ရမည်ဟု ဇဲလန်စကီးက Chernobyl ဘေးအန္တရာယ် (၃၇) နှစ်မြောက်နှစ်ပတ်လည်နေ့တွင် ပြောကြားခဲ့သည်။

ရုရှားသည် ယူကရိန်းတွင် ထောင်နှင့်ချီသော ဆုံးရှုံးမှုများကို ခံစားခဲ့ရသော်လည်း ၎င်းတွင် ပစ်ခတ်နိုင်သည့်စွမ်းအားများစွာကျန်ရှိနေသေးကြောင်းဥရောပရှိအမေရိကန်အကြီးတန်းတပ်မှူးတစ်ဦးက အမေရိကန်လွှတ်တော်အမတ်များကို ပြောကြားခဲ့သည်။

ရုရှားတို့ သိမ်းယူထားသည့် ယူကရိန်းနိုင်ငံနယ်မြေအချို့မှ မည်သူ့ကိုမဆို အမျိုးသားလုံခြုံရေး ခြိမ်းခြောက်မှုဟုယူဆပါက ပြန်ပို့ခွင့်ပြုမည့်အမိန့်ကို သမ္မတဗလာဒီမာပူတင်က လက်မှတ်ရေး ထိုးခဲ့ပါသည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးက တန်ပြန်ထိုးစစ် မည်သည့်အချိန်တွင် စတင်မည်ကို အသေးစိတ် ပြောကြားရန် ငြင်းဆိုခဲ့သည်။

ယူကရိန်းသည် ၎င်း၏ မျှော်မှန်းထားသော တန်ပြန်ထိုးစစ် နီးကပ်လာသည်ကို အချက်ပြနေချိန်တွင် ရုရှားသည် ၎င်း၏ ထိပ်တန်းထောက်ပံ့ပို့ဆောင်ရေး တပ်မှူးကို အစားထိုးခဲ့သည်။

## ၂၀၂၃ ခုနှစ်၊ မေလ

နယ်မြေသိမ်းပိုက်ရေးတိုက်ပွဲတွင် တပ်ဖွဲ့များ ပိတ်လှောင်ထားဆဲဖြစ်သောကြောင့် တိုက်ပွဲများ ဖြစ်ပွားနေသော အရှေ့ပိုင်း Bakhmut မြို့ကို ရုရှားတပ်ဖွဲ့က လုံးဝသိမ်းပိုက်နိုင်ခြင်း မရှိသေးကြောင်း ယူကရိန်းစစ်တပ်က ပြောကြားခဲ့သည်။

ယူကရိန်းတပ်ဖွဲ့ဝင်များသည် နယ်စပ်မြို့တစ်မြို့ကို သုံးရက်အတွင်း တတိယအကြိမ်အဖြစ် တစ်ညလုံးပစ်ခတ်ခဲ့ကြောင်း ရုရှားအရာရှိတစ်ဦးက ပြောကြားခဲ့ပြီး ရုရှားနိုင်ငံ အနောက်တောင်ဘက် Bryansk ဒေသကို တိုက်ခိုက်သည်ဟု ယူကရိန်းက စွပ်စွဲခဲ့သည်။

သမ္မတ ဇဲလန်စကီးက စစ်ပွဲအကြောင်း အကဲဖြတ်ချက်များပါရှိသော သတင်းပေါက်ကြားခဲ့သည်ကို အမေရိကန်ထောက်လှမ်းရေးများမှတစ်ဆင့် သိရှိခဲ့ကြောင်း ပြောကြားခဲ့သည်။

ကရင်မလင်နန်းတော်အား ဒရုန်းဖြင့်တိုက်ခိုက်မှုတွင် သမ္မတဗလာဒီမာပူတင်ကို လုပ်ကြံရန် ကြိုးပမ်းရာ၌ ပါဝင်ပတ်သက်သည်ဟု ရုရှား၏ စွပ်စွဲချက်ကို Kyiv မှ ငြင်းဆိုပြီး နောက် ယူကရိန်းနိုင်ငံတစ်ဝန်းတွင် လေကြောင်းစီးနင်းမှုဆိုင်ရာ ဥသြသံများ ထွက်ပေါ်လာခဲ့သည်။

ရုရှားအစိုးရ၏ လက်ထောက်နိုင်ငံခြားရေးဝန်ကြီးက အင်အားကြီးနှစ်ရပ်စလုံးသည် လက်နက်ကိုင်ပဋိပက္ခ၏ ချောက်ကမ်းပါး၌ရှိနေကြောင်း သတိပေးထားပြီး ကရင်မလင်နန်းတော်အား ဒရုန်းဖြင့် တိုက်ခိုက်မှုနောက်ကွယ်တွင် ရှိနေသည်ဟူသော ရုရှား၏ စွပ်စွဲချက်များကို အမေရိကန်က ပယ်ချခဲ့သည်။

ယူကရိန်းသည် ရုရှား၏ အသံထက်မြန်သော ဒုံးကျည်ကို ပစ်ချရန် အမေရိကန်မှ ထောက်ပံ့ပေးထားသော Patriot စနစ်အား ပထမဆုံးအကြိမ် အသုံးပြုခဲ့သည်ဟု ယူကရိန်း အစိုးရ ပြောခွင့်ရပုဂ္ဂိုလ်က ပြောကြားခဲ့သည်။

ခရိုင်းမီးယားရှိ Sevastopol ဆိပ်ကမ်းမြို့တွင် ယူကရိန်းတို့က ဒရုန်းဖြင့် သုံးကြိမ်ထက်မနည်း တိုက်ခိုက်လာမှုကို တွန်းလှန်ခဲ့ရကြောင်း ခရိုင်းမီးယားရှိ ရုရှားအာဏာပိုင်များက ပြောကြားခဲ့သည်။

ကနဦးရရှိသည့် သတင်းအချက်အလက်များအရ ၎င်း၏တပ်ဖွဲ့များသည် လိုအပ်နေသော လက်နက်များ စတင်လက်ခံရရှိနေပြီဖြစ်ကြောင်း Wagner Group အကြီးအကဲ Yevgeny Prigozhin က ပြောကြားခဲ့သည်။

ယူကရိန်းစစ်ပွဲနှင့် ဆက်စပ်နေသည့် လုံခြုံရေးစိုးရိမ်မှုများကြောင့် ရုရှားက နှစ်စဉ်ကျင်းပမြဲဖြစ်သော အောင်ပွဲနေ့အခမ်းအနားများကို ရွှေ့ဆိုင်းခဲ့သည်။

သမ္မတ ဗလာဒီမာပူတင်သည် အရန်နယ်မြေအတွင်း နိုင်ငံသားများအား စစ်ရေးလေ့ကျင့်မှု ပြုလုပ်ရန် ခွင့်ပြုမိန့်ကို လက်မှတ်ရေးထိုးခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးက ကီးယက်ဗ်တွင် အချိန်ပိုလိုအပ်နေသေးသည်ဟု ပြောကြားခဲ့သည်။ ယူကရိန်း၏ တန်ပြန်ထိုးစစ်သည် အပြည့်အဝရှိနေပြီဟု ရုရှားကြေးစားတပ်ဖွဲ့ Wagner ခေါင်းဆောင် အကြီးအကဲက ပြောကြားခဲ့သည်။

ယူကရိန်းတပ်ဖွဲ့များသည် လွန်ခဲ့သည့် သီတင်းပတ်အတွင်း Bakhmut မြို့အနီးတစ်ဝိုက်တွင် ရုရှားတပ်ဖွဲ့ကို တစ်မိုင်အကွာအဝေးအထိ ပြန်လည်တွန်းပို့ခဲ့သည်ဟု ယူကရိန်းက ပြောကြားခဲ့သည်။

ဂျာမန်အဓိပတိ Olaf Scholz နှင့် ပြုလုပ်သော သတင်းစာရှင်းလင်းပွဲတွင် ဇဲလန်စကီးက ယူကရိန်းသည် ရုရှားတပ်ဖွဲ့များအပေါ် အလွန်မျှော်လင့်ထားသော စစ်ရေးအရ တန်ပြန်ထိုးစစ်ကို အာရုံစိုက်နေကြောင်း ပြောကြားခဲ့သည်။

ယူကရိန်းသမ္မတဇဲလန်စကီးသည် ရုရှားနိုင်ငံနှင့် ပဋိပက္ခစတင်ကတည်းက ၎င်း၏နိုင်ငံသို့ ပထမဆုံးလာရောက်လည်ပတ်မှုအတွင်း ဒေါ်လာသုံးဘီလီယံတန်ဖိုးရှိသော စစ်ဘက်ဆိုင်ရာ အကူအညီအတွက် ဂျာမနီနိုင်ငံအား ကျေးဇူးတင်ကြောင်း ပြောကြားခဲ့ သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးသည် ပြီးခဲ့သောရက်အနည်းငယ်အတွင်း ၎င်းနှင့်တွေ့ဆုံခဲ့သည့် ဥရောပမဟာမိတ်များထံမှ ပေးအပ်ခဲ့သော စစ်ဘက်ဆိုင်ရာ အကူအညီအသစ်များဖြစ်သည့် ခေတ်မီတိုက်လေယာဉ်များအတွက် ဖိအားပေးနေဆဲဖြစ်ကြောင်း ပြောကြားခဲ့သည်။ ရုရှားတပ်ဖွဲ့များသည် ကြီးမားသော ထိုးစစ်ဆင်မှုများကို လုပ်ဆောင်နိုင်စွမ်း မရှိတော့ကြောင်း ယူကရိန်းတပ်ဖွဲ့က ပြောကြားခဲ့သည်။

ယူကရိန်းနိုင်ငံ လက်ထောက်ကာကွယ်ရေးဝန်ကြီးက ကီးယက်ဗ်၏ တပ်ဖွဲ့ဝင်များသည် Bakhmut ၏ မြောက်ဘက်နှင့် တောင်ဘက်ရှိ နေရာအများအပြားကို လက်လွှတ်ခဲ့ရသည်ဟု ပြောကြားခဲ့သည်။ ရုရှားတိုက်ခိုက်မှုကြောင့် ကီးယက်ဗ်မြို့ကို ထိမှန်ခဲ့ကြောင်း ယူကရိန်းအရာရှိများက ပြောကြားခဲ့သော်လည်း လေကြောင်းရန် ကာကွယ်ရေးများက ဒုံးကျည်များနှင့် ဒရုန်းအများစုကို ဖျက်ဆီးပစ်ခဲ့သည်။

ယူကရိန်းနိုင်ငံနှင့် ရုရှားနိုင်ငံတို့သည် ပင်လယ်နက်ကောက်ပဲသီးနှံ သဘောတူညီချက်ကို နှစ်လသက်တမ်းတိုးရန် သဘောတူညီမှုရရှိခဲ့ကြောင်း အတည်ပြုခဲ့သည်။ တူကီယဲနိုင်ငံနှင့် ကုလသမဂ္ဂတို့က ကြားဝင်စေ့စပ်ထားသည့် အဆိုပါစာချုပ်သည် ယူကရိန်းဆိပ်ကမ်းများမှ ကောက်ပဲသီးနှံများကို တင်ပို့ရန်ခွင့်ပြုထားသည်။

အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်သည် ယူကရိန်းနိုင်ငံအား စစ်ရေးအထောက်အပံ့ အမေရိကန်ဒေါ်လာ သုံးဘီလီယံခန့်ကို ခွင့်ပြုပေးခဲ့သည်။ ရုရှားနိုင်ငံအပေါ် ပိတ်ဆို့အရေးယူမှုအသစ်တွင် ရုရှားစိန်တုံးများကို ပစ်မှတ်ထားမည်ဟု ဗြိတိန်နိုင်ငံနှင့် ဥရောပသမဂ္ဂတို့က ပြောကြားခဲ့သည်။

F-16 အပါအဝင် အဆင့်မြင့်လေယာဉ်များပေါ်တွင် ယူကရိန်းလေယာဉ်မှူးများကို လေ့ကျင့်သင်ကြားပေးရန် စီစဉ်နေကြောင်းသိရသည်။ အဆိုပါကြိုးပမ်းမှုကို အမေရိကန်နိုင်ငံက ထောက်ခံမည်ဟု G-7 ခေါင်းဆောင်များအား အမေရိကန်သမ္မတဂျိုးဘိုင်ဒန်က ပြောကြားခဲ့သည်။

ဂျပန်နိုင်ငံ၌ကျင်းပသည့် G-7 ထိပ်သီးအစည်းအဝေးတွင် ယူကရိန်းသမ္မတ ဇဲလန်စကီးက ကမ္ဘာ့ခေါင်းဆောင်အများအပြားနှင့် တွေ့ဆုံခဲ့သည်။ လက်နက်များ၊ လေကြောင်းရန်ကာ ကွယ်ရေး၊ တိုက်လေယာဉ်များနှင့် စီးပွားရေးဆိုင်ရာ ဆောင်ရွက်မှုများအပါအဝင် မိတ်ဖက်များနှင့် "ပူးပေါင်းဆောင်ရွက်မှုအသစ်များ" အတွက် ပြင်ဆင်နေကြောင်း ၎င်းက ပြောကြားခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးသည် G-7 တွင် ကမ္ဘာ့ခေါင်းဆောင်များစွာနှင့် တွေ့ဆုံခဲ့ပြီး ၎င်း၏အစိုးရသည် F-16 ကဲ့သို့သော အဆင့်မြင့်တိုက်လေယာဉ်များအသုံးပြုနိုင်ရေး မဟာမိတ်များနှင့် ဆွေးနွေးနေကြောင်း ပြောကြားခဲ့သည်။

ရုရှားကြေးစားတပ်ဖွဲ့ Wagner နှင့် တာဝန်ရှိသူများက ၎င်းတို့သည် ယူကရိန်းအရှေ့ပိုင်း Bakhmut မြို့ကို သိမ်းပိုက်လိုက်ကြောင်း အခိုင်အမာပြောဆိုပြီးနောက် Bakhmut မြို့၏ အစိတ်အပိုင်းကို ယူကရိန်းက ဆက်လက်ထိန်းသိမ်းထားဆဲဖြစ်ကြောင်း ပြောကြားခဲ့သည်။ ယူကရိန်းနိုင်ငံ၏ Zaporizhzhia နျူကလီးယား ဓာတ်အားပေးစက်ရုံသည် ပြင်ပဓာတ်အား ထောက်ပံ့မှု ခေတ္တပြတ်တောက်ပြီးနောက်ပိုင်းတွင် အလွန်ထိခိုက်လွယ်သည့် အခြေအနေတွင် ရှိနေသည်ဟု ကုလသမဂ္ဂ နျူကလီးယား စောင့်ကြည့်ရေးအဖွဲ့က ပြောကြားခဲ့သည်။

ယူကရိန်းလေယာဉ်မှူးများသည် F-16 ဂျက်တိုက်လေယာဉ်များကို ဥရောပသမဂ္ဂ နိုင်ငံ အများအပြားတွင် လေ့ကျင့်မှုစတင်လုပ်ဆောင်နေပြီဖြစ်ကြောင်း ဥရောပသမဂ္ဂ အဖွဲ့၏ ထိပ်တန်း သံတမန်များ၏ ပြောကြားချက်အရ သိရသည်။

ယူကရိန်းတပ်ဖွဲ့သည် Belgorod အနီးတွင် နယ်စပ်ဖြတ်ကျော် ဝင်ရောက်၍ စီးနင်းဆောင်ရွက်ခဲ့သည်။ ရုရှားကာကွယ်ရေးဝန်ကြီးက အဆိုပါ Belgorod အနီးတွင် နယ်စပ်ဖြတ်ကျော် ဝင်ရောက်စီးနင်းမှုသည် အကြမ်းဖက်လုပ်ရပ်အဖြစ် ခေါ်ဆိုခဲ့ပြီး နောက်ထပ်ကြိုးပမ်းမှုများအတွက် ရုရှားနိုင်ငံက အလွန်ပြင်းထန်စွာ တုံ့ပြန်သွားမည်ဟု သတိပေးခဲ့သည်။

ရုရှားနိုကြေးစားတပ်ဖွဲ့ Wagner အကြီးအကဲ Yevgeny Prigozhin က ၎င်း၏ တိုက်ခိုက်ရေးသမားများသည် လအတန်ကြာတိုက်ပွဲတွင် သိမ်းပိုက်ပြီးနောက် ဆုတ်ခွာသွားပြီဖြစ်ကြောင်း ပြောကြားခဲ့သည်။ ရုရှားကြေးစားတပ်ဖွဲ့ Wagner သည် အရှေ့ပိုင်းမြို့ကို ရုရှားစစ်တပ်ထံ လွှဲပြောင်းပေးကာ Bakhmut မှ ဆုတ်ခွာခဲ့ခြင်း ဖြစ်သည်။

Belgorod ဒေသရှိ Graivoron မြို့ကိုလည်း ညတွင်းချင်း တိုက်ခိုက်ခဲ့ကြောင်း ဒေသဆိုင်ရာ ခေါင်းဆောင်တစ်ဦး၏ ပြောကြားချက်အရ သိရပြီး အသေအပျောက် မရှိခဲ့ကြောင်း သိရသည်။ ထိုကာလအတွင်း ရုရှားတိုက်ခိုက်ရေးဒရုန်းနှစ်စင်းက Krasnodar မြို့တော်ကို တုန်လှုပ်သွားစေခဲ့ကြောင်း အုပ်ချုပ်ရေးမှူးက ပြောကြားခဲ့သည်။

ယူကရိန်းတပ်မှူးတစ်ဦးက ရုရှားတပ်များအနေဖြင့် တန်ပြန်ထိုးစစ်ဆင်လာဖွယ်ရှိသည်ဟု ထင်ကြေးပေး ပြောကြားခဲ့သည်။

အီရန်နိုင်ငံလုပ် ဒရုန်းအများစုကို ပစ်ချခဲ့သည်ဟု ယူကရိန်းနိုင်ငံက ပြောကြားခဲ့သည်။ ယူကရိန်းထိပ်တန်းစစ်ဗိုလ်ချုပ်က ၎င်းနိုင်ငံ၏တန်ပြန်ထိုးစစ်သည် နီးကပ်လာနိုင်ကြောင်း အရိပ်အမြွက်ပြောကြားခဲ့သည်။ ကီးယက်ဗ်သည် နိုင်ငံ၏လေကြောင်းရန်ကာကွယ်ရေးကို ချီးကျူးခဲ့ပြီး နိုင်ငံအတွက် အကျိုးသက်ရောက်မှုများကို ကတိပြုခဲ့သည်။

ရုရှားနိုင်ငံနှင့် မဟာမိတ်ဖွဲ့လိုသော နိုင်ငံများအတွက် ချူကလီးယားလက်နက်များ ပေးအပ်မည်ဟု ဘီလာရုစ်နိုင်ငံသမ္မတက ပြောကြားခဲ့သည်။ ရုရှားနိုင်ငံမှ ဘီလာရုစ်နိုင်ငံသို့ ဗျူဟာမြောက် ချူကလီးယားလက်နက်အချို့ကို လွှဲပြောင်းပေးခဲ့ကြောင်း ၎င်းက ပြောကြားပြီး ရက်ပိုင်းအတွင်း ထွက်ပေါ်လာခြင်း ဖြစ်သည်။

ရုရှားသမ္မတ ဗလာဒီမာပူတင်က ယူကရိန်းသည် ခြိမ်းခြောက်မှုလမ်းကြောင်းကို ရွေးချယ်ခဲ့ကြောင်း၊ "ကီးယက်ဗ်သည် ကျွန်ုပ်တို့အား လုပ်ရပ်များကို ထင်ဟပ်စေရန် လှုံ့ဆော်ပေးသည်"ဟု ထည့်သွင်းပြောကြားခဲ့သည်။ ယူကရိန်းသမ္မတ ဇဲလန်စကီးက ယူကရိန်း၏ ကာလရှည်ကြာ မျှော်လင့်ထားသည့် တန်ပြန်ထိုးစစ်ကို အချိန်သတ်မှတ်ထားကြောင်း ပြောကြားခဲ့သော်လည်း တိကျသော အသေးစိတ်အချက်အလက်များကိုမူ ပြောကြားခြင်း မရှိကြောင်း သိရသည်။

ရုရှားနိုင်ငံ၊ ကီးယက်ဗ်မြို့သို့ လေကြောင်း တိုက်ခိုက်မှုအဖြစ် အီရန်နိုင်ငံလုပ် Shahed မောင်းသူမဲ့လေယာဉ် ၂၉ စီးကို ယူကရိန်းနိုင်ငံက ပစ်ချနိုင်ခဲ့ကြောင်း တာဝန်ရှိသူက ပြောကြားခဲ့သည်။

## ၂၀၂၃ ခုနှစ်၊ ဇွန်လ

မဟာမိတ်အဖွဲ့၏ နိုင်ငံခြားရေးဝန်ကြီးများ အော်စလိုတွင် တွေ့ဆုံစဉ် အဖွဲ့ဝင်အားလုံး သဘောတူညီပြီး "ယူကရိန်းနိုင်ငံသည် နေတိုးအဖွဲ့ဝင်ဖြစ်လာမည်"ဟု နေတိုးအဖွဲ့ အကြီးအကဲက ပြောကြားခဲ့သည်။

တောင်အာဖရိကနိုင်ငံသည် ရုရှားနိုင်ငံသို့ လက်နက်ခဲယမ်းမီးကျောက်များ ထောက်ပံ့ပေးခဲ့သည်ဟု အမေရိကန်ကစွပ်စွဲခဲ့သည်။ ထိုစွပ်စွဲမှုများအပြီးတွင် အမေရိကန်သည် တောင်အာဖရိကအရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းကို ရပ်တန့်သင့်သည်ဟု ရုရှားနိုင်ငံခြားရေးဝန်ကြီး Sergey Lavrov က ပြောကြားခဲ့သည်။

ယူကရိန်းသည် တန်ပြန်ထိုးစစ်ဆင်ရန် အသင့်ရှိကြောင်း သမ္မတ ဇဲလန်စကီးက Wall Street Journal နှင့် တွေ့ဆုံမေးမြန်းခန်းတွင် ပြောကြားခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးက တပ်ဖွဲ့ဝင် တစ်ဒါဇင်ကျော်ကို ပုဂ္ဂိုလ်ရေးအရ ကျေးဇူးတင်ကြောင်း ပြောကြားခဲ့သည်။ သမ္မတ ဇဲလန်စကီး ပြောကြားသည့် မိန့်ခွန်းတွင် ယူကရိန်းနိုင်ငံသားများအား အလားတူပြောကြားရန် တောင်းဆိုခဲ့သည်။

ယူကရိန်းနိုင်ငံ အရှေ့ဘက် Donetsk ဒေသရှိ Bakhmut မြို့ အပါအဝင် လမ်းကြောင်းများစွာတွင် ထိုးစစ်များ အောင်မြင်ခဲ့ကြောင်း အကြီးတန်းအရာရှိတစ်ဦးက ပြောကြားခဲ့သည်။ Donetsk တောင်ဘက်တွင် ကြီးမားသော တိုက်ခိုက်မှုဖြင့် ချေမှုန်းခဲ့ကြောင်း ရုရှားက ပြောကြားခဲ့သည်။

ရုရှားတပ်ဖွဲ့များသည် Nova Kakhovka ရေကာတာအား ဖျက်ဆီးခဲ့ကြောင်း ယူကရိန်း စစ်ထောက် လှမ်းရေးက ပြောကြားလိုက်သည်။ ရုရှားနိုင်ငံက ပါဝင်ပတ်သက်မှုမရှိကြောင်း ငြင်းဆိုထားပြီး ယူကရိန်းက "တမင်တကာ ဖျက်ဆီးမှု" ဖြစ်သည်ဟု ပြန်လည်စွပ်စွဲခဲ့သည်။

Nova Kakhovka ရေကာတာပြိုကျမှုကြောင့် လူထောင်ပေါင်းများစွာကို ဘေးလွတ် ရာသို့ ရွှေ့ပြောင်းခဲ့ရပြီး ဂေဟဗေဒဆိုင်ရာ ကပ်ဘေးဖြစ်မည်ကို စိုးရိမ်မှုများလည်း ဖြစ်ပေါ် စေခဲ့သည်။ ရေလွှမ်းမိုးမှုများကြောင့် ယူကရိန်းနိုင်ငံတောင်ပိုင်း Kherson ဒေသရှိ နယ်မြေ များကို ဘေးလွတ်ရာသို့ ရွှေ့ပြောင်းမှုများ ဆက်လက်လုပ်ဆောင်လျက်ရှိသည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးသည် Nova Kakhovka ဆည်ပြိုကျပြီးနောက် နေရာ အနှံ့ရေကြီးရေလျှံမှု ဖြစ်ပွားသည့် Kherson ကို သွားရောက်ကြည့်ရှုခဲ့သည်။ ယူကရိန်း သမ္မတ ဇဲလန်စကီးက Kherson ၏ သိမ်းပိုက်ခံထားရသော အစိတ်အပိုင်းရှိ အခြေအနေ အား "ကပ်ဆိုးကြီး"အဖြစ် ဖော်ပြပြီး နိုင်ငံတကာ အသိုင်းအဝိုင်းထံမှ ပံ့ပိုးကူညီရန် တောင်းဆို ခဲ့သည်။

ဒေသခံများသည် သန့်ရှင်းသောရေအတွက် လှူဒါန်းမှုများအပေါ် မှီခိုနေရပြီး ဆည်မြောင်း ပြဿနာများသည် ယူကရိန်းနိုင်ငံ၏ စိုက်ပျိုးရေးလုပ်ငန်းကို နှစ်ပေါင်းများစွာ ထိခိုက်စေ နိုင်သည်ဟု ပရဟိတလုပ်ငန်းများမှ သိရသည်။ မိုင်းများဖယ်ရှားခံရနိုင်ပြီး ယူကရိန်း ကမ်းရိုးတန်းကို ခြိမ်းခြောက်နိုင်ကြောင်း တာဝန်ရှိသူများက သတိပေးထားသည်။

ယူကရိန်းနိုင်ငံ၏ ကာလကြာရှည်စောင့်ဆိုင်းခဲ့ရသော တွန်းအားပေးမှုမှာ ရုရှားနိုင်ငံ တပ်ဖွဲ့များထံမှ မြေယာပြန်လည်ရယူရန်ဖြစ်ပြီး ယူကရိန်း၏ အရှင်းလင်းဆုံးသော အရိပ် အယောင်ကို သမ္မတ ဇဲလန်စကီးက ပြသခဲ့သည်။ သမ္မတ ဇဲလန်စကီးက နိုင်ငံအတွင်း “တန်ပြန်ထိုးစစ်များ လုပ်ဆောင်နေသည်” ဟု ပြောကြားခဲ့သည်။

ယူကရိန်းတပ်ဖွဲ့များသည် အရှေ့တောင်ဘက်တွင် အားကောင်းနေပြီး ရှေ့တန်းကျေးရွာ သုံးရွာကိုပြန်လည်သိမ်းပိုက်နိုင်ခဲ့ကြောင်းကာကွယ်ရေးအရာရှိနှင့်ယူကရိန်းစစ်တပ်တပ်ဖွဲ့ တစ်ဖွဲ့၏ ပြောကြားချက်အရ သိရသည်။ ယူကရိန်း၏ တန်ပြန်ထိုးစစ်ကို လုပ်ဆောင်နေ သေးကြောင်း သမ္မတ ဇဲလန်စကီးက ၎င်း၏ အရှင်းလင်းဆုံး အရိပ်အယောင်ကို ပေးပြီး နောက်တစ်ရက်အကြာတွင် အဆိုပါ တိုးတက်မှုများ ထွက်ပေါ်လာခြင်း ဖြစ်သည်။

ယူကရိန်းအရှေ့ဘက်နှင့် အရှေ့တောင်ဘက်ရှိ Donetsk နှင့် Zaporizhzhia ဒေသ နယ်နိမိတ် တစ်လျှောက်တွင် ရုရှားနှင့် ယူကရိန်းတပ်ဖွဲ့များသည် ပြင်းထန်သော တိုက်ပွဲ များဖြစ်ပွားခဲ့ကြောင်း သတင်းထုတ်ပြန်ခဲ့သည်။ ရုရှားနိုင်ငံ၏ အထိမ်းအမှတ် အခမ်းအနား တစ်ခုတွင် သမ္မတဗလာဒီမာပူတင်က နိုင်ငံသည် ခက်ခဲသောကာလကို တွေ့ကြုံနေရ သည်ဟု ပြောကြားခဲ့သည်။ မော်စကိုမြို့ရှိ ဒဏ်ရာရစစ်သားများအား ဆေးရုံသို့ သွားရောက် ကြည့်ရှုခဲ့ပြီး ပြန်လည်ကောင်းမွန်လာပါက စစ်မှုထမ်းရန် ဆက်လက်တိုက်တွန်းခဲ့သည်။

Nova Kakhovka ရေကာတာပြိုကျမှုသည် ကမ္ဘာ့စားနပ်ရိက္ခာဖူလုံမှုအပေါ် ကြီးမားသော သက်ရောက်မှုရှိလိမ့်မည်ဟု ကုလသမဂ္ဂက ပြောကြားခဲ့ပြီး စားနပ်ရိက္ခာဈေးနှုန်းများ မြင့်တက်လာဖွယ်ရှိကြောင်း သိရသည်။ ရေပမာဏသည် တဖြည်းဖြည်း ကျဆင်းလာသော်လည်း အချို့နေရာများတွင် ရေလွှမ်းနေဆဲဖြစ်ကြောင်း ယူကရိန်း တာဝန်ရှိသူများက ပြောကြားခဲ့သည်။

ရုရှားကြေးစားတပ်ဖွဲ့ Wagner ၏အကြီးအကဲ Yevgeny Prigozhin က ၎င်း၏တပ်ဖွဲ့များသည် ဩဂုတ်လတွင် ယူကရိန်းရှေ့တန်းသို့ ပြန်လည် ရောက်ရှိလာမည်ဖြစ်ကြောင်း ပြောကြားခဲ့သည်။

ယူကရိန်းအတွက် နေတိုး၏ ပံ့ပိုးကူညီမှုသည် စစ်မြေပြင်တွင် ခြားနားစေသည်ဟု ၎င်း၏ ကာကွယ်ရေးဝန်ကြီးများ ဘရပ်ဆဲလ်တွင် စုဝေးနေစဉ် မဟာမိတ်အဖွဲ့ အကြီးအကဲက ပြောကြားခဲ့ သည်။

အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်သည် ယူကရိန်းတွင် နေတိုးအဖွဲ့ဝင်ရန် အတားအဆီးများထဲမှ တစ်ခုကို ဖယ်ရှားရန် အဆင်ပြေကြောင်း ပြောကြားခဲ့သည်။ ဘီလာရုစ်တွင် ဗျူဟာမြောက် နျူကလီးယားလက်နက်များ ရောက်ရှိပြီဖြစ်ကြောင်း ရုရှားသမ္မတ ဗလာဒီမာပူတင် က ပြောကြားခဲ့သည်။

အာဖရိကခေါင်းဆောင်များ၏ ကိုယ်စားလှယ်အဖွဲ့သည် ယူကရိန်းနှင့် ရုရှားနိုင်ငံများသို့ သွားရောက်ကာ ငြိမ်းချမ်းရေးဆွေးနွေးပွဲများ ပြုလုပ်ရန်တောင်းဆိုခဲ့သည်။ ထိုသို့တောင်းဆိုနေသော်လည်း ရုရှားနိုင်ငံမှ နုတ်ထွက်ခြင်းမရှိဘဲ စေ့စပ်ညှိနှိုင်းရေးတောင်းဆိုမှုကို ယူကရိန်းဘက်က ငြင်းဆန်ထားသည်။

အမေရိကန်နိုင်ငံခြားရေးဝန်ကြီး အန်တိုနီဘလင်ကန်သည် သီတင်းပတ်ကုန်တွင် တရုတ်နိုင်ငံသို့ သံတမန်ခရီးစဉ်အဖြစ် သွားရောက်မည်ဖြစ်သည်။ ထိုခရီးစဉ်တွင် ယူကရိန်းအရေး ဆွေးနွေးမှုများ ပါဝင်မည်ဖြစ်သော်လည်း မျှော်လင့်ချက်နည်းပါးနေသေးသည်ဟု တာဝန်ရှိသူများက သုံးသပ်ခဲ့သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးက အရှေ့ဘက်စစ်မျက်နှာတွင် ရုရှားတို့၏ တိုက်ခိုက်မှုများကို ချေမှုန်းနိုင်ခဲ့သော ကီးယက်ဗ်တပ်ဖွဲ့များကို ချီးကျူးဂုဏ်ပြုခဲ့သည်။ တောင်ပိုင်းစစ်မျက်နှာတွင်မူ အပြင်းထန်ဆုံး တိုက်ပွဲများ ဖြစ်ပွားခဲ့သည်။

ရုရှားနိုင်ငံသည် အီရန်နိုင်ငံလုပ်ဒရုန်းများဖြင့် ကီးယက်ဗ်မြို့ကို နောက်ထပ် ကြီးမားသော လေကြောင်းတိုက်ခိုက်မှုကိုပြုလုပ်ခဲ့ကြောင်း ယူကရိန်းစစ်တပ်က ပြောကြားခဲ့သည်။

ရုရှားနိုင်ငံ မော်စကိုမြို့အပြင်ဘက်ရှိ စစ်အခြေစိုက်စခန်းတစ်ခုအနီးသို့ ယူကရိန်းနိုင်ငံ၏ မောင်းသူမဲ့ လေယာဉ် (UAV) တိုက်ခိုက်မှုကို အောင်မြင်စွာ ဟန့်တားနိုင်ခဲ့ကြောင်း

Kremlin က ထုတ်ပြန်ခဲ့သည်။ ထိုသို့ဟန့်တားနိုင်ခြင်းမှာ ရုရှားနိုင်ငံ၏ ဒရုန်းဖြင့် တန်ပြန်ဆောင်ရွက်မှုများပင် ဖြစ်သည်။

ယူကရိန်းဝန်ကြီးချုပ်က ကီးယက်ဗ်၏တိုးတက်မှုသည် အချိန်ယူရမည်ဖြစ်ပြီး စိတ်ရှည်ကြရန် တောင်းဆိုခဲ့သည်။ ရုရှားကာကွယ်ရေးဝန်ကြီးက မော်စကိုသည် ၎င်း၏တပ်ဖွဲ့များကို ယခုလကုန်တွင် အင်အားဖြည့်တင်းရန်အတွက် အရန်တပ်တစ်ခုဖွဲ့စည်းရန် လူသစ်စုဆောင်းမှု အလုံအလောက် ရှိလိမ့်မည်ဟု ပြောကြားခဲ့သည်။

မော်စကိုမြို့တစ်ဝိုက်တွင် လုံခြုံရေးတိုးမြှင့်ချထားပြီး မြို့တော်ဝန်က "အကြမ်းဖက်မှုတိုက်ဖျက်ရေး အစီအမံများ" လုပ်ဆောင်နေကြောင်းပြောကြားခဲ့သည်။ ယူကရိန်း အရှေ့တောင်ပိုင်းအနီးရှိ Rostov မြို့တွင်လည်း လုံခြုံရေးတိုးမြှင့်ထားကြောင်း နိုင်ငံပိုင်မီဒီယာ၌ ဖော်ပြခဲ့သည်။

ရုရှားမြို့နှစ်မြို့ရှိ စစ်ဘက်ဆိုင်ရာအဆောက်အအုံများကို ထိန်းချုပ်ထားသည်ဟု ကြေးစားတပ်ဖွဲ့ Wagner က အခိုင်အမာပြောဆိုခဲ့သည်။ ယင်းသို့ပြောဆိုခဲ့ပြီးနောက် ရုရှားနိုင်ငံ ဗလာဒီမာပူတင်က လက်နက်ကိုင်အုံကြွမှုနောက်ကွယ်တွင် ရှိနေသူများကို အပြစ်ပေးမည်ဟု ကတိပြု ခဲ့သည်။

ရုရှားနိုင်ငံ၏လက်ထောက်နိုင်ငံခြားရေးဝန်ကြီးသည် တရုတ်အရာရှိများနှင့်တွေ့ဆုံရန် ပေကျင်းမြို့ သို့ ထွက်ခွာသွားပြီးနောက် တရုတ်နိုင်ငံသည် ၎င်း၏ "မဟာဗျူဟာမိတ်ဖက်ရုရှားနိုင်ငံ" ကို ထောက်ခံကြောင်း ထပ်မံအတည်ပြုခဲ့သည်။

ရုရှားသမ္မတ ဗလာဒီမာပူတင်က "လက်နက်ကိုင်ပုန်ကန်မှုကို နှိမ်နင်းရမည်"ဟု ရုရှားကြေးစားတပ်ဖွဲ့ Wagner အုပ်စုမှ စတင်ခဲ့သော ပုန်ကန်မှုကို ရည်ညွှန်းပြီး ပြောကြားခဲ့သည်။ Wagner ၏ တော်လှန်ပုန်ကန်ကို စုံစမ်းစစ်ဆေးနေဆဲဖြစ်ကြောင်း ရုရှားအစိုးရ ရှေ့နေချုပ်ရုံးမှ သတင်းရင်းမြစ်တစ်ခုက ပြောကြားခဲ့သည်။

ရုရှားဖက်ဒရယ်လုံခြုံရေးဝန်ဆောင်မှု (FSB) က အခြားလှုပ်ရှားနေသော ယူနစ်များသို့ စစ်လက်နက်ကြီးများ လွှဲပြောင်းပေးအပ်မည်ဖြစ်ကြောင်း ရုရှားကာကွယ်ရေး ဝန်ကြီးဌာနမှ ပြောကြားခဲ့သည်။

Wagner ၏ တိုတောင်းသောပုန်ကန်မှုအတွင်း ရုရှားနိုင်ငံသားများ၏ ထောက်ခံမှုကို သံသယ မရှိကြောင်း သမ္မတ ဗလာဒီမာပူတင်က ပြောကြားခဲ့သည်။ တော်လှန်ပုန်ကန်မှုနှင့်ပတ်သက်၍ ရုရှားဗိုလ်ချုပ်တစ်ဦး ကြိုတင်သိရှိထားသည်ဟု ကရင်မလင်နန်းတော်က ထုတ်ပြန်ခဲ့သည်။

ရုရှားသမ္မတ ဗလာဒီမာပူတင်က သူ့၏တပ်များကို အပြည့်အဝထိန်းချုပ်နိုင်မလား ဆိုသည်ကို စောင့်ကြည့်ရဦးမည်ဟု အမေရိကန်ဒုသမ္မတဟောင်း Mike Pence က

ကီးယက်ဗ်ကို လာရောက်လည်ပတ်စဉ် ပြောကြားခဲ့သည်။ ရုရှားကြေးစားတပ်ဖွဲ့ Wagner ၏ ခဏတာ ပုန်ကန်မှုအပြီး ရုရှားနိုင်ငံအတွက် "စိုးရိမ် စရာမလိုပါဘူး" ဟု နိုင်ငံခြားရေး ဝန်ကြီး Sergey Lavrov က ပြောကြားခဲ့သည်။

## ၂၀၂၃ ခုနှစ်၊ ဇူလိုင်လ

CIA ညွှန်ကြားရေးမှူး William Burns သည် မကြာသေးမီက ယူကရိန်းသို့ သွားရောက်ခဲ့ပြီး သမ္မတဇဲလန်စကီးနှင့် တွေ့ဆုံခဲ့ကြောင်း အမေရိကန်အရာရှိတစ်ဦး၏ ပြောကြားချက်အရ သိရသည်။ စပိန်ဝန်ကြီးချုပ် Pedro Sanchez သည် ယခု သီတင်းပတ်ကုန်တွင် ကီယက်ဗ်သို့ ရောက်ရှိနေသည်။

ယူကရိန်းမြို့တော်ကို ညတွင်းချင်းတိုက်ခိုက်မှုတွင် ရုရှားတပ်ဖွဲ့များသည် မြို့တော်ကီယက်ဗ်အား အီရန်လုပ်ဒရုန်းများ အသုံးပြုတိုက်ခိုက်ခဲ့သည်ဟု သတင်းတချို့တွင် ဖော်ပြထားသည်။ ကီယက်ဗ်၏ လေကြောင်းရန် ကာကွယ်ရေးတပ်များသည် ဒရုန်းများအားလုံးကို ဖျက်ဆီးခဲ့သော်လည်း နေအိမ်အချို့ပျက်စီးခဲ့သည်ဟု သိရသည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးသည် ထုတ်ပြန်ချက်တစ်ခုတွင် စစ်မြေပြင်အခက်အခဲများကို အသိအမှတ် ပြုခဲ့သော်လည်း ယူကရိန်းတပ်ဖွဲ့များအနေဖြင့် "တိုးတက်မှုတချို့ ရရှိအောင် လုပ်ဆောင်နိုင်ခဲ့သည်" ဟု ပြောဆိုခဲ့သည်။

ရုရှားနိုင်ငံ မော်စကိုမြို့အနီးရှိ ယူကရိန်းဒရုန်းငါးစင်းကို ကြားဖြတ်တိုက်ခိုက်နိုင်ခဲ့သည်ဟု ရုရှားကာကွယ်ရေးဝန်ကြီးဌာနက ပြောကြားခဲ့သည်။ အကျဉ်းသားလဲလှယ်ရေးကိစ္စတွင် ရုရှားနဲ့ အမေရိကန်တို့သည် အဆက်အသွယ်ရှိနေဆဲဖြစ်သည်ဟု ကရင်မလင်နန်းတော်က ပြောပါသည်။ မော်စကိုအကျဉ်းထောင်တွင် ထိန်းသိမ်းခံထားရသော အမေရိကန်သတင်းထောက် Evan Gershkovich ထံသို့ အမေရိကန်သံအမတ်ကြီးက လာရောက်လည်ပတ်ပြီးနောက် မှတ်ချက်ပေးခဲ့ခြင်းဖြစ်သည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးက ရုရှားတပ်ဖွဲ့များအနေဖြင့် ၎င်း၏ခေါင်မိုးပေါ်တွင် ဖောက်ခွဲရေး ပစ္စည်းများတင်ထားသည်ဟု ပြောကြားခဲ့သည်။

ယူကရိန်းသည် လာမည့်သီတင်းပတ်တွင် ပြုလုပ်မည့် နေတိုးထိပ်သီးအစည်းအဝေးတွင် မဟာမိတ်များထံမှ အထောက်အပံ့များ ပိုမိုရရှိရန် မျှော်လင့်ထားပြီး ဆွီဒင်သည် အဖွဲ့ဝင်ဖြစ်ရန် ၎င်း၏နောက်ဆုံး အခက်အခဲများကို ရှင်းလင်းရန် ကြိုးပမ်းနေသည်။

ယူကရိန်းနိုင်ငံ သမ္မတဇဲလန်စကီးသည် လာမည့်သီတင်းပတ်တွင် ပြုလုပ်မည့် နေတိုးထိပ်သီးအစည်းအဝေးမတိုင်မီ ၎င်း၏တူရကီနိုင်ငံခြားရေးဝန်ကြီးနှင့် ပင်လယ်နက် သဘောတူညီချက်ကို ဆွေးနွေးဖွယ်ရှိသည်။ ကမ္ဘာလုံးဆိုင်ရာ စားနပ်ရိက္ခာဖူလုံမှုအတွက် အရေးပါသော အဆိုပါသဘောတူညီချက်သည် ဇူလိုင် ၁၇ ရက်တွင် သက်တမ်းကုန်ဆုံးမည် ဖြစ်သည်။

ယူကရိန်းနိုင်ငံသည် NATO အဖွဲ့ဝင်အဖြစ် ထိုက်တန်သည်ဟု တူကီယဲနိုင်ငံ သမ္မတ ရီဆက်ပ် တေယစ်အာဒိုဂန်က လစ်သူယေးနီးယားနိုင်ငံ Vilnius တွင် ကျင်းပမည့် မဟာမိတ်အဖွဲ့၏ အဓိက ထိပ်သီးအစည်းအဝေးမတိုင်မီ ယူကရိန်းနိုင်ငံ သမ္မတဇဲလန်စကီးနှင့် တွေ့ဆုံဆွေးနွေးပြီးနောက် ပြောကြားခဲ့သည်။

အရေးပါသော နေတိုးထိပ်သီးအစည်းအဝေးသည် ယူကရိန်းကို အမေရိကန်က ထောက်ခံရန် စုဝေးနေခြင်းဖြစ်သော်လည်း ကီးယက်ဗ်သည် စစ်ရေးမဟာမိတ်အဖွဲ့တွင် ပါဝင်ရန် အဆင်သင့် မဖြစ်သေးကြောင်း အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်က ပြောကြားခဲ့သည်။ ယူကရိန်းနိုင်ငံသည် ပိုလန်နိုင်ငံနှင့် တူကီယဲနိုင်ငံ သမ္မတများ အပါအဝင် ထိပ်သီးအစည်းအဝေးများမတိုင်မီ ထိပ်သီး အစည်းအဝေးများ ကျင်းပခဲ့သည်။

အမေရိကန်သမ္မတ ဂျိုးဘိုင်ဒန်သည် လစ်သူယေးနီးယားနိုင်ငံ Vilnius ၌ အရေးကြီးသော နေတိုးထိပ်သီးအစည်းအဝေးအကြိုအဖြစ် ဗြိတိန်ဝန်ကြီးချုပ် Rishi Sunak နှင့် တွေ့ဆုံရန်စီစဉ်ထားသည်။NATOကကီးယက်ဗ်၏ကာကွယ်ရေးမဟာမိတ်အဖွဲ့ဝင်အဖြစ် မစဉ်းစားမီ ယူကရိန်း စစ်ပွဲ အဆုံးသတ်ရမည်ဟု ပြောကြားခဲ့သည်။

လစ်သူယေးနီးယား၌ကျင်းပပြုလုပ်သည့်ထိပ်သီးအစည်းအဝေးတွင်နေတိုးခေါင်းဆောင်များ တွေ့ဆုံစဉ် မဟာမိတ်အဖွဲ့သို့ ယူကရိန်း၏ အဖွဲ့ဝင်ဖြစ်မှုလမ်းကြောင်းတွင် စည်းလုံးညီညွတ်ပြီး အပြုသဘောဆောင်သည့် အချက်ပြမှုတစ်ခုပေးမည်ဟု အိမ်ဖြူတော်က ပြောကြားသော်လည်း တိကျသော အချိန်ကိုသတ်မှတ်ပေးရန် ငြင်းဆိုခဲ့သည်။ အဆိုပါ ထိပ်သီးအစည်းအဝေးမတိုင်မီတွင် တူရကီသည် ဆွီဒင်နိုင်ငံအား နေတိုးအဖွဲ့သို့ဝင်ရောက်ရန် ကြိုးပမ်းမှုကို တစ်နှစ်ကျော်ကြာ ပိတ်ဆို့ ထားပြီးနောက် သဘောတူညီခဲ့သည်။

ရုရှားသမ္မတ ဗလာဒီမာပူတင်က ပဋိပက္ခမှာ မဟာမိတ်ကို ကွဲစေမည်ဟု လောင်းကြေးထပ်နေသော်လည်း နေတိုးအဖွဲ့သည် စည်းလုံးညီညွတ်စွာ ဆက်ရှိနေမည်ဟု အမေရိကန်သမ္မတဂျိုးဘိုင်ဒန်က ပြောကြားခဲ့သည်။

ရုရှားကြေးစားအဖွဲ့ Wagner Group မှ လွန်ခဲ့သည့်လက ပုန်ကန်ပြီးကတည်းက မတွေ့ခဲ့ရသည့် နောက်ထပ်ဗိုလ်ချုပ်တစ်ဦးသည် ရုရှားနိုင်ငံရေးသမားတစ်ဦး၏ ပြောကြားချက်အရ "လောလောဆယ် အနားယူနေပါတယ်" ဟု ပြောကြားခဲ့သည်။

ယူကရိန်အား ပွဲထိန်းဒုံးကျည်များ ပေးအပ်နိုင်ရေး အမေရိကန်က ဆုံးဖြတ်ချက်ချရန် နီးစပ်နေပြီဖြစ်ကြောင်း ယူကရိန်းသမ္မတ ဇဲလန်းစကီး၏ လက်ထောက်တစ်ဦးက ပြောကြားခဲ့သည်။ အနောက်မဟာမိတ်များသည် ယူကရိန်အား စိတ်ရှည်သည်းခံပြီး အကူအညီများပေးရန် ဆန္ဒရှိကြောင်း သမ္မတဇဲလန်းစကီး၏ လက်ထောက်တစ်ဦးက အခိုင်အမာ ပြောကြားခဲ့သည်။

ယူကရိန်းက ကောက်ပွဲသီးနှံများကို ဘေးကင်းစွာ တင်ပို့နိုင်စေမည့် အရေးကြီးသော သဘောတူညီချက်သည် ရုရှားက သက်တမ်းတိုးရန် သဘောတူခြင်းမရှိပါက သက်တမ်းကုန်ဆုံးတော့မည် ဖြစ်သည်။

ယူကရိန်းနိုင်ငံမှ ကမ္ဘာ့ဈေးကွက်သို့ ကောက်ပဲသီးနှံတင်ပို့မှုကို ဘေးကင်းစွာ ဖြတ်သန်းခွင့်ပြုသည့် ကုလသမဂ္ဂ၏ ကြားဝင်စေ့စပ်ပေးထားသည့် သဘောတူညီချက်မှ ရုရှားနိုင်ငံက နုတ်ထွက်ခဲ့သည်။ အမေရိကန်နှင့် ၎င်း၏မဟာမိတ်နိုင်ငံများက အဆိုပါဆုံးဖြတ်ချက်ကို ပြင်းပြင်းထန်ထန် ရှုတ်ချခဲ့ပြီး အဆိုပါလှုပ်ရှားမှုသည် စားနပ်ရိက္ခာမလုံခြုံမှုကို ပိုမိုဆိုးရွားစေပြီး ဈေးနှုန်းများ မြင့်တက်လာနိုင်ကြောင်း သတိပေးခဲ့သည်။

အမေရိကန် ကာကွယ်ရေးဝန်ကြီး Lloyd Austin က ယူကရိန်းနိုင်ငံ ကာကွယ်ရေးအဖွဲ့နှင့် ဆက်သွယ်တွေ့ဆုံခဲ့စဉ် ကီးယက်ဗ်တွင် "ခဲယမ်းမီးကျောက်များ အရေးတကြီးလိုအပ်နေကြောင်း" ဆွေးနွေးခဲ့သည်။ အချိန်ကြာမြင့်နေသည့် တန်ပြန်ထိုးစစ်အတွက် လိုအပ်မည့် ခဲယမ်းမီးကျောက်များအား ယူကရိန်းနိုင်ငံသို့ ထောက်ပံ့ပေးရန် မဟာမိတ်များက ရုန်းကန် နေရကြောင်း တာဝန်ရှိသူများက ပြောကြားခဲ့သည်။

အမေရိကန်သည် ယူကရိန်းနိုင်ငံအား လေကြောင်းရန်ကာကွယ်ရေးစနစ်များနှင့် တိုက်ခိုက်ရေးဒရုန်းများကို ဒေါ်လာ ၁ ဒသမ ၃ ဘီလီယံအထိ အကူအညီပေးအပ်ရန် စီစဉ်ထားကြောင်း ကတိပြု၍ ကြေညာခဲ့သည်။

ရုရှားနိုင်ငံသည် ပင်လယ်နက်ရှိ အရပ်ဘက်သင်္ဘောများကို ပစ်မှတ်ထားပြီး ယူကရိန်းကို တိုက်ခိုက်ရန် ရည်ရွယ်ချက်မရှိကြောင်း ရုရှားနိုင်ငံဆိုင်ရာ အမေရိကန်သံအမတ်ကြီး Anatoly Antonov က ပြောကြားခဲ့သည်။ စီအိုင်အေညွှန်ကြားရေးမှူး Bill Burns က Wagner သူဌေး Yevgeny Prigozhin သည် Belarus တွင် ရှိနေသည်ဟု ယုံကြည်ကြောင်းနှင့် ယခင်လက ပုန်ကန်မှုအပြီး ရုရှားသမ္မတ ဗလာဒီမာပူတင်ထံမှ တစ်ချိန်ချိန်တွင် လက်စားချေခံရမည်ဟု ခန့်မှန်းထားကြောင်း ပြောကြားခဲ့သည်။

ခရိုင်းမီးယားနှင့် ရုရှားနိုင်ငံကို ဆက်သွယ်ထားသည့် တံတားအား ပျက်ပြယ်စေမည့် နည်းလမ်းကို ယူကရိန်းတပ်ဖွဲ့တွေက ရှာဖွေရမည်ဟု ယူကရိန်းသမ္မတဇဲလန်စကီးက ပြောကြားခဲ့ပါသည်။

ရုရှားသည် ယူကရိန်းတောင်ပိုင်းတွင် ခုခံကာကွယ်မှုများကို လုပ်ဆောင်နေသော်လည်း ကီယက်ဗ် တပ်ဖွဲ့များသည် Luhansk ဒေသရှိ အရှေ့မျက်နှာစာတစ်လျှောက်လုံးတွင် ပြင်းထန်သောတိုက်ခိုက်မှုများနှင့် ရင်ဆိုင်နေရသည်ဟု ဆိုသည်။

ကီးယက်ဗ်သည် လက်တုံ့ပြန်မည်ဟု ကတိပြုထားသော်လည်း ၎င်းစစ်တပ်၏ လေကြောင်းရန် ကာကွယ်ရေးစနစ်များသည် Odesa ကို ထပ်ခါတလဲလဲ တိုက်ခိုက်မှုများကို ခုခံကာကွယ်ရန် ရုန်းကန်နေရသည်။

ယူကရိန်းကာကွယ်ရေးဝန်ကြီးက ကီယက်ဗ်၏ တန်ပြန်ထိုးစစ်သည် အချိန်ဇယားနောက်ကျနေသော်လည်း အစီအစဉ်အတိုင်းဖြစ်နေဆဲဖြစ်ကြောင်း ပြောကြားခဲ့သည်။ ရုရှားသည် ယူကရိန်းဒရုန်းများကို ပိတ်ဆို့နိုင်ခဲ့ပြီး တိုးတက်မှုကို ဟန့်တားနိုင်ခဲ့ကြောင်း ယူကရိန်းစစ်ဘက်ပြောခွင့်ရသူက ပြောကြားခဲ့သည်။

EU ၏ စိုက်ပျိုးရေးကော်မရှင်နာ Janusz Wojciechowski က ရုရှားသည် ပင်လယ်နက်ကောက်ပဲသီးနှံသဘောတူညီချက်မှ နုတ်ထွက်ပေးရန် သက်တမ်းတိုးမှုကို ထည့်သွင်းစဉ်းရာတွင် အစုအဖွဲ့အနေဖြင့် “အခြေအနေသစ်များ”ကို ထည့်သွင်းစဉ်းစားရန် လိုအပ်ကြောင်း ပြောကြားခဲ့သည်။

ယူကရိန်းနိုင်ငံသမ္မတဇဲလန်စကီးသည် တောင်နှင့် အရှေ့ဘက်ရှေ့တန်း၌ ယူကရိန်းတပ်များ၏ တွန်းအားပေးမှုများကြားတွင် ၎င်း၏စစ်သားများကို ယုံကြည်ကြောင်း ဖော်ပြခဲ့သည်။

ရုရှားသမ္မတဗလာဒီမာပူတင်သည် စိန့်ပီတာစဘတ်တွင်ကျင်းပသည့် ထိပ်သီးအစည်းအဝေးတွင် အာဖရိကနိုင်ငံခေါင်းဆောင်အများအပြားကို လက်ခံကျင်းပနေသည်။ ရုရှား၏ သံတမန်ရေးအရ အထီးကျန်မှု၏ လက္ခဏာတစ်ရပ်တွင် ၂၀၁၉ ခုနှစ်၌ အလားတူ ထိပ်သီးအစည်းအဝေးသို့ တက်ရောက်သူဦးရေသည် ထက်ဝက်ကျော် လျော့နည်းသွားပါသည်။

ရုရှား-အာဖရိက ထိပ်သီးအစည်းအဝေးတွင် ရုရှားသမ္မတ ပူတင်က ရုရှားအစိုးရသည် အာဖရိကခေါင်းဆောင်များ၏အဆိုပြုချက်ကို “ဂရုတစိုက်”ထည့်သွင်းစဉ်းစားနေကြောင်း ပြောကြားခဲ့သည်။ သို့သော် ယူကရိန်းသမ္မတ Volodymyr Zelensky သည် မော်စကိုတပ်များ မိမိနိုင်ငံပိုင်နက်မှ မရုပ်သိမ်းမချင်း ရုရှားနှင့် ငြိမ်းချမ်းရေး ဆွေးနွေးမှုကို ငြင်းဆိုထားသည်။

ယူကရိန်းသမ္မတ ဇဲလန်စကီးက ရုရှား၏ ဒုံးကျည်ပစ်ခတ်မှုတွင် ထိမှန်ခဲ့သည့် နောက်ထပ်အဆောက်အဦမှာ လုံခြုံရေးဝန်ဆောင်မှုလုပ်ငန်း၏ အဆောက်အဦဖြစ်သည်ဟု အတည်ပြုပြောကြားခဲ့ပါသည်။

ရုရှားကို တိုက်ခိုက်ရန် ကြိုးစားနေသည့် ယူကရိန်း ဒရုန်းသုံးစင်းကို ရုရှားက ပစ်ချလိုက်ခြင်းဖြစ်ပြီး တစ်ပတ်အတွင်း ရုရှားနိုင်ငံ၏ မြို့တော်ကို ဒုတိယအကြိမ်မြောက် တိုက်ခိုက်မှုဖြစ်သည်ဟု ရုရှားအစိုးရ ပြောခွင့်ရပုဂ္ဂိုလ်က ပြောသည်။

အမေရိကန်မှ အိမ်ဖြူတော် အမျိုးသားလုံခြုံရေးအကြံပေး Jake Sullivan သည် လာမည့် သီတင်းပတ်တွင် ဆော်ဒီအာရေဗျ၌ ယူကရိန်းစစ်ပွဲဆိုင်ရာ ငြိမ်းချမ်းရေးဆွေးနွေးပွဲသို့ တက်ရောက်မည်ဟု မျှော်လင့်ထားကြောင်း အမေရိကန်တာဝန်ရှိသူများက ပြောကြားခဲ့သည်။

## နိုင်ငံ့ဝန်ထမ်းလျှောက်ထားခြင်းဆိုင်ရာ သိမှတ်ဖွယ်ရာများ

### ပြန်တမ်းဝင်အရာရှိရာထူးအတွက် လူတွေ့စစ်ဆေးခြင်းဆိုင်ရာ သိမှတ်ဖွယ်ရာများ

လူတွေ့စစ်ဆေးခြင်းတွင် အပိုင်းနှစ်ပိုင်းပါဝင်သည် –

(၁) စိတ်အခြေအနေစစ်ဆေးခြင်း

(၂) လူတွေ့နှုတ်ဖြေစစ်ဆေးခြင်း

စစ်ဆေးမှုခံယူရန်လာရောက်သည့် လျှောက်လွှာရှင်များသည် အောက်ပါစာရွက်စာတမ်းများကို တစ်ပါတည်း ယူဆောင်လာရမည် –

(၁) လျှောက်လွှာတင်စဉ်က ပါရှိသော အောင်လက်မှတ်၊ အထောက်အထားမူရင်းများ

(၂) အကျင့်စာရိတ္တကောင်းမွန်ကြောင်း သက်ဆိုင်ရာမြို့နယ်ပြည်သူ့ရဲတပ်ဖွဲ့စခန်းမှ လွန်ခဲ့သည့် ၆ လအတွင်းက ရယူထားသည့်ထောက်ခံစာ

(၃) အကျင့်စာရိတ္တကောင်းမွန်ကြောင်း ပြန်တမ်းဝင်အရာရှိ တစ်ဦးထံမှ ထောက်ခံစာ

(၄) ကျန်းမာကြောင်း ဆေးလက်မှတ်

စိတ်အခြေအနေစစ်ဆေးခြင်းကို ကဏ္ဍနှစ်ရပ်ခွဲခြားထားရာ ပထမပိုင်းတွင် အသင့်ပြုစုထားသည့်မေးခွန်းပုံစံကို စာမေးပွဲသဏ္ဌာန် ဖြည့်စွက်ဖြေဆိုကြရပါသည်။ ဒုတိယပိုင်းတွင် စိတ်စစ်ဆေးရေးအရာရှိက ဖြည့်စွက်ဖြေဆိုထားသည့် အဖြေလွှာပုံစံကိုအခြေခံ၍ တစ်ဦးချင်း လူတွေ့စစ်မေးပါသည်။ တစ်ဦးချင်းစစ်မေးသည့်အခါ စိတ်အခြေအနေကို ဖော်ထုတ်သိရှိနိုင်သည့်နည်းလမ်းများဖြင့် မေးမြန်းသဖြင့် မိမိကိုယ်မိမိ ယုံကြည်မှုလွန်ကဲသူ၊ ယုံကြည်မှုအားနည်းသူ၊ ပတ်ဝန်းကျင်လွှမ်းမိုးခံရမှု၊ စိတ်အားငယ်တတ်မှု၊ စိတ်ဖိစီးခံရမှု၊ စိတ်ဖိစီးမှုကို ကြံ့ကြံ့ခံကျော်လွှားနိုင်မှုစသည်များကို ဖော်ထုတ်ရရှိနိုင်ပါသည်။

လူတွေ့နှုတ်ဖြေစစ်ဆေးမှုခံယူရန် လာရောက်ကြသည့် လျှောက်လွှာရှင်များအား အဖွဲ့ဝင်လူကြီးများက လူတွေ့နှုတ်ဖြေစစ်ဆေးမှု အပြီးသတ်ပြုလုပ်မည်ဖြစ်ပါသည်။ တည်ဆဲအကဲဖြတ်ချက်များမှာ လူအကဲဖြတ်ခြင်း၊ အထွေထွေဗဟုသုတ စစ်ဆေးခြင်းနှင့် လုပ်ငန်းဗဟုသုတနှင့် လူမှုရေးဆောင်ရွက်ချက် စစ်မေးခြင်းများပါဝင်မည်ဖြစ်ပါသည်။

### စိတ်ပိုင်းဆိုင်ရာစာမေးပွဲများအတွက် အထွေထွေသိကောင်းစရာများ

ယနေ့ခေတ်တွင် ပညာအရည်အချင်း တူညီနေလျှင် ပို၍ကောင်းသူကိုသာ ရွေးချယ်

လေ့ရှိပါသည်။ ယခုအခါ လူငယ်အရေအတွက်များပြားသည်နှင့်အမျှ အလုပ်ခွင်အတွက် စစ်ဆေးမှုများအကူအညီဖြင့် ပို၍ပို၍ကောင်းသောပညာတတ်ကို အလုပ်ခန့်ရာတွင် ရွေးချယ်ကြပါသည်။

စိတ်အခြေအနေစမ်းသပ်နည်းများဆိုသည်မှာ လူတစ်ယောက်၏အတွင်းသဘော စိတ်နေစိတ်ထား၊ ဟန်ဆောင်မှုကို ပေါ်လွင်အောင် စစ်ဆေးခြင်းဖြစ်သည်။ လူတစ်ယောက်၏ ပင်ကိုအရည်အသွေးဟူသည် ပြုပြင်ရလွယ်သောကိစ္စမဟုတ်ပေ။ ဟန်ဆောင်၍လည်းမရ၊ လိမ်ညာအဖြေပေး၍လည်းမဖြစ်နိုင်ပေ။ စာအုပ်စာတမ်းများ၊ ကျမ်းကြီး၊ ကျမ်းငယ်များကို ကြိုတင်လေ့လာခြင်းဖြင့်လည်း အကျိုးရှိမည်မဟုတ်။ လုပ်ငန်းခွင် စိတ်ပိုင်းဆိုင်ရာ စစ်ဆေးနည်းများကို ကြိုတင်လေ့လာထားခြင်းဖြင့်လည်း အကျိုးရှိမည်မဟုတ်။ ထို့ကြောင့် စိတ်ပညာရှင်များက ဦးဆောင်၍ စစ်ဆေးပေးလျက်ရှိသည်။ သို့သော် လုပ်ငန်းခွင်စိတ်ပိုင်းဆိုင်ရာ စစ်ဆေးတော့မည်ဆိုလျှင် စာမေးပွဲဖြေသကဲ့သို့ အောင်မှတ်၊ ကျမှတ်ဟု သတ်မှတ်ပေးထားသော စာမေးပွဲမဟုတ်ပါ။ လုပ်ငန်းခွင်နှင့်ဆက်သွယ်နေသော အရည်အချင်းများဖြစ်သည့်–

(၁) ကိုယ်ရည်ကိုယ်သွေး

(၂) သက်လုံကောင်းမှု

(၃) ဖွဲ့လုံ့လရှိမှု

(၄) ဖျတ်လတ်ရဲဝံ့စွာလုပ်ဆောင်နိုင်မှု စသည့်စွမ်းရည်များကို တစ်ပြိုင်တည်း စစ်ဆေးလေ့ရှိသည်။

## လူတွေ့စစ်ဆေးခြင်း

စိတ်ပညာနည်းအရ လေ့လာစစ်ဆေးရာတွင် တစ်နေကုန် အချိန်ယူလေ့ရှိသည်။ လက်နက်ကိုင်အဖွဲ့အစည်းရာထူးများအတွက်ဆိုလျှင် အဆင့်ဆင့် အကြိမ်ကြိမ် စစ်ဆေးခံကြရသည်။ လျှောက်လွှာရှင်အားလုံးကို တူညီသော စည်းကမ်းသတ်မှတ်ချက်နှင့်အညီ စခန်းသွင်းထားကာ စစ်ဆေးမှုများကို ပြုလုပ်လေ့ရှိသည်။

စခန်းသွင်းစစ်ဆေးပြီဆိုလျှင် အကဲဖြတ်ပုဂ္ဂိုလ်က လျှောက်လွှာရှင်များကို အဖွဲ့ငယ်အလိုက် စုထားပေးပြီး အားလုံးကို စစ်ဆေးမည့် နည်းစနစ်ကို ရှင်းလင်းပြောပြပါမည်။

ပြီးလျှင် မိမိအရည်အချင်းကို လူတကာထက်ပေါ်လွင်အောင် ပြသပေးရပါမည်။ ဤကာလတစ်လျှောက်လုံးတွင် အကဲခတ်အဖွဲ့က လျှောက်လွှာရှင်၏ စုပေါင်းဆွေးနွေးလှုပ်ရှားမှုတို့ကို အချိန်ကုန်သည်အထိ ထိုင်ကြည့်ကာ အရည်အသွေးကို အကဲခတ်ရပါသည်။

(က) **လူအကဲဖြတ်ခြင်း။** စုစုပေါင်းပေးမှတ် ၁၀၀ ဖြစ်ပြီး အောက်ပါအချက်များကို အကဲဖြတ်အမှတ်ပေးမည်ဖြစ်ပါသည် –

(၁) ဥပဓိရုပ်

(၂) တည်ကြည်မှု၊ ဖျတ်လတ်မှု
(၃) အပြောအဆို
(၄) ဉာဏ်ရည်ထက်မြက်မှု

( ခ ) **အထွေထွေဗဟုသုတ။** စုစုပေါင်းပေးမှတ် ၁၀ဝ ဖြစ်ပြီး ပြည်တွင်း ဗဟုသုတနှင့် ပြည်ပဗဟုသုတအပိုင်း နှစ်ပိုင်းပါဝင်သည်။

( ဂ ) **လုပ်ငန်းဗဟုသုတနှင့် လူမှုရေးဆောင်ရွက်ချက်။** စုစုပေါင်း ပေးမှတ် ၁၀ဝ ဖြစ်ပြီး လုပ်ငန်းဗဟုသုတနှင့် လူမှုရေးဆောင်ရွက်ချက် အပိုင်းနှစ်ပိုင်းပါဝင်သည်။

## ဝတ်စားဆင်ယင်မှု

ပြန်တမ်းဝင်အရာရှိအဆင့်ဖြင့် နိုင်ငံ့ဝန်ထမ်းဘဝ ခံယူမည့်သူများသည် မြန်မာဆန်ဆန် ဝတ်စားဆင်ယင်သင့်ပါသည်။

**အမျိုးသားများသည် –**

- ဆံပင်သေသပ်စွာ ညှပ်ထားသင့်သည်၊
- အတွင်းခံအင်္ကျီ၊ ရှပ်လက်ရှည်ကော်လာကတုံးနှင့် မြန်မာပုဆိုးကို သေသပ်စွာ ဝတ်ဆင်သင့်သည်။
- မြန်မာခြေညှပ်ဖိနပ် ဝတ်ဆင်သင့်ပါသည်။

**အမျိုးသမီးများသည် –**

- ဆံပင်သေသပ်စွာ ဖီးလိမ်းပေးထားရမည်။ မြန်မာဆံထုံး (ကျစ်ဆံမြီးကျစ်ထား လျှင်လည်း လက်ခံနိုင်ပါသည်။)
- မြန်မာအင်္ကျီ၊ ထဘီကို သေသပ်စွာ ဝတ်ဆင်သင့်ပါသည်။
- ဘလောက်စ်အင်္ကျီများ မဝတ်သင့်ပါ။ ဘေးကွဲ၊ နောက်ကွဲ၊ စကပ်ထဘီများ မဝတ်သင့်ပါ။
- မြန်မာခြေညှပ်ဖိနပ်ကို ဝတ်ဆင်သင့်ပါသည်။

## နိုင်ငံ့ဝန်ထမ်းကျင့်ဝတ် (၃၀) ပါး

### ဝန်ထမ်းတစ်ဦးချင်းလိုက်နာစောင့်ထိန်းရမည့် ကျင့်ဝတ် (၁၂) ပါး

(က) နိုင်ငံ့ဝန်ထမ်း ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ အမိန့်၊ ညွှန်ကြား ချက်များ၊ ဝန်ထမ်းအဖွဲ့အစည်းအလိုက် သီးခြားသတ်မှတ်ထားသော လုပ်ငန်းခွင် စည်းကမ်းများ၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ပါ။

( ခ ) ပေးအပ်ထားသော တာဝန်နှင့်ဝတ္တရားများကို ကျေပွန်စွာ ထမ်းဆောင်ပါ။

( ဂ ) ယုံကြည်စွာ အပ်နှံထားသော လုပ်ပိုင်ခွင့်ကို အလွဲသုံးခြင်းမှ ရှောင်ကြဉ်ပါ။

(ဃ) အဂတိလိုက်စားခြင်းနှင့် လာဘ်ပေးလာဘ်ယူမှု ပြုလုပ်ခြင်းတို့မှ ရှောင်ကြဉ်ပါ။

( င ) မိမိကြောင့် နိုင်ငံပိုင်ပစ္စည်းဥစ္စာ၊ ဘဏ္ဍာငွေပျက်စီးဆုံးရှုံးခြင်းနှင့် အလွဲသုံးစားပြုခြင်းတို့မဖြစ်စေရန် အလေးထားဆောင်ရွက်ပါ။

( စ ) ရာထူးနှင့်လျော်ညီသော အရည်အသွေး ပြည့်ဝနေစေရန် ကြိုးစားအားထုတ်ပါ။ ရာထူးဝန်အဖွဲ့က သတ်မှတ်ထားသော သင်တန်းများ တက်ရောက်ပါ။

(ဆ) တာဝန်ထမ်းဆောင်ရာတွင် ရိုးသားဖြောင့်မတ်ပါ။

( ဇ ) အလုပ်ခွင်တွင် မူးယစ်ဆေးသုံးစွဲခြင်း၊ အရက်သောက်ခြင်း၊ လောင်းကစားခြင်းတို့ကို ရှောင်ကြဉ်ပါ။

(ဈ) အလုပ်ခွင်တွင် ခိုက်ရန်ဖြစ်ပွားခြင်းမှ ရှောင်ကြဉ်ပါ။

(ည) အကျင့်စာရိတ္တပျက်ပြားခြင်းနှင့် သိက္ခာမဲ့စွာ ပြုမူပြောဆိုနေထိုင်ခြင်းတို့မှ ရှောင်ကြဉ်ပါ။

( ဋ ) ဥပဒေနှင့်အညီ ပေးအပ်လာသည့်အမိန့်နှင့်တာဝန်ကိုကြည်ဖြူစွာ ထမ်းဆောင်ပါ။

( ဌ ) ဝန်ထမ်းပီသစွာဖြင့် ပါတီနိုင်ငံရေးနှင့် ကင်းရှင်းစွာနေထိုင်ပါ။

## ဝန်ထမ်းအချင်းချင်းအပေါ် လိုက်နာစောင့်ထိန်းရမည့် ကျင့်ဝတ်(၅)ပါး

(က) ဝန်ထမ်းအချင်းချင်း သစ္စာစောင့်သိပါ။

( ခ ) ဝန်ထမ်းအချင်းချင်း စည်းလုံးညီညွတ်မှုကို တည်ဆောက်ပါ။

( ဂ ) ဝန်ထမ်းအချင်းချင်း တိုင်ကြားသက်သေခံရာတွင် အမှန်အတိုင်း ထွက်ဆိုပါ။

(ဃ) ဝန်ထမ်းအဖွဲ့အစည်း၊ ဝန်ထမ်းအမျိုးအစားအလိုက် စောင့်ထိန်းရန် သတ်မှတ်ထားသည့် ကျင့်ဝတ်နှင့် စည်းကမ်းများကို လိုက်နာပါ။

( င ) ဝန်ထမ်းများ၏ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်ပျော်ရွှင်ရေးတို့တွင် ပူးပေါင်းပါဝင်ဆောင်ရွက်ပါ။

## ပြည်သူလူထုအပေါ် လိုက်နာစောင့်ထိန်းရမည့် ကျင့်ဝတ်(၅)ပါး

(က) ပြည်သူလူထုအပေါ် သစ္စာစောင့်သိရှိသေပါ။

( ခ ) ပြည်သူလူထုကို လေးစားစွာ ဝန်ဆောင်မှုပေးပါ။

( ဂ ) ပြည်သူလူထု၏ အကျိုးစီးပွားကို အလေးထားစောင့်ရှောက်ပါ။

(ဃ) ပြည်သူလူထုကို ယဉ်ကျေးစွာ ပြုမူဆက်ဆံပါ။

( င ) တာဝန်အရ ဆောင်ရွက်ရာတွင် ပြည်သူလူထုထံမှ ငွေကြေးအပါအဝင် အကျိုးခံစားခွင့် တစ်ခုခုကို တောင်းခံခြင်းမပြုဘဲ ဆောင်ရွက်ပေးပါ။

## နိုင်ငံတော်အပေါ် လိုက်နာစောင့်ထိန်းရမည့် ကျင့်ဝတ်(၈)ပါး

(က) နိုင်ငံတော်၏ ကျေးဇူးသစ္စာကို စောင့်သိရှိသေပါ။

( ခ ) ဒို့တာဝန်အရေးသုံးပါးကို ဦးတည်ကြိုးပမ်းဆောင်ရွက်ပါ။

( ဂ ) ဖွဲ့စည်းပုံအခြေခံဥပဒေနှင့် တည်ဆဲဥပဒေများကို လိုက်နာပါ။
(ဃ) နိုင်ငံတော်၏ အကျိုးစီးပွားကို အလေးထားဆောင်ရွက်ပါ။
( င ) နိုင်ငံတော်ပိုင် ပစ္စည်းဥစ္စာ၊ ဘဏ္ဍာငွေများ ပျက်စီးဆုံးရှုံးမှုမရှိစေရေး ထိန်းသိမ်းစောင့်ရှောက်ပါ။
( စ ) နိုင်ငံတော်အစိုးရ လျှို့ဝှက်ချက်အက်ဥပဒေကို လိုက်နာပါ။
(ဆ) နိုင်ငံတော်အပေါ် အကြည်ညိုပျက်စေမည့် လုပ်ရပ်များကို ရှောင်ကြဉ်ပါ။
( ဇ ) နိုင်ငံတော်လုံခြုံရေးနှင့် တရားဥပဒေစိုးမိုးရေးကို ဝိုင်းဝန်းစောင့်ရှောက်ပါ။

## နိုင်ငံ့ဝန်ထမ်း သစ္စာအဓိဋ္ဌာန်(၆)ချက်

(က) ကျွန်ုပ်တို့သည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ သစ္စာကို စောင့်သိရိုသေပါမည်။
( ခ ) ကျွန်ုပ်တို့သည် ပြည်ထောင်စုမပြိုကွဲရေးကို ဦးတည်ကြိုးပမ်း ဆောင်ရွက်ပါမည်။
( ဂ ) ကျွန်ုပ်တို့သည် တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေးကို ဦးတည်ကြိုးပမ်းဆောင်ရွက်ပါမည်။
(ဃ) ကျွန်ုပ်တို့သည် အမိနိုင်ငံတော်၏ အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေးကို ဦးတည်ကြိုးပမ်းဆောင်ရွက်ပါမည်။
( င ) ကျွန်ုပ်တို့သည် နိုင်ငံ့ဝန်ထမ်းများ ပီသစွာဖြင့် ပါတီနိုင်ငံရေးနှင့် ကင်းရှင်းအောင်နေထိုင်ပါမည်။
( စ ) ကျွန်ုပ်တို့သည် နိုင်ငံတော်ကပေးအပ်သောအမိန့်နှင့် တာဝန်များကို ဦးလည်မသုန် ကြိုးပမ်းဆောင်ရွက်သွားပါမည်ဟု သစ္စာအဓိဋ္ဌာန်ပြုပါသည်။

## နိုင်ငံ့ဝန်ထမ်းများ ထမ်းဆောင်ရမည့် တာဝန်(၃)ရပ်

(က) ဝန်ထမ်းသည် နိုင်ငံတော်၏ အကျိုးအတွက် အချိန်ပြည့် အလုပ်လုပ်ရန်တာဝန်ရှိသည်။
( ခ ) မူလတာဝန်သာမက နိုင်ငံတော်ကပေးအပ်လာသော အခြားတာဝန်များကိုလည်း ထမ်းဆောင်ရန် တာဝန်ရှိသည်။
( ဂ ) ဝန်ထမ်းဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်း၊ အမိန့်ညွှန်ကြားချက် စသည်များကိုလည်း လိုက်နာရန် တာဝန်ရှိသည်။

## နိုင်ငံ့ဝန်ထမ်းတွင် ပြည့်စုံရမည့်အင်္ဂါရပ်များ

(က) အကြားအမြင်ဗဟုသုတရှိခြင်း။
( ခ ) ကိုယ်နှုတ်အမူအရာယဉ်ကျေး၍ တင့်တယ်သောရုပ်ဆင်းအင်္ဂါနှင့် ပြည့်စုံခြင်း။

(ဂ) ကိုယ်ကျင့်တရားကောင်းမွန်သူဖြစ်ခြင်း။
(ဃ) ရဲရင့်သူ(ရဲစွမ်းသတ္တိရှိသူ)ဖြစ်ခြင်း။
(င) ဖွဲလုံ့လဝီရိယရှိခြင်း။
(စ) ကာယဗလ၊ ဉာဏဗလဖွံ့ဖြိုးခိုင်မာခြင်း။
(ဆ) ဥစ္စာကိုမမက်မောခြင်း။

**ဝန်ထမ်းများမလိုက်စားအပ်သောတရား (၇) ပါး**

(က) **တံစိုး (၃) ပါး**

(၁) ဉာတိသလောဟိတ (ဆွေမျိုးသားချင်းတော်စပ်၍ လိုက်လျောခြင်း - မေတ္တာတံစိုး)
(၂) ပီဟမိတ္တ (ချစ်ကျွမ်းဝင်သူဖြစ်၍လိုက်လျောခြင်း-မျက်နှာတံစိုး)
(၃) ဓနုဂ္ဂဟ (အခကြေးငွေယူ၍ လိုက်လျောခြင်း-ဥစ္စာတံစိုး)

(ခ) **အဂတိတရား (၄) ပါး**

(၁) ဆန္ဒဂတိ - ချစ်သောကြောင့် မျက်နှာလိုက်၍မတရားပြုခြင်း
(၂) ဒေါသဂတိ - မုန်းသောကြောင့် မတရားပြုခြင်း
(၃) မောဟာဂတိ - မသိသောကြောင့် မတရားပြုခြင်း
(၄) ဘယာဂတိ - ကြောက်သောကြောင့် မတရားပြုခြင်း

## အသက်အရွယ်အလိုက် ပြုလုပ်ပေးသင့်သော ကာကွယ်ဆေးများ

| | |
|---|---|
| ၁။ ကိုယ်ဝန်ဆောင်ချိန် | မေးခိုင်နှင့်ဆုံဆို့နှစ်မျိုးစပ်ဆေး (နှစ်ကြိမ်) |
| (၁) ကိုယ်ဝန်စဆောင်ချိန် | ပထမအကြိမ် |
| (၂) ပထမဆေးထိုးအပြီး(၄)ပတ်အကြာ (သို့) အနည်းဆုံးမမွေးဖွားမီ(၂)ပတ်အလို | ဒုတိယအကြိမ် |
| ၂။ မွေးကင်းစ (မွေးပြီးပြီးချင်း) | ဘီစီဂျီ၊ အသည်းရောင်အသားဝါ(ဘီ) |
| ၃။ ၂ လ (ပထမအကြိမ်) | ဘီစီဂျီ၊ ဆုံဆို့၊ ကြက်ညှာ၊ မေးခိုင်၊ အသည်းရောင်အသားဝါ(ဘီ)၊ဦးနှောက်အမြှေးရောင်(ငါးမျိုးစပ်ကာကွယ်ဆေး)–၁၊ပြင်းထန်ဝမ်းပျက်ဝမ်းလျှော(ရိုတာ)၊ ပြင်းထန်အဆုတ်ရောင်(ပီစီဗီ)–၁၊ ပိုလီယို–၁ |
| ၄။ ၄ လ (ဒုတိယအကြိမ်) | ဆုံဆို့၊ ကြက်ညှာ၊ မေးခိုင်၊ အသည်းရောင်အသားဝါ (ဘီ)၊ ဦးနှောက်အမြှေးရောင်(ငါးမျိုးစပ်ကာကွယ်ဆေး)–၂၊ ပြင်းထန်ဝမ်းပျက်ဝမ်းလျှော (ရိုတာ)၊ ပြင်းထန်အဆုတ်ရောင်(ပီစီဗီ)–၂)၊ ပိုလီယို–၂၊ ပိုလီယိုကာကွယ်ဆေးထိုးဆေး |
| ၅။ ၆ လ (တတိယအကြိမ်) | ဆုံဆို့၊ ကြက်ညှာ၊ မေးခိုင်၊ အသည်းရောင်အသားဝါ(ဘီ)၊ ဦးနှောက်အမြှေးရောင် (ငါးမျိုးစပ်ကာကွယ်ဆေး)–၃၊ ပြင်းထန်အဆုတ်ရောင်(ပီစီဗီ)–၃၊ ပိုလီယို–၃ |
| ၆။ ၉ လ (စတုတ္ထအကြိမ်) | ဝက်သက်၊ ဂျိုက်သိုး |
| ၇။ ၉ လ | ဂျပန်ဦးနှောက်ရောင် |
| ၈။ ၁ နှစ်ခွဲ (၁၈)လ | ဝက်သက်၊ ဂျိုက်သိုး |

# ရှေးဦးသူနာပြုစုခြင်း (First Aid)

ကျန်းမာရေးအရ လတ်တလောဖြစ်ပေါ်လာသည့်အခြေအနေတွင် လူနာအား အကောင်းဆုံး အခြေအနေမှ နီးစပ်ရာဆေးပေးခန်းဆေးရုံသို့ မသွားခင် ပြုစုရမည်ဖြစ်သည်။

## မြွေကိုက်ခြင်းအတွက် ရှေးဦးပြုစုခြင်း

၁။ အကိုက်ခံရသည့်နေရာကို ရေများများလောင်း၍ သန့်စင်ပါ။
၂။ ဒဏ်ရာကို အဝတ်သန့်ဖြင့် အုပ်ပါ။
၃။ ဒဏ်ရာ၏ အထက်နှင့်အောက်တွင် ကြိုးတင်းတင်းချည်ပါ။
၄။ အကိုက်ခံရသည့်ခြေ၊ လက်တို့ကို ဆန့်တန်းပြီး မလှုပ်နိုင်ရန် ပြုလုပ်ပါ။
၅။ လူနာကို နီးစပ်ရာ ဆေးခန်း၊ ဆေးရုံသို့ ပို့ဆောင်ပါ။

## အပူလောင်ခြင်းအတွက် ရှေးဦးပြုစုခြင်း

၁။ အပူလောင်သောနေရာကို ရေများများလောင်းပါ။
၂။ အပူလောင်သောနေရာကို သန့်ရှင်းသော အဝတ်ဖြင့် ဖုံးအုပ်ပါ။
၃။ အပူလောင်၍ ဖြစ်ပေါ်လာသော အရည်ကြည်ဖုများအား ဖောက်ခြင်း၊ နီးစပ်ရာဆေးများဖြင့် လိမ်းခြင်းမပြုလုပ်ရ။

## ရေနစ်ခြင်းအတွက် ရှေးဦးပြုစုခြင်း

၁။ ရေနစ်သူအား ကမ်းပေါ်ရောက်ရောက်ချင်း အသက်ရှူ၊ မရှူကြည့်ပါ။
၂။ အသက်ရှူပါက လူနာအား ဘေးစောင်းအနေအထားတွင်ထားပါ သို့မဟုတ် လူနာအား ပခုံးပေါ်ထမ်း၍ ဝမ်းဗိုက်အတွင်းမှ ရေများ ပြန်အန်လာအောင် ပြုလုပ်ပါ။
၃။ အသက်မရှူပါက အသက်ရှူနည်းလမ်းများအတိုင်း ပြုလုပ်ပါ။

## အသက်ရှူရပ်ခြင်းအတွက် ရှေးဦးပြုစုခြင်း

၁။ လူနာကို ပက်လက်ထားပါ။
၂။ လူနာ၏ဦးခေါင်းကို အနောက်ဘက်သို့ လှန်ပါ။
၃။ လူနာ၏ နှာခေါင်းကို လက်ဖြင့်ညှစ်၍ ပိတ်ထားပါ။
၄။ လူနာ၏မေးရိုးထောင့်နှစ်ဖက်ကို ကျန်လက်ဖြင့်မထားပါ။
၅။ သင်အသက်ပြင်းစွာ ရှူသွင်းပါ။
၆။ သင်၏ပါးစပ်ကိုဖွင့်ပြီး လူနာ၏ပါးစပ်ကိုငုံ၍ လေကိုမှုတ်သွင်းပါ။
၇။ လူနာ၏ရင်ဘတ် မြင့်တက်လာသည်ကို သင်မြင်ပါက သင်၏ပါးစပ်ကို ဖယ်လိုက်ပါ။

## ဓာတ်လိုက်ခြင်းအတွက် ရှေးဦးပြုစုခြင်း

၁။ မီးခလုတ်ပိတ်ပါ သို့မဟုတ် မီးအဆက်အသွယ်ဖြတ်ပါ။
၂။ ပိုသေချာစေရန် မိန်းခလုတ်ဖြုတ်လိုက်ပါ။
၃။ ခြောက်သွေ့သောနေရာတွင်ရပ်ပြီး ခုံပေါ်တက်၍ ဓာတ်ကြိုးထိသောလူနာ၏ ခန္ဓာကိုယ်အစိတ်အပိုင်းကို တုတ်ဖြင့်တွန်းပါ။
၄။ ဒဏ်ရာကို အပူလောင်ခြင်းအတွက် ရှေးဦးပြုစုနည်းအတိုင်း ပြုစုပါ။

# သွေးတိုးရောဂါ

## သွေးတိုးရောဂါလက္ခဏာများ

- ခေါင်းကိုက်ခြင်း
- ခေါင်းအုံခြင်း
- ခေါင်းမူးခြင်း
- ဇက်ကြောတက်ခြင်း
- မျက်ရိုးကိုက်ခြင်း
- အသက်ရှူမဝခြင်း
- ရင်တုန်ခြင်း
- မောခြင်း
- ပျို့အန်ခြင်း
- စိတ်မတည်ငြိမ်ခြင်း

## ရောဂါဖြစ်ပွားရခြင်းအကြောင်းရင်းများ

- အငန်၊ အဆီအဆိမ့် အလွန်အကျွံစားခြင်း
- အဝလွန်ခြင်း
- အရက်အလွန်အကျွံသောက်ခြင်း
- ဆေးလိပ်အလွန်အကျွံသောက်ခြင်း
- မျိုးရိုးတွင် သွေးတိုးရှိခြင်း
- အသက် ၄၀ ကျော်သူများ
- ဆီးချို၊ သွေးချို ရောဂါရှိခြင်း
- စိတ်ဖိစီးမှုများခြင်း

## သွေးတိုးရောဂါဖြစ်ပြီး နောက်ဆက်တွဲဖြစ်ပေါ်လာသောရောဂါများ

- နှလုံးကြီးခြင်း
- နှလုံးသွေးကြောကျဉ်းရောဂါ
- လေဖြတ်ခြင်း
- ဦးနှောက်သွေးကြောပိတ်ခြင်း၊ ဦးနှောက်အတွင်းသွေးယိုခြင်း၊ သွေးခဲပိတ်ခြင်းကြောင့် သတိလစ်ပြီး အသက်ဆုံးရှုံးခြင်း
- ကျောက်ကပ်ရောဂါ
- မျက်စိကွယ်ခြင်း
- ခြေလက်ပုပ်ခြင်း
- သွေးကြောများပိတ်ခြင်း

**ကုသခြင်း**

- သွေးတိုးသည်ဟု သံသယရှိလျှင် ဆရာဝန်ထံပြသပါ။
- ဆေးကိုမှန်မှန်သောက်ပါ။
- ဆရာဝန်က ထပ်မံပြသရန်ချိန်းပါက မပျက်မကွက်ပြသပါ။
- သွေးကျဆေးကို ဆရာဝန်က မညွှန်ကြားဘဲ မိမိသဘောဖြင့် ကြာရှည်မသောက်သင့်ပါ။
- ဆေးသောက်နေရင်း ဆရာဝန်က မညွှန်ကြားဘဲ ဆေးကိုမဖြတ်ရပါ။

**ကာကွယ်ခြင်း**

သွေးတိုးဖြစ်ပွားမှုမှကင်းဝေးစေရန် အောက်ပါအချက်များကို ဂရုပြုဆောင်ရွက်ကြရမည်–

- သွေးပေါင်ချိန်ခြင်း
- အငန်လျှော့စားခြင်း
- အဆီအဆိမ့်ကို ရှောင်ကြဉ်ခြင်း
- ကိုယ်အလေးချိန် ပုံမှန်ဖြစ်ရန် ထိန်းသိမ်းခြင်း
- အရက်အလွန်အကျွံသောက်ခြင်းကို ရှောင်ကြဉ်ခြင်း
- ဆီးချိုသွေးချိုရောဂါရှိလျှင် သတိပြုခြင်း
- ကိုယ်လက်လှုပ်ရှားခြင်း
- ဆေးလိပ်ရှောင်ကြဉ်ခြင်း

## နှလုံးရောဂါ

**ဖြစ်ပွားမှုများသော နှလုံးရောဂါများ**

- နှလုံးသွေးကြောကျဉ်းရောဂါ
- သွေးတိုးကြောင့်ဖြစ်သော နှလုံးရောဂါ
- လေးဘက်နာရောဂါကြောင့်ဖြစ်သော နှလုံးရောဂါ
- အဆုတ်နှင့်ဆက်နွှယ်သော နှလုံးရောဂါ

**နှလုံးရောဂါလက္ခဏာများ**

- ရင်ဘတ်အောင့်ခြင်း
- ရင်တုန်ခြင်း
- မောခြင်း
- အသက်ရှူကျပ်ခြင်း
- ဖောရောင်ခြင်း
- ခြေလက်ပြာနှမ်းခြင်း
- ချောင်းဆိုးခြင်း
- လေဖြတ်ခြင်း

**နှလုံးရောဂါဖြစ်စေသောအခြေအနေများ**

- အဝလွန်ခြင်း
- အရက်၊ ဆေးလိပ်အလွန်အကျွံသောက်ခြင်း
- အဆီအဆိမ့်အစားများခြင်း
- ဆီးချို၊ သွေးချို၊ သွေးတိုးရောဂါရှိခြင်း
- စိတ်ဖိစီးမှုများခြင်း
- သွေးထဲတွင် ကိုယ်လက်စထရော အဆီဓာတ်များခြင်း

**ကုသခြင်း**

- နှလုံးရောဂါလက္ခဏာတစ်ခုခုရှိပါက ဆရာဝန်ထံပြသပါ။
- ဆရာဝန်ညွှန်ကြားချက်အတိုင်း အီးစီဂျီရိုက်ခြင်း၊ ရင်ဘတ်ဓာတ်မှန်ရိုက်ခြင်း၊ သွေးစစ်ခြင်းတို့ကို ပြုလုပ်ပါ။
- နှလုံးရောဂါဖြစ်သည့်အခါ ဆရာဝန်က ထပ်မံစစ်ဆေးမှုခံယူရန်ချိန်းပါက သွားရောက်ပြသရန် မပျက်ကွက်သင့်ချေ။ တစ်ကြိမ်ရောဂါဖြစ်ပြီး သက်သာလျှင် ရောဂါပျောက်ပြီဟု မယူဆသင့်ချေ။ ရောဂါအခြေအနေအရ ခွဲစိတ်ကုသရန် လိုအပ်သည့်အခါ ဆရာဝန်က ညွှန်ကြားမည်ဖြစ်သည်။

## ဆီးချို၊ သွေးချိုရောဂါ

ဆီးချိုသွေးချိုရောဂါ အန္တရာယ်သည် လူတိုင်းအတွက် ဖြစ်နိုင်ပါသည်။ ဆီးချိုသွေးချိုရောဂါ၏ သတိပေးလက္ခဏာများ ရှိ/မရှိကို သတိထားစောင့်ကြည့်ရန် လိုအပ်ပါသည်။

- ဆီးခဏခဏသွားခြင်း
- စိတ်အာရုံစူးစိုက်မှုမရှိခြင်း
- ရေအငတ်လွန်ခြင်း
- အန်ခြင်း
- ဆာလောင်မွတ်သိပ်ခြင်း
- ဗိုက်နာခြင်း
- ကိုယ်အလေးချိန်လျော့ကျခြင်း
- ခြေလက်များထုံခြင်း၊ ကျဉ်ခြင်း
- နုံးချည့်နေခြင်း
- အမြင်အာရုံဝေဝါးခြင်း
- ပတ်ဝန်းကျင်အား စိတ်ဝင်စားမှုမရှိခြင်း
- အနာများ မကြာခဏပေါက်ခြင်း
- အနာကျက်ခဲခြင်း

ငင်းသတိပေးလက္ခဏာများ သိသာထင်ရှားစွာမပြဘဲ အမျိုးအစား(၂)၊ ဆီးချို၊ သွေးချို

ရောဂါ ဖြစ်နေနိုင်ပါသည်။ တစ်နေ့လျှင် မိနစ်(၃၀)ခန့် ပုံမှန်လေ့ကျင့်ခန်းပြုလုပ်ခြင်းဖြင့် အမျိုးအစား(၂) ဆီးချို၊ သွေးချိုရောဂါဖြစ်ပွားမှုနှုန်း လျော့နည်းစေပါသည်။

## ဆီးချိုသွေးချိုရောဂါ ဖြစ်နိုင်ခြေများသူများ

- မိသားစုဝင်ထဲ၌ ဆီးချိုသွေးချိုရောဂါရှိခြင်း
- ကိုယ်အလေးချိန်များလွန်းခြင်း၊ အထူးသဖြင့် ဝမ်းတွင်းအဆီများလွန်းခြင်း
- အသက် ၄၅နှစ်အထက်ဖြစ်ခြင်း
- ကိုယ်ကာယလှုပ်ရှားမှုနည်းပါးသည့် လူ့ဘဝနေထိုင်မှုပုံစံများရှိခြင်း
- ယခင်က ကိုယ်ဝန်ဆောင်စဉ် ဆီးချိုသွေးချိုရောဂါရှိခဲ့ဖူးခြင်း
- ယခင်က ဆီးချိုသွေးချိုရောဂါ ကနဦးအဆင့်များရှိသည်ဟု စမ်းသပ်သတ်မှတ်ခံထားခဲ့ရခြင်း

## ဆီးချိုသွေးချိုရောဂါ မဖြစ်အောင်စစ်ဆေးရန်

၁။ မိမိ၏သွေးချိုဓာတ်ကို ပုံမှန်စစ်ဆေးပြီး မှတ်တမ်းပြုစုထိန်းသိမ်းထားရှိပါ။

၂။ မျက်စိကိုအနည်းဆုံးတစ်နှစ်လျှင် တစ်ကြိမ်စစ်ဆေးပါ။

၃။ ကျောက်ကပ်ထိခိုက်မှုကို စောစီးစွာဖော်ထုတ်နိုင်ရန် ဆီးတွင်းအသားဓာတ်ပါဝင်မှု စစ်ဆေးခြင်းကို (၆)လတစ်ကြိမ် စစ်ဆေးပါ။

၄။ ခြေထောက်နှင့် ခြေဖဝါးများကို နေ့စဉ်ကြည့်ရှုစစ်ဆေးပါ။

၅။ သွေးပေါင်ကို မကြာခဏ ပုံမှန်စစ်ဆေးပါ။

၆။ နှလုံးကို ပုံမှန်စစ်ဆေးပါ။

၇။ သွေးတွင်းအဆီဓာတ်များကို (၆)လတစ်ကြိမ် ပုံမှန်စစ်ဆေးပါ။

၈။ ကိုယ်ဝန်ဆောင်လိုသူ အမျိုးသမီးများသည် ကျွမ်းကျင်သူ ဆရာဝန်များနှင့် တိုင်ပင်ပြီးမှ ကိုယ်ဝန်ယူပါ။

၉။ ဆီးချိုဓာတ်၊ သွေးတိုးရောဂါနှင့် သွေးတွင်းအဆီဓာတ်များကို ဆရာဝန်များနှင့် ပြသ၍ ကုသမှုခံယူပါ။

## ဆီးချိုကာကွယ်ခြင်း

ဆီးချို၊ သွေးချိုရောဂါသည် ဇီဝကမ္မဖြစ်စဉ်ချို့ယွင်း၍ သွေးအတွင်း အချိုဓာတ်များနေသောရောဂါတစ်ခု ဖြစ်သည်။ ဆီးချို၊ သွေးချိုရောဂါသည် လူတိုင်းတွင်ဖြစ်နိုင်ပါသည်။ ဆီးချို၊ သွေးချိုရောဂါကြိုတင်ကာကွယ်ပါ။

၁။ အစားလျှော့စားပါ။ ချိုလွန်း၊ ငန်လွန်း၊ အဆီများလွန်းသော အစားအစာများကို ရှောင်ကြဉ်ပါ။

၂။ ရေများများသောက်ပါ။ ရေဆာလျှင် ရေကိုသာသောက်ပါ။

၃။ အဝမလွန်အောင် ထိန်းသိမ်းပါ။

၄။ လှုပ်ရှားမှုများသော လူနေမှုပုံစံဖြင့် နေထိုင်ပါ။

၅။ နားနေချိန်မှာ ပုံမှန်လေ့ကျင့်ခန်းလုပ်ပါ။

၆။ အမျှင်ဓာတ်များသော အစားအစာများများစားပါ။ ဟင်းသီးဟင်းရွက်နှင့် သစ်သီးဝလံများကို များများနှင့် စုံအောင်စားပါ။

၇။ တိရစ္ဆာန်မှရသော အဆီများ(ဥပမာ– ကြက်အရေပြား၊ ဝက်အရေပြား၊ ကလီစာ၊ဝက်ဆီ၊ ဘဲဆီ)တို့ကို ရှောင်ကြဉ်ပါ။ ငါးမှရသောအဆီများ စားသုံးနိုင်ပါသည်။

၈။ စိတ်ဖိစီးမှုများကို လျှော့ချနိုင်သမျှလျှော့အောင် ကြိုးစားနေထိုင်ပါ။

ဆီးချို၊ သွေးချိုရောဂါဟု သံသယရှိပါက နီးစပ်ရာကျန်းမာရေးဌာန၊ ဆေးရုံ၊ ဆေးခန်းများတွင် သွားရောက်စစ်ဆေးကာ ကုသမှုခံယူနိုင်ပါသည်။ တစ်နေ့လျှင် မိနစ်(၃၀)ခန့် ပုံမှန်လေ့ကျင့်ခန်းပြုလုပ်ခြင်းဖြင့် ဆီးချို၊ သွေးချိုရောဂါ ဖြစ်နိုင်မှုနှုန်းကို ၄၀ ရာခိုင်နှုန်း လျော့နည်းစေနိုင်ပါသည်။

# ကင်ဆာရောဂါ

## ရောဂါလက္ခဏာများ

- အသည်းကင်ဆာဖြစ်သည့်အခါ ဝမ်းဗိုက်ညာဘက်အထက်ပိုင်း နံရိုးစွန်းနေရာ၌တင်းခြင်း၊ နာကျင်ခြင်းတို့ဖြစ်ပြီး အကျိတ်ပေါ်လာခြင်း
- အစားအသောက်ပျက်ခြင်း၊ နုံးချည့်ခြင်း၊ ပိန်လာခြင်း
- အစာအိမ်ကင်ဆာ၊ အူမကြီးကင်ဆာစသည့် အစာအိမ်လမ်းကြောင်း ကင်ဆာတို့တွင် သွေးအန်ခြင်း၊ သွေးဝမ်းသွားခြင်း
- ဝမ်းဗိုက်အတွင်းရေစုပြီး ရေဖျဉ်းစွဲခြင်း
- ဝမ်းပျက်ဝမ်းလျှောခြင်း
- မီးယပ်သွေးဆင်းများခြင်း သို့မဟုတ် မီးယပ်သွေးဆင်းချိန်မဟုတ်ဘဲ သွေးဆင်းခြင်း
- မီးယပ်သွေးဆုံးပြီးမှ သွေးပြန်ဆင်းခြင်း
- အသားဝါခြင်း
- ဖျားခြင်း
- သွေးအားနည်းပြီး ဖြူဖပ်ဖြူရော်ဖြစ်ခြင်း
- ရင်ဘတ်အောင့်ခြင်း၊ အသက်ရှူကျပ်ခြင်း

## ဖြစ်ပွားရသည့်အကြောင်းရင်းများ

- မျိုးရိုးဗီဇ
- ဓာတ်ရောင်ခြည်ထိတွေ့မှု
- ဆေးလိပ်သောက်ခြင်း
- အရက်သောက်ခြင်း
- ကွမ်းစားခြင်း
- အစားအစာဆိုးဆေးများ
- မှိုအဆိပ်များ
- ဗိုင်းရပ်စ်ပိုးများ
- ဘက်တီးရီးယားပိုးများ

- ဆေးဝါးများ
- အသက်ကြီးရင့်မှု
- ခန္ဓာကိုယ်၏ ခုခံအားစနစ်ပြောင်းလဲမှု

**ကုသခြင်း**

- ဆေးဝါးဖြင့် ကုသခြင်း
- ခွဲစိတ်ကုသခြင်း
- ဓာတ်ရောင်ခြည်ဖြင့် ကုသခြင်း
- ဟော်မုန်းဖြင့် ကုသခြင်း
- ဗီဇပြုပြင်ပေးခြင်း

**ကာကွယ်ခြင်း**

- အပူအစပ်၊ ဆေးလိပ်၊ အရက်တို့ကို ရှောင်ကြဉ်ပါ။
- အသားကင်၊ ဆိုးဆေးပါရှိသော အစားအသောက်များကို ရှောင်ကြဉ်ပါ။
- မှိုတက်သော အစားအသောက်များကို ရှောင်ကြဉ်ပါ။
- ဓာတ်ရောင်ခြည်၊ ဓာတုပစ္စည်းများနှင့် ထိတွေ့လုပ်ကိုင်ရသူတို့သည် အကာအကွယ်များဝတ်ဆင်၍ စနစ်တကျလုပ်ကိုင်ပါ။
- ကင်ဆာသို့ပြောင်းလဲစေတတ်သည့် ရောဂါများအား ကုသပါ။
- ဟော်မုန်းဆေးများ မလိုအပ်ဘဲသုံးစွဲခြင်းကို ရှောင်ကြဉ်ပါ။
- ခန္ဓာကိုယ်တွင် အကျိတ်အဖုများပေါ်ခြင်းရှိ၊ မရှိ ဂရုပြုစမ်းသပ်ပါ။
- ရောဂါကို စောစီးစွာသိရှိခြင်းဖြင့် ရောဂါပျံ့နှံ့မှုနှင့် အသက်အန္တရာယ်ကို တားဆီးကာကွယ်နိုင်ရန် ကုသမှုပြုနိုင်မည်ဖြစ်၍သံသယဖြစ်ပါက ဆေးရုံ၊ဆေးခန်းသို့ပြသပါ။
- အမျှင်ဓာတ်ပေါများသည့် အစားအစာ၊ ပဲပိစပ်၊ ခရမ်းချဉ်သီး၊ ကြက်သွန်ဖြူစသော ဗီတာမင်အီးပါသည့် အစားအစာများစားပါ။
- နေ့စဉ်လတ်ဆတ်သော ဟင်းသီးဟင်းရွက်များနှင့် အသီးများကို စားသုံးပါ။

## လေးဘက်နာရောဂါ

**ရောဂါလက္ခဏာများ**

- လေးဘက်နာရောဂါဖြစ်ပါက ဖျားလာမည်။
- အဆစ်အမြစ်တစ်နေရာရာတွင် ကိုက်ရာမှ အခြားတစ်နေရာသို့ရွှေ့ပြီးကိုက်သည်။
- အဆစ်အမြစ်ရောင်၊ ပခုံးဆစ်နာရာမှ တံတောင်ဆစ်၊ တံတောင်ဆစ်မှ လက်ကောက်ဝတ်သို့ ရွှေပြောင်းပြီးကိုက်သည်။ မျက်နှာနှင့် ခန္ဓာကိုယ်ပေါ်တွင် အနီကွက်များပေါ်တတ်သည်။
- တံတောင်ဆစ်၊ လက်ကောက်ဝတ် စသည့်အဆစ်တို့တွင် အဖုအသီးများဖြစ်ပြီး ယင်းတို့သည် နာကျင်ခြင်းမရှိချေ။

- ခြေလက်များ အငြိမ်မနေဘဲ လှုပ်ရှားနေတတ်သည်။
- နှလုံးကို ထိခိုက်နိုင်ပြီး နှလုံးခုန်မြန်၍ ခန္ဓာကိုယ်ဖောရောင်လာတတ်သည်။
- မောပန်းခြင်း၊ ရင်တုန်ခြင်းတို့ဖြစ်နိုင်သည်။ နှလုံးအဆို့ရှင်ကျဉ်းခြင်း၊ (သို့မဟုတ်) ကျယ်ခြင်း ဖြစ်နိုင်သည်။

### ကုသခြင်း

- အဆစ်အမြစ်ကိုက်ခြင်းအတွက် သက်သာစေသော အကိုက်အခဲပျောက်ဆေးဖြင့် ကုသရသည်။
- အက်စ်ပရင်ကို အများဆုံးပေးသည်။
- ရောဂါပိုးသေစေရန် ပင်နင်စလင်ဆေးသောက်ခြင်း၊ သို့မဟုတ် ထိုးခြင်းဖြင့် ကုသပေးသည်။
- အနားယူရန်လည်း လိုအပ်သည်။

### ကာကွယ်ခြင်း

- လေးဘက်နာရောဂါရှိ၊မရှိသိရန် ASO titre ကိုတိုင်းကြည့်ရမည်။ သွေးစစ်ကြည့်ရမည်။
- ASO titre မြင့်တက်နေလျှင် လေးဖက်နာရောဂါဟု သတ်မှတ်နိုင်သည်။
- ရောဂါထပ်မံဖြစ်ပွားမှုမရှိစေရန် ပင်နင်စလင်ဆေးပြားကို တစ်နေ့နှစ်ကြိမ်၊ နံနက်တစ်ကြိမ်၊ ညနေတစ်ကြိမ် နေ့စဉ်သောက်ရမည်။
- သို့မဟုတ်ပါက ပင်နင်စလင်ထိုးဆေး (Benzathine Penicillin)ကို လစဉ်တစ်ကြိမ် ထိုးပေးရမည်။
- ပင်နင်စလင်သောက်ခြင်း၊ သို့မဟုတ် ဆေးထိုးခြင်းဖြင့် ငါးနှစ်ကြာ ဆက်လက်ကုသမှု ခံယူရန် လိုအပ်သည်။
- လူနာအနေဖြင့် ဆေးသောက်ခြင်း၊ သို့မဟုတ် ဆေးထိုးခြင်းကို မပျက်ကွက်သင့်ချေ။
- လိုအပ်ပါက အသက် ၃၀ နှစ်အထိ ကုသမှုခံယူရမည်။

## အသည်းရောင် အသားဝါရောဂါ

### ရောဂါလက္ခဏာများ

- အေပိုးကြောင့်ဖြစ်ပါက ပိုးဝင်ပြီးနှစ်ပတ်မှခြောက်ပတ်အကြာတွင် ရောဂါလက္ခဏာများ ပြလေ့ရှိသည်။
- ဘီပိုးကြောင့်ဖြစ်ပါက ပိုးဝင်ပြီးတစ်လမှ ခြောက်လကြာမှသာ ရောဂါလက္ခဏာပြသည်။
- လူနာသည် ဖျားပြီး ကိုယ်လက်ကိုက်ခဲမည်။ နုံးချွေနေပြီး ပျို့အန်တတ်သည်။ ခံတွင်းပျက်ခြင်း၊ ဝမ်းလျှောခြင်းတို့ ဖြစ်နိုင်သည်။
- ဆီးဝါရာမှ မျက်လုံးဝါခြင်း၊ အသားဝါခြင်းတို့ဖြစ်သည်။
- အသည်းကြီးနေပြီး လက်ယာဘက်ရင်ဘတ်အောက်ပိုင်းတွင်နာသည်။

### ကုသခြင်း

- ရေများများသောက်ပါ။
- ဂလူးကို့စ်၊ သံပရာရည်တို့ကို သောက်ပါ။
- ပျို့အန်မှုမရှိပါက ဆီကိုစားနိုင်သည်။
- အပူအစပ်များကိုရှောင်ပါ။
- အသားအလွန်ဝါနေပါက အသား၊ နို့၊ ကြက်ဥတို့ကို မစားရ။
- ဆရာဝန်ကညွှန်ကြားပါက အသည်းအားဆေးကိုသောက်ပါ။
- အပြည့်အဝအနားယူပါ။

### ကာကွယ်ခြင်း

- ရေကိုကျိုချက်၍သောက်ပါ။
- ယင်နားစာကိုရှောင်ကြဉ်ပါ။
- အစားအသောက်များကို ယင်မနားစေရန် ဖုံးအုပ်ထားပါ။
- အစားအသောက်များကို ကျန်းမာရေးနှင့်ညီညွတ်စွာ ကိုင်တွယ်ချက်ပြုတ် ရောင်းချပါ။
- အစာမစားမီနှင့် အိမ်သာမှအဆင်းတွင် လက်ကို ဆပ်ပြာနှင့်ဆေးခြင်း၊ အသည်းရောင်အသားဝါလူနာထံမှ ရောဂါမကူးစေရန် လူနာအသုံးပြုသည့် ပန်းကန်ခွက်ယောက်၊ မျက်နှာသုတ်ပဝါ စသည်တို့ကို သီးသန့်ထားပါ။
- ယင်လုံအိမ်သာ ဆောက်လုပ်သုံးပါ။
- သွေးသွင်းခြင်းမှ မကူးစေရန် သွင်းမည့်သွေးအားစစ်ပါ။
- မူးယစ်ဆေးကို အကြောထဲထိုးထည့်ရာမှ မကူးစေရန် မူးယစ်ဆေးသုံးစွဲမှုကို ရှောင်ကြဉ်ပါ။
- ကာကွယ်ဆေးထိုးပါ။
- ဆေးထိုးအပ်၊ ဆေးထိုးပြွန်တို့မှ မကူးစက်ရန် တစ်ခါသုံးပစ္စည်းများသုံးပါ။ သို့မဟုတ် ယင်းတို့ကို မိနစ် ၂၀ ကြာပြုတ်ပါ။
- တစ်နှစ်အတွင်း အသည်းရောင်အသားဝါရောဂါဖြစ်ဖူးပါက သွေးသွင်းလှူဒါန်းမှု မပြုပါနှင့်။
- မွေးကင်းစကလေးကို မွေးပြီး ၁၂ နာရီအတွင်း ဘီပိုးကာကွယ်ဆေးထိုးပါ။

## အသည်းခြောက်ရောဂါ

### ရောဂါလက္ခဏာများ

- ရင်ညွန့်အောင့်ခြင်း၊ အန်ခြင်း
- အသားဝါခြင်း၊ မောခြင်း၊ ခံတွင်းပျက်ခြင်း
- ဝမ်းဗိုက်တွင် ရေဖျဉ်းစွဲခြင်း

- နှာခေါင်းသွေးယိုခြင်း၊ သွေးအန်ခြင်း၊ သွေးဝမ်းသွားခြင်း
- အမျိုးသားများတွင် နို့အုံစူထွက်လာခြင်း၊ ဝှေးစေ့သိမ်သွားခြင်း
- အမျိုးသမီးများတွင် ရာသီသွေးထိမ်ခြင်း
- လူနာအား စမ်းသပ်သည့်အခါ အသည်းနှင့် သရက်ရွက်ခေါ်ဘေလုံး (Spleen) ကြီးခြင်း
- လက်ဖဝါးအရေပြားနီလာခြင်း
- လက်ချောင်းထိပ်များ တင်းပုတ်ပုံ ဖုလုံးလာခြင်း
- မျက်နှာနှင့် ခန္ဓာကိုယ်အထက်ပိုင်းတွင် ပင့်ကူကွက်ပုံသွေးမျှင်များ ဖြစ်ပေါ်လာခြင်း

**ကုသခြင်း**

- အရက်သောက်ခြင်းကြောင့် အသည်းခြောက်ရောဂါဖြစ်ပါက အရက်သောက်ခြင်းကို ဖြတ်ရမည်။
- ခွဲစိတ်ကုသခြင်းကို သွေးအန်ခြင်းရပ်တန့်ရန်လိုအပ်သည့်အခါ ပြုလုပ်ပေးသည်။
- အစာမျိုပြွန်နှင့် အစာအိမ်တို့တွင် ဘောလုံးဖြင့်သွေးယိုခြင်းကို တားဆီးခြင်း၊ သွေးပြန်ကြောထဲသို့ ဆေးထိုးခြင်း၊ လမ်းကြောင်းလွှဲခွဲစိတ်ကုသခြင်း စသည့်နည်းများဖြင့် ခွဲစိတ်ကုသသည်။

**ကာကွယ်ခြင်း**

- အရက်သည် အသည်းကိုထိခိုက်ပျက်စီးစေသဖြင့် အရက်သောက်ခြင်းကို ရှောင်ကြဉ်ရမည်။
- အသည်းရောင်အသားဝါဘီမဖြစ်ရန် ကာကွယ်ခြင်းသည် အသည်းခြောက်ရောဂါကာကွယ်ခြင်းဟု ဆိုနိုင်သည်။ အသည်းရောင်အသားဝါဘီကာကွယ်ရန် မူးယစ်ဆေးကို အကြောထဲထိုးခြင်း၊ မသန့်ရှင်းသောဆေးထိုးအပ်နှင့် ပြွန်သုံးခြင်း၊ ပိုးပါရှိသောသွေးသွင်းခြင်းတို့ကို ရှောင်ကြဉ်ရမည်။

## ခုခံအားကျဆင်းမှု ကူးစက်ရောဂါ

ကမ္ဘာပေါ်တွင် ကုသရန်ဆေးမရှိသော ရောဂါမှာ AIDS ဖြစ်သည်။ အကောင်းဆုံးကာကွယ်မည့် နည်းလမ်းများကို သိထားသင့်သည်။

**ရောဂါကာကွယ်နည်းများ**

- လိင်ပျော်ပါးမှု ရှောင်ရှားရမည်။
- မိမိ၏ဇနီး/ခင်ပွန်းအပေါ် သစ္စာစောင့်ရမည်။
- မလိုအပ်ဘဲ ဆေးထိုးခြင်း၊ သွေးသွင်းခြင်းမပြုရ။
- မူးယစ်ဆေးဝါးများကို ရှောင်ကြဉ်ရမည်။
- အကယ်၍ လိင်မှုဆန္ဒ ပြင်းပြလာသောအခါ လိင်တံအစွပ်အသုံးပြုရမည်။

### ကူးစက်နိုင်သောနည်းလမ်းများ

- ရောဂါပိုးရှိသူနှင့် လိင်တူလိင်ကွဲဆက်ဆံခြင်း
- ရောဂါပိုးပါသော သွေးသွင်းမိခြင်း
- ရောဂါပိုးရှိသူ အသုံးပြုပြီးသော ဓားနှင့်မသန့်ရှင်းသောဆေးထိုးအပ်၊ ဆေးထိုးပြွန်၊ ခွဲစိတ်ကိရိယာများ အသုံးပြုခြင်း
- သွေးကြောထဲသို့ မူးယစ်ဆေးဝါးထိုးသွင်းခြင်း
- ရောဂါပိုးရှိသူ အသုံးပြုပြီးသော ပစ္စည်းဖြင့်နားဖောက်ခြင်း၊ ဆေးမင်ကြောင်ထိုးခြင်း
- ရောဂါပိုးရှိသော ကိုယ်ဝန်ဆောင်မိခင်မှ သန္ဓေသားသို့ ကူးစက်ခြင်း

### ရောဂါလက္ခဏာများ

- ခန္ဓာကိုယ်အလေးချိန် ၁၀ ရာခိုင်နှုန်းထက် ပို၍လျော့ကျခြင်း၊ တစ်လထက်ပို၍ ဝမ်းဆက်တိုက်သွားခြင်း
- တစ်လထက်ပို၍ အဖျားဆက်တိုက်တက်ခြင်း
- တစ်လထက်ပို၍ ချောင်းဆိုးခြင်း
- အကျိတ်များခန္ဓာကိုယ်အနှံ့ထွက်ခြင်း
- ခန္ဓာကိုယ်အနှံ့အပြား ရေယုန်များပေါက်ခြင်း
- ပါးစပ်အတွင်းတွင် မက်ခရုများထွက်ခြင်း

### ရောဂါမကူးစက်နိုင်သည့် ပြုမူဆက်ဆံခြင်းများ

- ချောင်းဆိုးခြင်း
- တစ်ဦးနှင့်တစ်ဦး မတော်တဆထိမိခြင်း
- လက်ဆွဲနှုတ်ဆက်ခြင်း
- ပိုးမွှားခြင်ကိုက်ခြင်း၊ နှာချေခြင်း

## တီဘီရောဂါ

### ရောဂါဖြစ်ပွားကူးစက်ပုံ

- ဤရောဂါသည် တီဘီပိုးကြောင့်ဖြစ်သော ကူးစက်ရောဂါဖြစ်သည်။
- ဝေဒနာရှင်ချောင်းဆိုးခြင်း၊ နှာချေ၊ သလိပ်တံတွေးမှတစ်ဆင့် ရောဂါပိုးများ လေထဲတွင် ပျံ့နှံ့၍ကူးစက်သည်။
- အသက်အရွယ်မရွေး လူတိုင်းတွင် ဖြစ်ပွားနိုင်သည်။
- အဆုတ်တွင် အများဆုံးဖြစ်ပွားပြီး၊ ကိုယ်ခန္ဓာအနှံ့အပြားတွင်လည်း ဖြစ်နိုင်သည်။
- ဆီးချိုရောဂါ၊ ခုခံအားကျဆင်းမှု ကူးစက်ရောဂါနှင့် အာဟာရချို့တဲ့မှုရှိသူများတွင် အဖြစ်များသည်။

### ရောဂါလက္ခဏာများ

- ရက်ရှည်ချောင်းဆိုးခြင်း (ရက်သတ္တပတ် ၃ ပတ်နှင့် အထက်)
- ချောင်းဆိုးသွေးပါခြင်း
- အဖျားတာရှည်ခြင်း
- ကိုယ်အလေးချိန် လျော့နည်းပြီး ပိန်ချုံးလာခြင်း
- သလိပ်တွင် သွေးပါခြင်း
- ခံတွင်းပျက်ခြင်း၊ မောပန်းလွယ်ခြင်း
- ကျောရင်အောင့်ခြင်း

### ကြိုတင်ကာကွယ်ခြင်း

- ရင်သွေးငယ်များအား ကာကွယ်ဆေး(ဘီစီဂျီ)ကို မပျက်မကွက် ထိုးပေးပါ။
- အာဟာရပြည့်ဝသော အစားအစာများကို စားသုံးပါ။
- သင့်တင်လျောက်ပတ်သော ကိုယ်လက်လှုပ်ရှားမှု ပြုလုပ်ပါ။
- ချောင်းဆိုး၊ နှာချေလျှင် လက်ကိုင်ပဝါကို အသုံးပြုပါ။
- သလိပ်နှင့်တံတွေးကို စည်းကမ်းမဲ့ ထွေးခြင်းမှရှောင်ကြဉ်ပါ။
- ဆေးလိပ်သောက်ခြင်းမှ ရှောင်ကြဉ်ပါ။

### ကုသမှုခံယူခြင်း

- "တိုက်ရိုက်ကြည့်ရှု အချိန်တိုနှင့်ကု" နည်းဖြင့် ရောဂါပျောက်ကင်းသည့်အထိ ကုသမှု ခံယူပါ။
- ကုသမှုခံယူခြင်းသည် အခြားသူများသို့ ကူးစက်စေခြင်းမှ အကောင်းဆုံး ကာကွယ်ခြင်း ဖြစ်သည်။ တီဘီရောဂါ သံသယရှိလျှင် နီးစပ်ရာ ကျန်းမာရေးဌာနတွင် စစ်ဆေး၍ တီဘီရောဂါရှိပါက အစွမ်းထက်သော တီဘီဆေးဝါးများဖြင့် အခမဲ့ကုသမှုခံယူပါ။

## ငှက်ဖျားရောဂါ

### ငှက်ဖျားရောဂါပိုး

ငှက်ဖျားရောဂါဖြစ်စေသောပိုးမှာ ပလတ်စ်မိုဒီယမ်(Plasmodium) ခေါ် ကပ်ပါးပိုး ဖြစ်သည်။ ငှက်ဖျားရောဂါပိုး ၄ မျိုးရှိသည်။ ယင်းတို့မှာ ပလတ်စ်မိုဒီယမ် ဖယ်လ်ဆီပါရမ် (Plasmodium Falciparum)၊ ပလတ်စ်မိုဒီယမ်အိုဗေလီ (Plasmo– dium Ovale)၊ ပလတ်စ်မို ဒီယမ် မလေးရီးယား (Plasmodium Malariae)၊ ပလတ်စ်မိုဒီယမ်ဗိုင်းဗက်စ် (Plasmodium Vivax) တို့ ဖြစ်ကြသည်။

### ရောဂါလက္ခဏာများ

- ငှက်ဖျားပိုးရှိသော အနောဖလိခြင်အကိုက်ခံရပြီး ၁၀ ရက်မှ ၁၅ ရက် ကြာသောအခါ ခြင်ကိုက်ခံရသူတွင် ငှက်ဖျားရောဂါလက္ခဏာများ ပေါ်ပေါက်လာသည်။

- လူနာသည် ချမ်းတုန်၍ဖျားသည်။ အချို့မှာ ချမ်းတုန်ခြင်းမရှိချေ။
- ခေါင်းကိုက်ခြင်း၊ အဆစ်ကိုက်ခြင်း၊ ပျို့အန်ခြင်း၊ ခံတွင်းပျက်ခြင်းတို့ဖြစ်သည်။

## ကုသခြင်း

သွေးစစ်ပြီး ပိုးအမျိုးအစားအလိုက် ကုသရသည်။ သွေးမစစ်နိုင်ပါက ဖယ်လ်ဆီပါရမ်ပိုး ဟုယူဆပြီး ကုသနိုင်ပါသည်။ ဖယ်လ်ဆီပါရမ်ပိုးကြောင့်ဖြစ်သော ငှက်ဖျားကို ကလိုရိုကွင်း ဖြင့် ကုသရသည်။ ကလိုရိုကွင်းသောက်ပါက ခေါင်းမူးခြင်း၊ ပျို့အန်ခြင်း၊ ဝမ်းလျှောခြင်း၊ ဝမ်းဗိုက်မအီမသာဖြစ်ခြင်း၊ ယားယံခြင်းတို့ ဖြစ်နိုင်သည်။

## ကြိုတင်ကာကွယ်ဆေးသောက်ခြင်း

ငှက်ဖျားကူးစက်ဖြစ်ပွားမှုရှိသောဒေသသို့သွားသည့်အခါ ဆရာဝန်နှင့်တိုင်ပင်၍ မသွားမီတစ်ပတ်အလိုတွင် စတင်သောက်ရသည်။ ယင်းဒေသတွင်ရှိနေစဉ် အပတ်စဉ် သောက်ပြီးပြန်လာသည့်အခါ လေးပတ်ကြာသည်အထိ အပတ်စဉ်ဆက်သောက်ရမည်။ ကြိုတင်ကာကွယ်ဆေးအဖြစ် ကလိုရိုကွင်းကို တစ်ပတ်လျှင် နှစ်ပြားသောက်ရသည်။ အကယ်၍ ရုတ်တရက်ခရီးထွက်ပါက ငှက်ဖျားကူးစက်သော ဒေသသို့ရောက်သည့်နေ့၌ စတင်သောက်ရမည်။ ယင်းဒေသ၌ရှိနေစဉ် အပတ်စဉ်သောက်သွားရမည်။

## ကာကွယ်ခြင်း

ခြင်ကိုက်ခံရမှုမှ ကင်းဝေးရန် အောက်ပါတို့ကိုလုပ်ဆောင်သင့်သည် –

- ခြင်ထောင်နှင့်အိပ်ခြင်း၊ ပိုးသတ်ဆေးစိမ်ထားသော ခြင်ထောင်ကို အသုံးပြုပါ။
- ခြင်လာမနားစေရန်၊ လိမ်းဆေး(Repellent)ကို အဝတ်မဖုံးအုပ်သော ခန္ဓာကိုယ်နေရာ၌ လိမ်းပါ။
- အင်္ကျီလက်ရှည်၊ ဘောင်းဘီရှည်၊ ပုဆိုးတို့ကို လုံခြုံစွာဝတ်ဆင်ပါ။
- ခြင်ဆေးခွေထွန်းပါ။
- မီးခိုးမှိုင်း၊ နနွင်းမှိုင်းတိုက်ပါ။
- ခြင်လုံသံဇကာတပ်ပါ။
- ခြင်နိုင်ဆေးဖျန်းပါ။

ခြင်ပေါက်ပွားမှုမရှိရန် အောက်ပါတို့ကိုလုပ်ဆောင်ရမည် –

- ရေကန်၊ ရေအိုင်၊ စိမ့်စမ်း၊ မြစ်ချောင်းတို့တွင် ရေစပ်ရှိ မြက်ပင်၊ ချုံပင်တို့ကို ရှင်းလင်းပါ။
- ရေအိုင်များကို မြေဖို့ခြင်း၊ ရေစီးရန် ဖောက်ထုတ်ပါ။
- ခြင်ခိုအောင်းသည့်မြက်ပင်၊ ချုံနွယ်များကို ခုတ်ထွင်ရှင်းလင်းပါ။
- ရေကန်၊ ရေအိုင်နှင့် ရေတွင်းတို့တွင် ပိုးလောက်လမ်းစားငါးများဖြစ်သော ငါးဘေးစင်း၊ ငါးမေ့တော့၊ ဒေါင်းငါး၊ ငါးရံ့ခေါင်းတို၊ တီလားပီးယားစသည့် ငါးတစ်မျိုးမျိုး ထည့်သွင်းပါ။

## သွေးလွန်တုပ်ကွေးရောဂါ

### ရောဂါလက္ခဏာများ

သွေးလွန်တုပ်ကွေးသည် အသက် ၁၅ နှစ်အောက်ကလေးများတွင် ဖြစ်ပွားသည်။ ကလေးသည် အဖျားတက်ပြီးခေါင်းကိုက်ခြင်း၊ ကိုယ်လက်ကိုက်ခဲခြင်း၊ ခံတွင်းပျက်ခြင်း၊ လက်နှင့် ရင်ဘတ်တို့တွင် အနီစက်များထွက်ခြင်း၊ ပျို့အန်ခြင်း တို့ဖြစ်သည်။ ထို့အပြင် သွေးယိုထွက်ခြင်းရှိနိုင်ရာ နှာခေါင်းသွေးလျှံခြင်း၊ သွေးအန်ခြင်း၊ ကော်ဖီရောင်အညိုစက်များ အန်ခြင်း၊ ဝမ်းသွားပါက ကတ္တရာစေးအရောင် အမည်းသွားခြင်းတို့ ဖြစ်နိုင်ပါသည်။

### ကာကွယ်ခြင်း

- ရေစည်၊ ရေအိုးများကို လုံခြုံအောင်ဖုံးထားပါ။
- ရေအိုး၊ ညောင်ရေအိုး၊ ဘုရားပန်းအိုးမှ ရေများကို နေ့စဉ်လဲလှယ်ပေးပါ။
- ရေစည်၊ ရေအိုးများရှိ ပိုးလောက်လမ်းများကို ဖယ်ရှားပစ်ပါ။
- မိုးရေခိုအောင်းနေတတ်သော ဘူးခွံ၊ ပုလင်းခွံ၊ တာယာစုတ်များကို ဖယ်ရှားရှင်းလင်းပါ။
- အလင်းရောင်ရရှိရန်အတွက် အိမ်တံခါး၊ ပြတင်းပေါက်များကို နေ့ဘက်တွင်ဖွင့်ထားပါ။
- အိမ်တွင်း၊ အိမ်ပြင်သန့်ရှင်းစွာထားရှိပါ။
- ကလေးများကို ခြင်ထောင်ဖြင့် သိပ်ပါ။
- အိမ်ပတ်ဝန်းကျင်ရှိ ရေဝပ်နိုင်သော မြေနိမ့်နေရာများကို မြေဖို့ပါ။
- အိမ်ပတ်ဝန်းကျင်ရှိ ရေမြောင်းများကို ရေစီး၊ ရေလာကောင်းအောင်ဆောင်ရွက်ပါ။
- သွေးလွန်တုပ်ကွေးဟု သံသယရှိပါက နီးစပ်ရာဆေးရုံ၊ ဆေးခန်းတွင်ပြရမည်။
- သွေးလန့်သောလက္ခဏာရှိပါက ဆေးရုံသို့ ပို့ဆောင်၍ ကုသမှုခံယူရမည်။

### သွေးလန့်သောလက္ခဏာများ

- ဖျားနေရာမှ အဖျားကျပြီး ခြေဖျားလက်ဖျားအေးစက်ခြင်း
- မှိန်းနေခြင်း၊ သို့မဟုတ် ဂနာမငြိမ်ဖြစ်ခြင်း
- မကြာခဏအန်ခြင်း
- အန်သည့်အခါ အညိုရောင်အန်ဖတ်များပါခြင်း
- ဝမ်းအမည်းသွားခြင်း

## ကြက်ငှက်တုပ်ကွေးရောဂါ

### ကူးစက်ခြင်း

ရောဂါဖြစ်သည့် ကြက်ငှက်တို့၏ မစင်၊ နှာရည်တို့တွင် ပိုးများပါရှိပြီး ယင်းတို့မှတစ်ဆင့် ကူးစက်သည်။ ကိုယ်ထဲသို့ ပိုးဝင်ပြီး ၃ ရက်မှ ၇ ရက်အကြာတွင် ရောဂါလက္ခဏာများ ပေါ်ပေါက်သည်။

### လူတွင်ကူးစက်ခြင်း

ကြက်ငှက်များနှင့် ထိတွေ့မှုရှိသော လူတို့တွင် ရောဂါကူးစက်မှုဖြစ်ပါက အပြင်းဖျားခြင်း၊ ချောင်းဆိုးခြင်း၊ အသက်ရှူမဝခြင်း၊ အသက်ရှူကျပ်ခြင်းတို့ကို ခံစားရသည်။

### ကာကွယ်ခြင်း

- ဈေးများ၊ မွေးမြူရေးခြံများရှိ ကြက်ငှက်များကို တောရိုင်းကြက်ငှက်များ၊ ဆောင်းခိုငှက်များနှင့် ထိတွေ့မှုမရှိစေရန်ထားပါ။
- အခြားမွေးမြူရေးခြံမှ ကြက်ငှက်များကို တင်သွင်းမွေးမြူမှု မပြုပါနှင့်။
- ကြက်ခြံတွင်းသို့ ဧည့်သည်၊ သူစိမ်း၊ ကလေးငယ်များ မဝင်စေရောက်ပါစေနှင့်။
- မည်သူမဆို ကြက်ခြံအတွင်းသို့ ဝင်ရောက်ပါက သတ်မှတ်ထားသည့် ဖိနပ်၊ ဝတ်စုံ၊ ခေါင်းစည်း၊ နှာခေါင်းစည်း၊ လက်အိတ်တို့ ဝတ်ဆင်ပါ။
- ကြက်ခြံအတွင်းသို့ ပြင်ပမှပိုးများ မဝင်ရောက်စေရန် ထုံး၊ ပိုးသတ်ဆေးများကိုသုံး၍ ပုံမှန်သန့်ရှင်းပေးပါ။
- ကြက်ခြံလုပ်သားများ ကြက်ဘဲဈေးဒိုင်သို့ သွားရောက်မှုမပြုစေရန်နှင့် သွားပါကလည်း အဝတ်၊ ဖိနပ်လဲ၍ ပိုးမွှားသန့်စင်ပြီးမှ ခြံတွင်းသို့ ဝင်ရောက်ပါ။

### သတိပြုရန်

ကြက်၊ ဘဲ၊ ဥနှင့်အသား စားသုံးသူများသည် အောက်ပါအချက်များကို သတိပြုသင့်ပါသည် –

- ကြက်ဥ၊ ဘဲဥကို အခြားစားစရာ၊ ဟင်းချက်စရာများနှင့်အတူ မထားသင့်ပါ။
- ဈေးမှဝယ်လာသည့် ကြက်သားကို သေချာစွာဆေးကြောရန် လိုအပ်သည်။
- ကြက်ဥ၊ ဘဲဥ၊ ကြက်သားတို့ကို ကိုင်တွယ်ပြီးပါက လက်ကိုဆပ်ပြာဖြင့် စင်ကြယ်အောင် ဆေးကြောပါ။
- ကြက်၊ ဘဲ၊ ကြက်သားတို့ကို အတွင်းပိုင်းအထိ ကျက်အောင်ချက်ပြုတ်ပါ။
- ကြက်ငှက်တုပ်ကွေးရောဂါ ဖြစ်ပွားချိန်နှင့် ကြက်၊ ဘဲအသားနှင့်ဥများ မရောင်းချရန် တားမြစ်ထားချက်ကို လိုက်နာပါ။

## ကမ္ဘာ့လူတုပ်ကွေးရောဂါ

### ကူးစက်ပုံ

ကမ္ဘာ့လူတုပ်ကွေးရောဂါသည် အသက်ရှူလမ်းကြောင်းမှတစ်ဆင့် ကူးစက်ပါသည်။ လူနာချောင်းဆိုးခြင်း၊ နှာချေခြင်းဖြင့် တိုက်ရိုက်သော်လည်းကောင်း၊ ရောဂါဖြစ်သူ၏ ချွဲ၊ သလိပ်၊ ခန္ဓာကိုယ်အရည်၊ အသုံးအဆောင်ပစ္စည်းများကို ကိုင်တွယ်ထိတွေ့ခြင်းမှသော်လည်းကောင်း ကူးစက်နိုင်ပါသည်။

### ရောဂါလက္ခဏာများ

- အဖျားရှိခြင်း(အပူချိန် ၃၈°C)
- နှာရည်ယိုခြင်း၊ နှာချေခြင်း
- ချောင်းဆိုးခြင်း
- လည်ချောင်းနာခြင်း
- ကိုယ်လက်ကိုက်ခဲခြင်း
- ခေါင်းကိုက်ခြင်း
- အစားအသောက်ပျက်ခြင်း
- တစ်ခါတစ်ရံတွင် ပျို့အန်ခြင်းနှင့်ဝမ်းသွားခြင်းတို့ဖြစ်သည်။

### ကာကွယ်ခြင်း

- တစ်ကိုယ်ရေသန့်ရှင်းမှုကို ဂရုပြုဆောင်ရွက်ပါ။
- နှာချေ၊ ချောင်းဆိုးလျှင် လက်ကိုင်ပုဝါဖြင့် ဖုံးအုပ်ပါ။
- လက်ကို ဆပ်ပြာဖြင့် စင်ကြယ်စွာ ဆေးကြောပါ။
- ကောင်းစွာ အိပ်စက်အနားယူပါ။
- လူထူထပ်သောနေရာနှင့် ပွဲလမ်းသဘင်များသို့ သွားရောက်ခြင်းမှ ရှောင်ကြဉ်ပါ။
- မိမိတွင် ရောဂါလက္ခဏာများရှိသည်ဟု ယူဆပါက နီးစပ်ရာကျန်းမာရေးဌာနသို့ အမြန်ဆုံး သွားရောက်ပြသပါ။

## အီဘိုလာဗိုင်းရပ်စ်ရောဂါ

### ကူးစက်နိုင်သော နည်းလမ်းများ

- အီဘိုလာဗိုင်းရပ်စ်ရောဂါသည် ရောဂါပိုးရှိသောသူ (သို့မဟုတ်) တိရစ္ဆာန်၏ တံတွေး၊ သွေး၊ ခန္ဓာကိုယ်မှ ထွက်သောအရည်တို့နှင့် တိုက်ရိုက်ထိတွေ့ ကိုင်တွယ်ခြင်း။
- အဆိုပါသွေးနှင့် ခန္ဓာကိုယ်မှ အရည်များထိတွေ့ထားသော အရာဝတ္ထုများနှင့် ထိတွေ့ ကိုင်တွယ်ခြင်းတို့မှ ကူးစက်နိုင်ပါသည်။
- ဆားစ်၊ လူတုပ်ကွေးကပ်ရောဂါ၊ H7N9 ကြက်ငှက်တုပ်ကွေးရောဂါ၊ မားစ် ပြင်းထန် အဆုတ်ရောင်ရောဂါ (MERS Cov) တို့ကဲ့သို့ လေထဲမှတစ်ဆင့် ကူးစက်နိုင်သော ရောဂါမဟုတ်ပါ။
- အီဘိုလာရောဂါသည် လေ၊ ရေ၊ အစားအစာတို့မှတစ်ဆင့် မကူးစက်နိုင်ပါ။
- ယခုအချိန်ထိ အီဘိုလာဗိုင်းရပ်စ်ရောဂါကို ကာကွယ်ကုသရန် ဆေးမရှိသေးပါ။ ရောဂါမဖြစ်ပွားစေရေး ကာကွယ်ရန် အရေးကြီးပါသည်။
- ရောဂါပိုးရှိသော လူနာနှင့် တိရစ္ဆာန်တို့၏တံတွေး၊ သွေးစသော ခန္ဓာကိုယ်အရည်များအား ကိုင်တွယ်ထိတွေ့သူများတွင် အဓိကရောဂါကူးစက်နိုင်ခြေရှိသဖြင့် ကာကွယ်သည့် နည်းလမ်းများကို တိကျစွာ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

### အီဘိုလာဗိုင်းရပ်စ်ရောဂါ သံသယလက္ခဏာများ

အီဘိုလာဗိုင်းရပ်စ်ရောဂါ ကူးစက်ဖြစ်ပွားနေသောနိုင်ငံများ အထူးသဖြင့် (အနောက်အာဖရိကနိုင်ငံများ)သို့ သွားရောက်ခဲ့သူများ (သို့မဟုတ်) နိုင်ငံတကာ ခရီးသွားသူများ ကူးစက်မြန်အီဘိုလာရောဂါလူနာအား တိုက်ရိုက်ပြုစုကုသထိတွေ့ကိုင်တွယ်ခဲ့သူများ၊ ရောဂါရှိသော တောရိုင်းတိရစ္ဆာန်များအား ထိတွေ့ကိုင်တွယ်သူများတွင် –

- ဖျားခြင်း၊ အားအင်ချည့်နဲ့ခြင်း၊ ကြွက်သားများ နာကျင်ကိုက်ခဲခြင်း၊ ခေါင်းကိုက်ခြင်း၊ လည်ချောင်းနာခြင်း၊ အန်ခြင်း၊ အရည်ဝမ်းသွားခြင်း။
- အီဘိုလာဗိုင်းရပ်စ်ပိုးသည် အသည်းနှင့်ကျောက်ကပ်များ ပျက်စီးနိုင်သဖြင့် ခန္ဓာကိုယ်အတွင်းနှင့် အပြင်သွေးယိုထွက်မှုရှိခြင်းကြောင့် အသက်အန္တရာယ် ဖြစ်နိုင်ပါသည်။

### အီဘိုလာဗိုင်းရပ်စ်ရောဂါ ကူးစက်မှုမရှိစေရေး ကာကွယ်ရန်နည်းလမ်းများ

၁။ တစ်ကိုယ်ရေသန့်ရှင်းရေးကို အထူးဂရုပြုပါ။
၂။ လက်ကို ရေနှင့်ဆပ်ပြာဖြင့် မကြာခဏဆေးကြောပါ။
၃။ ရောဂါပိုးရှိသူ၏သွေးနှင့် ၎င်းခန္ဓာကိုယ်မှထွက်သော အရည်များအား ထိတွေ့ကိုင်တွယ်ခြင်းမပြုရ။
၄။ ရောဂါပိုးရှိသော လူ၊ တိရစ္ဆာန်တို့၏ သွေးနှင့် ၎င်းခန္ဓာကိုယ်မှထွက်သောအရည်များရှိနိုင်သည့် (အရာဝတ္ထုပစ္စည်း၊ ခုံများ၊ စားပွဲများ၊ အိပ်ရာ၊ လေ့ကား လက်ရမ်း၊ နံရံစသည်တို့အား) ထိတွေ့ကိုင်တွယ်ခြင်းမပြုရ။
၅။ အထူးသဖြင့် အီဘိုလာဗိုင်းရပ်စ်ရောဂါ ကူးစက်ဖြစ်ပွားသောနိုင်ငံများသို့ သွားရောက်ခဲ့သူများနှင့် နိုင်ငံတကာခရီးသွားသူများတွင် (ဖျားခြင်း၊ ခေါင်းကိုက်ခြင်း၊ ကိုယ်လက်ကိုက်ခဲခြင်း၊ နုံးချည့်ခြင်း၊ လည်ချောင်းနာခြင်း၊ အရည်ဝမ်းသွားခြင်း၊ အန်ခြင်း၊ ခန္ဓာကိုယ်အတွင်းနှင့်အပြင် သွေးယိုထွက်မှုရှိခြင်း စသည့်) သံသယလက္ခဏာများ ဖြစ်ပေါ်လာပါက ကျန်းမာရေးဌာနသို့ ချက်ချင်းသတင်းပို့ ဆေးကုသမှုခံယူပါ။
၆။ အထက်ပါ သံသယလက္ခဏာဖြစ်ပွားသူများ တွေ့ရှိပါက နီးစပ်ရာကျန်းမာရေးဌာနသို့ ချက်ချင်းသတင်းပို့ပါ။
၇။ နိုင်ငံခြားသို့ ခရီးသွားရောက်ရန် အစီအစဉ်ရှိပါက ရောဂါဖြစ်ပွားကူးစက်နေသည့် နိုင်ငံများသို့ သွားရောက်ခြင်းကို ရှောင်ကြဉ်ပါ။

## ဇီကာဗိုင်းရပ်စ်ရောဂါ

### ရောဂါလက္ခဏာများ

- ဖျားခြင်း
- အရေပြားပေါ်တွင် အနီစက်များထွက်ခြင်း
- မျက်စိနာခြင်း
- ခေါင်းကိုက်ခြင်း
- ကြွက်သားနှင့်အဆစ်များ နာကျင်ခြင်း

### နောက်ဆက်တွဲရောဂါများ

- ကိုယ်ဝန်ဆောင်မိခင်များတွင် ဇီကာဗိုင်းရပ်စ်ရောဂါ ကူးစက်ခံရပါက ဦးနှောက်သေးငယ်သောကလေးများ မွေးဖွားနိုင်ပါသည်။

### ကူးစက်ပျံ့နှံ့ပုံ

- ဇီကာဗိုင်းရပ်စ်သယ်ဆောင်ထားသော အေးဒီးစ်ခြင်ကျားသည် ရေကြည်ရေသန့်တွင် ပေါက်ပွားသည်။
- ရေလှောင်ထားသော အိုး၊ ခွက်၊ တိုင်ကီ၊ ပန်းအိုး၊ ရေတင်ကျန်လျက်ရှိသောစွန့်ပစ်ပစ္စည်းများဖြစ်သည့် ကားတာယာ၊ ပလတ်စတစ်ခွက် စသည်တို့တွင် အေးဒီးစ်ခြင်ကျားများကို တွေ့ရှိရသည်။
- နေ့ခင်းဘက်အချိန်တွင် လူကို အေးဒီးစ်ခြင်ကျားကိုက်ခြင်းမှတစ်ဆင့် ရောဂါကူးစက်ဖြစ်ပွားစေပါသည်။
- ခြင်ကိုက်ခံရပြီး နှစ်ရက်မှ ခုနစ်ရက်အတွင်း ရောဂါလက္ခဏာများ စတင်ဖြစ်ပွားလာနိုင်ပါသည်။

### ကြိုတင်ကာကွယ်ခြင်း

- ဇီကာဗိုင်းရပ်စ်ရောဂါအတွက် ကာကွယ်ဆေးမရှိသေးပါ။
- ရောဂါလက္ခဏာသက်သာရန်အတွက်သာ ကုသပေးနိုင်ပါသည်။
- ရောဂါကူးစက်ခံရပါက ကောင်းစွာအနားယူပါ။
- ရေကို လုံလောက်စွာသောက်သုံးပါ။
- ပါရာစီတမောကိုသာ အညွှန်းအတိုင်းသောက်သုံးပါ။
- ဆေးမြီးတိုများနှင့် အခြားအကိုက်အခဲပျောက်ဆေးများ သောက်သုံးခြင်းကို ရှောင်ကြဉ်ပါ။
- ဇီကာရောဂါလက္ခဏာများ တွေ့ရှိပါက နီးစပ်ရာ ကျန်းမာရေးဌာန၊ ဆေးရုံ၊ ဆေးခန်းများသို့ သွားရောက်ပြသ၍ စစ်ဆေးကုသမှုခံယူရန် လိုအပ်ပါသည်။

## ဂျပန်ဦးနှောက်ရောင်ရောဂါ

### ရောဂါဖြစ်ပွားမှု

- ဂျပန်ဦးနှောက်ရောင်ရောဂါသည် မြန်မာနိုင်ငံအပါအဝင် အရှေ့တောင်အာရှနိုင်ငံများနှင့် အနောက်ပစိဖိတ်ဒေသနိုင်ငံ (၂၄) နိုင်ငံတွင် နှစ်စဉ်ဖြစ်ပွားလေ့ရှိသည်။
- အသက်အရွယ်မရွေး ဖြစ်ပွားတတ်ပြီး အသက်(၁၅)နှစ်အောက် ကလေးများတွင် အများဆုံးဖြစ်ပွားကြောင်း တွေ့ရသည်။

### နောက်ဆက်တွဲရောဂါများ

- ဦးနှောက်ရောင်ရမ်းခြင်း။
- ဦးနှောက်နှင့် ကျောရိုးနာဗ်ကြောမအပါအဝင် ဗဟိုအာရုံကြောစနစ်အစိတ်အပိုင်းများကို ထိခိုက်စေသည်။

### ကူးစက်ခြင်း

- ဂျပန်ဦးနှောက်ရောင်ဗိုင်းရပ်ပိုးသယ်ဆောင်သော ခြင်ကိုက်ခံရခြင်း
- ရေစပ်တွင် နေထိုင်သောငှက်များ၊ ဝက်နှင့် အိမ်မွေးတိရစ္ဆာန်များတွင် ရောဂါပိုးရောက်နေပြီး အဆိုပါတိရစ္ဆာန်များကို ကိုက်လာသောခြင်မှ လူကိုကိုက်ခြင်း

### ကာကွယ်ခြင်း

- ခြင်ကိုက်မခံရအောင် ခြင်ထောင်ဖြင့် အိပ်ပါ။
- ခြင်နိုင်လိမ်းဆေးလိမ်းပါ။
- အင်္ကျီလက်ရှည်၊ ဘောင်းဘီရှည်ဝတ်ဆင်ပါ။
- ကာကွယ်ဆေးထိုးနှံခြင်းသည် အကောင်းဆုံးနှင့် အထိရောက်ဆုံးသော ကာကွယ်တားဆီးခြင်းဖြစ်ပါသည်။

## ဆင်ခြေထောက်ရောဂါ

ဆင်ခြေထောက်ရောဂါသည် လတ်တလောသေစေနိုင်သော ရောဂါမဟုတ်သော်လည်း ခြေလက်အင်္ဂါပုံသဏ္ဌာန်ပျက်ယွင်းခြင်းကြောင့် လူမှုရေးထိခိုက်နစ်နာ ဆုံးရှုံးမှုရှိသော ရောဂါများတွင် ပါဝင်သော ရောဂါတစ်ခုဖြစ်သည်။

### ကူးစက်ခြင်း

- ဆင်ခြေထောက်ရောဂါသည် (Wuchreria bancrofti) သန်ကောင်အမျိုးအစားကပ်ပါးပိုးကြောင့်ဖြစ်သည့် ရောဂါဖြစ်ပြီး ခြင်ကိုက်ခြင်းဖြင့် ကူးစက်တတ်ပါသည်။

### ရောဂါလက္ခဏာများ

- ချမ်းတုန်၍ ဖျားခြင်း
- ခန္ဓာကိုယ်တစ်နေရာရာတွင် နီရဲပူလောင်ယောင်ယမ်း၍ နာကျင်ခြင်း
- သားနန်ရည်ကြောနှင့် အကြိတ်များတွင် ယောင်ခြင်း
- ဆီးသွားသည့်အခါအဖြူရောင် ပျစ်ချွဲချွဲဖြစ်နေခြင်း
- အင်ပျဉ်ထွက်ခြင်း
- ရင်ကျပ်ခြင်း
- ဘောအောင့်ခြင်း(ရေမုတ္တ) စသည့်လက္ခဏာများခံစားရခြင်း

### နောက်ဆက်တွဲလက္ခဏာများ

- ခြေထောက်၊ လက်တဖြည်းဖြည်းကြီးလာခြင်း
- (တစ်ဖက်တည်းဖြစ်စေ၊ နှစ်ဖက်လုံးဖြစ်စေ) ခြေ၊ လက်များ ဆင်ခြေထောက်ကဲ့သို့ ဖြစ်လာခြင်း

### ကုသခြင်း

- DEC ဟုခေါ်သည့် (Diethylcarbamazine Citrate)နှင့် Albendazole စသည့် ဆေး နှစ်မျိုးကို တစ်နှစ်လျှင်တစ်ကြိမ်ဖြင့် အနည်းဆုံးငါးနှစ်ဆက်တိုက်သောက်သုံးရပါမည်။
- ဆင်ခြေထောက်ရောဂါလက္ခဏာများ ခံစားနေရပါက နီးစပ်ရာ ဆေးရုံ၊ ဆေးခန်း များတွင် ပြသ၍ ကုသမှုခံယူရန်လိုအပ်ပါသည်။

## ကူးစက်မြန်ပြင်းထန် နမိုးနီးယား (အဆုတ်ရောင်) ရောဂါ

### ရောဂါကူးစက်ခြင်း

ကိုရိုနာ (Corona) အုပ်စုဝင် ဗိုင်းရပ်စ်ပိုးကြောင့်ဖြစ်ပွားခြင်းဖြစ်သည်။ အဆိုပါပိုးသည် –

- လူနာချောင်းဆိုးခြင်း၊
- နှာချေခြင်း၊
- နှာရည်၊ ချွဲသလိပ်များမှ တစ်ဆင့်သော်လည်းကောင်း၊ လူနာအသုံးအဆောင်ပစ္စည်း များမှတစ်ဆင့်သော်လည်းကောင်း၊ အသက်ရှူလမ်းကြောင်းမှ ခန္ဓာကိုယ်အတွင်းသို့ ဝင်ရောက်၍ ရောဂါဖြစ်စေသည်။

### ရောဂါလက္ခဏာများ

- ကိုယ်အပူချိန် (၃၈) ဒီဂရီစင်တီဂရိတ် (သို့မဟုတ်) (၁၀၀ ဒသမ ၅) ဒီဂရီဖာရင်ဟိုက် ထက် ပို၍ပြင်းထန်ခြင်း၊

  အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါလက္ခဏာများဖြစ်သည့် –
- ချောင်းဆိုးခြင်း၊
- အသက်ရှူမဝခြင်း၊
- အသက်ရှူရခက်ခဲခြင်း။

### ကူးစက်မြန်ပြင်းထန်နမိုးနီးယား(အဆုတ်ရောင်ရောဂါ) လတ်တလောဖြစ်ပွားမှု

- ရောဂါရှိသူ လူနာ(သို့မဟုတ်) လူနာနှင့် အနီးကပ် ထိတွေ့သူများနှင့် ထိတွေ့မှုရှိခြင်း
- ရောဂါဖြစ်ပွားနေသည့်နိုင်ငံများမှလွန်ခဲ့သည့်နှစ်ပတ်အတွင်းပြန်လည်ရောက်ရှိခြင်း

### ရောဂါဖြစ်ပွားမှု

- ကလေးငယ်များနှင့် သက်ကြီးရွယ်အိုများ။
- ဆီးချိုရောဂါရှိသူများ။
- နာတာရှည်အဆုတ်နှင့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါရှိသူများ။
- ကိုယ်ခန္ဓာစွမ်းအားကျစေသည့် ဆေးဝါးမှီဝဲ သောက်သုံးသူများ။

**ကာကွယ်ခြင်း**

- တစ်ကိုယ်ရေသန့်ရှင်းမှု ဆောင်ရွက်ပါ။
- အာဟာရပြည့်ဝသည့် အစားအစာများစားသုံးပါ။
- ကောင်းမွန်စွာအိပ်စက်အနားယူပါ။
- ကိုယ်လက်လှုပ်ရှားမှုမှန်မှန်ပြုလုပ်ပါ။
- နှာချေချောင်းဆိုးလျှင် လက်ကိုင်ပဝါဖြင့် ဖုံးအုပ်ပါ။
- လူထူထပ်သောနေရာများနှင့် ရောဂါဖြစ်ပွားနေသော နိုင်ငံများသို့ ခရီးသွားလာခြင်းမှ ရှောင်ကြဉ်ပါ။

## ဝမ်းပျက်ဝမ်းလျှောရောဂါ

**ကူးစက်နည်းများ**

- လူနာ၏လက်မှတဆင့် အနီးပတ်ဝန်းကျင်ရှိ လူအများ၏ အစားအသောက်များသို့ ပျံ့နှံ့ခြင်း၊
- လူနာ၏မစင်ပေါ်တွင် ခိုနားစားသောက်သည့် ယင်များမှတစ်ဆင့် အခြားသော အစားအသောက်နှင့် သောက်သုံး၊ ချက်ပြုတ်သောရေထဲသို့ ရောက်ရှိခြင်း၊
- လူနာ၏အညစ်အကြေးများကို စနစ်တကျသိမ်းဆည်းစွန့်ပစ်ခြင်းမရှိသဖြင့် ပတ်ဝန်းကျင်သို့ ကူးစက်ခြင်း၊
- အစားအစာများနှင့်ရေကို စနစ်တကျချက်ပြုတ်သန့်စင်၍ စားသောက်သော အလေ့အထနည်းပါးခြင်း၊

**ကာကွယ်ခြင်း**

- ရေကိုကျိုချက်၍ သောက်သုံးပါ။
- ယင်လုံအိမ်သာ စနစ်တကျဆောက်လုပ်သုံးစွဲပါ။
- စားကြွင်းစားကျန်နှင့် အညစ်အကြေးများကို စနစ်တကျစွန့်ပစ်ပါ။
- အိမ်သာမှဆင်းလာသောအခါ အညစ်အကြေးများကိုင်တွယ်ပြီးသောအခါ လက်ကို စင်ကြယ်စွာဆေးကြောပါ။
- အစားအစာများကို ကိုင်တွယ်ချက်ပြုတ်သူများသည် တစ်ကိုယ်ရေသန့်ရှင်းရေး ကောင်းမွန်စေရန်ဆောင်ရွက်ပါ။
- စနစ်တကျ ဆေးကြောသုတ်သင်ထားခြင်းမရှိသော လမ်းဘေးအစားအစာများကို စားသုံးခြင်းမှ ရှောင်ကြဉ်ပါ။

# မိုးဦးကျနှင့်မိုးရာသီတွင် ဖြစ်ပွားတတ်သောရောဂါများ

## ကူးစက်တတ်သောရောဂါများ

- ဝမ်းပျက်ဝမ်းလျှောနှင့် ကာလဝမ်းရောဂါများအပါအဝင် ဝမ်းနှင့်ပတ်သက်သည့် ရောဂါများ၊ အသည်းရောင်အသားဝါရောဂါများနှင့် သံကောင်၊ တုတ်ကောင်ရောဂါများ၊
- သွေးလွန်တုပ်ကွေးနှင့် ငှက်ဖျားရောဂါ၊
- တုပ်ကွေး၊ နှာစေး၊ ချောင်းဆိုးနှင့် အဆုတ်အအေးမိရောဂါ၊

## ဖြစ်ပွားရသည့်အကြောင်းအရင်းများ

- မိုးဦးကျလာပြီဖြစ်၍ လှိုင်လှိုင်ပေါလာသည့် အချိုဓာတ်ပါသော သရက်သီး၊ ပိန္နဲသီး၊ ဖရဲသီး၊ ကြက်မောက်သီး၊ မင်းကွတ်သီးစသည့် သစ်သီးဝလံများ၏ အခွံ၊ အစေ့ စသည်များကို စည်းကမ်းမဲ့မဆင်မခြင် စွန့်ပစ်ခြင်းကြောင့် ယင်ပေါက်ပွား၍ ယင်ပေါများခြင်း၊
- ရာသီစာ အမှည့်လွန်အသီးများကို စားသုံးခြင်း၊
- မိုးရွာပြီး ရေတင်၊ ရေဝပ်သဖြင့် ရေအိုင်၊ ရေဗွက်ဖြစ်၍ ရေမြောင်းပိတ်ခြင်းနှင့် ချုံနွယ်ပိတ်ပေါင်းထူထပ်၍ ခြင်ပေါက်ပွားခြင်း၊
- ရာသီဥတုအပြောင်းအလဲဖြစ်၍ အပူရှပ်ခြင်း၊ အအေးပတ်ခြင်း၊
- ပတ်ဝန်းကျင်သန့်ရှင်းမှုနှင့် တစ်ကိုယ်ရေသန့်ရှင်းမှုနည်းပါးခြင်း၊
- ကျန်းမာရေးနှင့် ညီညွတ်သည့် အသိပညာနှင့် အလေ့အကျင့်နည်းပါးခြင်း၊

## ရောဂါများကူးစက်ပျံ့နှံ့ခြင်းမှ ကာကွယ်တားဆီးနိုင်မည့်အချက်များ

- အမှည့်လွန်အသီးများ၊ စားသုံးခြင်းမှ ရှောင်ကြဉ်ပါ။
- ယင်နားစာများကို မဆင်မခြင် စားသုံးခြင်းမှ ရှောင်ကြဉ်ပါ။
- စားကြွင်းစားကျန် အမှိုက်သရိုက်များနှင့်အညစ်အကြေးများကို စည်းကမ်းမဲ့စွန့်ပစ်ခြင်းမှ ရှောင်ကြဉ်ပါ။
- မိမိတို့ မိသားစုအတွင်းကျန်းမာရေးအသိပညာ ဖြန့်ဝေပါ။ လိုက်နာကျင့်သုံးပါ။
- တစ်ကိုယ်ရေသန့်ရှင်းရေးကို ဂရုပြုလိုက်နာဆောင်ရွက်ပါ။
- ရေကို ကျိုချက်၍သောက်ပါ။
- လတ်ဆတ်သန့်ရှင်းသည့် အသီးအနှံနှင့် အစားအစာများကို ပူပူနွေးနွေး ချက်ပြုတ်စားသုံးပါ။
- ရာသီဥတု၊ အပူအအေးအပြောင်းအလဲကို သတိရှိပါ။
- ပတ်ဝန်းကျင်သန့်ရှင်းရေး လုပ်ငန်းနှင့် ခြင်၊ ယင်နှိမ်နင်းရေးလုပ်ငန်းများကို အမျိုးသားရေးအမြင်ဖြင့် ဝိုင်းဝန်းစုပေါင်း ဆောင်ရွက်ပါ။
- ရောဂါတစ်မျိုး ဖြစ်ပွားပျံ့နှံ့လာပါက ကျန်းမာရေးဌာနသို့ အမြန်ဆုံးသတင်းပို့ပါ။
- လိုအပ်ပါက နီးရာဆေးပေးခန်း၊ ဆေးရုံများသို့ အချိန်မီသွားရောက်ပြသ စစ်ဆေးကုသမှုခံယူပါ။

# ကိုရိုနာဗိုင်းရပ်စ်ရောဂါ (COVID - 19)

ကိုရိုနာဗိုင်းရပ်စ် (Coronavirus)ဆိုသည်မှာ တိရစ္ဆာန်များတွင်သာမက လူများမှာပါ တွေ့နိုင်သည့် ကြီးမားသောဗိုင်းရပ်စ်အုပ်စုတစ်မျိုး ဖြစ်သည်။ လူများကို ကူးစက်သည့်အခါ သာမန်တုပ်ကွေးရောဂါလက္ခဏာကနေ ပြင်းထန်သည့်အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများအထိ ဖြစ်ပွားတတ်ပါသည်။ ၎င်းရောဂါမှာ လူများကို ကူးစက်သည့်အခါ သာမန်တုပ်ကွေးရောဂါလက္ခဏာမှ ပြင်းထန်သော အသက်ရှူလမ်းကြောင်းဆိုင်ရာရောဂါများ အထိ ဖြစ်တတ်ပါသည်။ (၂၀၀၂) ခုနှစ်တွင် တရုတ်ပြည်သူ့သမ္မတနိုင်ငံ၌ ဖြစ်ပွားခဲ့သော SARS ရောဂါ၊ (၂၀၁၂) ခုနှစ်တွင် အရှေ့အလယ်ပိုင်းဒေသမှာဖြစ်ပွားခဲ့သော MERS ရောဂါများကဲ့သို့ ပြင်းထန်အဆုတ်ရောင်ရောဂါများသည် ကိုရိုနာဗိုင်းရပ်ရောဂါပိုးများကြောင့် ဖြစ်ပွားရခြင်း ဖြစ်ပါသည်။ ၂၀၁၉ ခုနှစ်က အသစ်တွေ့ရှိခဲ့ရသည့် ကိုရိုနာဗိုင်းရပ်စ်သည် လတ်တလောအသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါကို ဖြစ်ပွားစေခဲ့ပါသည်။ ကိုရိုနာဗိုင်းရပ်စ် ရောဂါသည် ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလက တရုတ်ပြည်သူ့သမ္မတနိုင်ငံ၊ ဝူဟန်မြို့၌ စတင်တွေ့ရှိခဲ့သော Coronavirus မျိုးစိတ်အသစ်တစ်ခုကြောင့် ဖြစ်ပွားခဲ့တဲ့ ကူးစက်ရောဂါ ဖြစ်ပါသည်။ ထို့အပြင် Omicron (အိုမီခရွန်) မျိုးရိုးဗီဇပြောင်း XBB.1.16 (Arcturus) ရောဂါပိုး ကူးစက်ပြန့်ပွားမှုကို (၂၀၂၃) ခုနှစ် ဇန်နဝါရီလတွင် အိန္ဒိယနိုင်ငံ၌ စတင်တွေ့ရှိခဲ့ရပြီး မြန်မာနိုင်ငံ၏ အိမ်နီးချင်းနိုင်ငံများဖြစ်သော ထိုင်းနိုင်ငံ၊ ဘင်္ဂလားဒေ့ရှ်နိုင်ငံအပါအဝင် ကမ္ဘာ့နိုင်ငံပေါင်း (၃၇) နိုင်ငံတွင် ကူးစက်မှုများရှိကြောင်း သိရှိရပါသည်။ ယခုတွေ့ရှိရသည် မျိုးရိုးဗီဇပြောင်းရောဂါပိုးများဖြစ်သည့် XBB.1၊ XBB 1.5၊ XBB 1.9.1၊ XBB 1.9.2၊ XBB 2.3၊ BA 2.75 တို့မှာလည်း ကမ္ဘာ့နိုင်ငံများတွင် ယခင်ကပင် ကူးစက်ပြန့်ပွားလျက်ရှိသော မျိုးရိုးဗီဇပြောင်းရောဂါပိုးများဖြစ်ကြောင်း သိရှိရပါသည်။ ကိုဗစ်-၁၉ ကာကွယ်ဆေးထိုးနှံခြင်းသည် အိုမီခရွန်နှင့် အခြားမျိုးကွဲများကြောင့် ပြင်းထန်သော ရောဂါဖြစ်နိုင်ချေကို လျှော့နည်းစေသည်။ မျိုးရိုးဗီဇကွဲအသစ်များကိုလည်း ကာကွယ်တားဆီးပေးနိုင်သည်။

### ရောဂါလက္ခဏာများ

- လွန်ခဲ့သည့် (၁၄) ရက်အတွင်း ရောဂါကူးစက်ပျံ့ပွားနေသည့်နိုင်ငံများသို့ ခရီးသွားခဲ့ခြင်း (သို့မဟုတ်) ကိုရိုနာဗိုင်းရပ်စ်ရောဂါ ဖြစ်ပွားသည်ဟု အတည်ပြုခံရသူနှင့် အတူနေထိုင်ခဲ့ခြင်း။
- ဖျားခြင်း (အပူချိန် ၃၈ ဒီဂရီစင်တီဂရိတ် (၁၀၀ ဒသမ ၄ ဒီဂရီဖာရင်ဟိုက်)နှင့် အထက်ရှိခြင်း၊ အဖျားကြီးခြင်း။
- ချောင်းခြောက်ဆိုးခြင်း၊ အသက်ရှူရခက်ခဲခြင်း၊ အားအင်ကုန်ခန်းခြင်း၊ ပင်ပန်းနွမ်းနယ်ခြင်း၊ မောခြင်း၊ လည်ချောင်းနာခြင်း၊ ခေါင်းကိုက်ခြင်း။
- အသက်ကြီးသူများအနေဖြင့် နာတာရှည်ရောဂါ (သွေးတိုး၊ ဆီးချို၊ နှလုံးရောဂါ) ရှိသူများတွင် ရောဂါပိုမိုပြင်းထန်တတ်ခြင်း။

## ကူးစက်ပျံ့နှံ့ပုံ

- အသက်ရှူလမ်းကြောင်းမှတစ်ဆင့် တိုက်ရိုက်ဝင်ရောက် ကူးစက်ပျံ့နှံ့စေခြင်း။
- အရာဝတ္ထုများ၌ ထိကပ်နေသောရောဂါပိုးများအား လက်နှင့်ကိုင်တွယ်ထိတွေ့ရာမှ တစ်ဆင့် ကူးစက်ခြင်း။

## ကြိုတင်ကာကွယ်ခြင်း

- အထက်ပါရောဂါလက္ခဏာ ခံစားနေရသူများနှင့် အနီးကပ်ထိတွေ့ခြင်းမှ ရှောင်ကြဉ်ပါ။
- လက်ကို စင်ကြယ်အောင် မကြာခဏ စနစ်တကျ ဆေးကြောပါ။
- နှာချေ၊ ချောင်းဆိုးသည့်အခါ နှာခေါင်းနှင့်ပါးစပ်ကို လုံခြုံအောင် ဖုံးအုပ်ပါ။
- တစ်ရှူးအသုံးပြုပါက အမိုက်ပုံးထဲသို့ စနစ်တကျစွန့်ပစ်ပါ။ လက်ကိုစနစ်တကျ ပြန်လည်ဆေးကြောပါ။
- တစ်ကိုယ်ရေသန့်ရှင်းမှု ဂရုပြုဆောင်ရွက်ပါ။ အာဟာရပြည့်ဝစွာ စားသုံးပါ။ ကောင်းမွန်စွာ အိပ်စက်အနားယူပါ။
- လူထူထပ်သည့်နေရာများသို့ သွားလာခြင်းမှ တတ်နိုင်သမျှ ရှောင်ကြဉ်ပါ။
- ဟိုတယ်နှင့် အများပြည်သူသုံးနေရာများရှိ ဓာတ်လှေကားခလုတ်များ၊ စက်လှေကား လက်ရမ်းများနှင့် တံခါးလက်ကိုင်များကို မလိုအပ်ဘဲ ကိုင်တွယ်ခြင်းမပြုပါနှင့်။ ကိုင်တွယ်ပြီးပါက လက်ကိုစနစ်တကျ ပြန်ဆေးပါ။
- ဓာတ်လှေကားခလုတ်များ၊ စက်လှေကားလက်ရမ်းများနှင့် တံခါးလက်ကိုင်များကို Alcohol 70 ရာခိုင်နှုန်းပါဝင်သော ပိုးသန့်စင်ဆေးရည်ဖြင့် မကြာခဏပွတ်တိုက်သန့်စင်ပါ။
- မိမိရဲ့ မျက်လုံး၊ နှာခေါင်းနဲ့ပါးစပ်များအား မကြာခဏကိုင်တွယ်ခြင်း မပြုပါနှင့် (လက်မှာ ရောဂါပိုးများ ကပ်ငြိနေပါက မျက်လုံး၊ နှာခေါင်းနဲ့ ပါးစပ်များမှတစ်ဆင့် ရောဂါပိုးများ ဝင်ရောက်နိုင်ခြင်း။)

## တစ်ကမ္ဘာလုံးတွင် ကိုဗစ်-၁၉ ကပ်ရောဂါ ကူးစက်မှုအခြေအနေ (၂၉-၅-၂၀၂၃ ရက်နေ့အထိ)

| | | | |
|---|---|---|---|
| ပိုးတွေ့လူနာ | - | ၆၈၉,၄၂၈,၆၇၀ | ဦး |
| သေဆုံးလူနာ | - | ၆,၈၈၃,၇၂၇ | ဦး |
| ပြန်လည်ကျန်းမာလာသူ | - | ၆၆၁,၈၈၅,၂၈၁ | ဦး |

## မြန်မာနိုင်ငံတွင် ကိုဗစ်-၁၉ ကပ်ရောဂါ တွေ့ရှိမှုအခြေအနေ (၂၉-၅-၂၀၂၃ ရက်နေ့ အထိ)

| | | | |
|---|---|---|---|
| ဓာတ်ခွဲလူနာ | - | ၁၀,၆၃၀,၆၄၇ | ဦး |
| ပိုးတွေ့လူနာ | - | ၆၃၈,၇၂၆ | ဦး |
| ပိုးတွေ့ပြန်လည်သက်သာ | - | ၆၁၇,၆၉၂ | ဦး |
| ပိုးတွေ့သေဆုံးလူနာ | - | ၁၉,၄၉၄ | ဦး |

**ကမ္ဘာ့နိုင်ငံများမှ ကိုဗစ်–၁၉ ကပ်ရောဂါ ကူးစက်/သေဆုံးမှု အများဆုံး ၁၀ နိုင်ငံ (၂၉–၅–၂၀၂၃ ထိ)**

| စဉ် | နိုင်ငံအမည် | ပိုးတွေ့ | ကင်းစင် | သေဆုံး |
|---|---|---|---|---|
| ၁။ | အမေရိကန် | ၁၀၇၀၉၂၇၃၆ | ၁၀၅၁၇၄၆၂၇ | ၁၁၆၅၀၆၂ |
| ၂။ | အိန္ဒိယ | ၄၄၉၉၀၀၅၄ | ၄၄၄၅၃၄၇၉ | ၅၃၁၈၆၆ |
| ၃။ | ပြင်သစ် | ၄၀၀၇၉၈၉၁ | ၃၉၈၅၄၆၈၆ | ၁၆၇၂၆၃ |
| ၄။ | ဂျာမနီ | ၃၈၄၂၆၃၀၈ | ၃၈၂၃၄၉၀၀ | ၁၇၄၂၄၇ |
| ၅။ | ဘရာဇီး | ၃၇၅၇၉၀၂၈ | ၃၆၂၄၉၁၆၁ | ၇၀၂၆၆၄ |
| ၆။ | ဂျပန် | ၃၃၈၀၃၅၇၂ | – | ၇၉၆၉၄ |
| ၇။ | တောင်ကိုရီးယား | ၃၁၆၄၆၉၇၃ | ၃၁၃၁၆၉၃၂ | ၃၄၇၅၄ |
| ၈။ | အီတလီ | ၂၅၈၅၇၅၇၂ | ၂၅၅၄၅၃၉၇ | ၁၉၀၃၉၂ |
| ၉။ | အင်္ဂလန် | ၂၄၆၀၃၀၇၆ | ၂၄၃၆၅၇၅၀ | ၂၂၅၃၂၄ |
| ၁၀။ | ရုရှား | ၂၂၉၁၇၈၇၃ | ၂၂၃၄၆၈၃၀ | ၃၉၈၉၁၉ |

**အာဆီယံနိုင်ငံများတွင် ကိုဗစ်–၁၉ ကပ်ရောဂါ ကူးစက်/သေဆုံးမှုအခြေအနေ (၂၉–၅–၂၀၂၃ထိ)**

| စဉ် | နိုင်ငံအမည် | ပိုးတွေ့ | ကင်းစင် | သေဆုံး |
|---|---|---|---|---|
| ၁။ | ဗီယက်နမ်နိုင်ငံ | ၁၁၆၀၉၈၇၈ | ၁၀၆၃၇၅၂၃ | ၄၃၂၀၆ |
| ၂။ | အင်ဒိုနီးရှား | ၆၈၀၆၃၆၇ | ၆၆၃၁၃၃၇ | ၁၆၁၇၄၀ |
| ၃။ | မလေးရှား | ၅၁၀၀၂၄၉ | ၅၀၄၄၆၅၂ | ၃၇၀၈၇ |
| ၄။ | ထိုင်း | ၄၇၃၈၉၈၈ | ၄၆၉၂၆၃၆ | ၃၄၀၅၃ |
| ၅။ | ဖိလစ်ပိုင် | ၄၁၃၉၂၉၅ | ၄၀၅၆၈၂၇ | ၆၆၄၆၆ |
| ၆။ | စင်ကာပူ | ၂၃၉၁၂၄၈ | ၂၁၄၉၅၈၃ | ၁၇၂၇ |
| ၇။ | မြန်မာ | ၆၃၈၇၂၆ | ၆၁၇၆၉၂ | ၁၉၄၉၄ |
| ၈။ | ဘရူနိုင်း | ၃၀၃၇၁၉ | ၂၄၃၆၀၁ | ၂၂၅ |
| ၉။ | လာအို | ၂၁၈၂၂၅ | ၇၆၆၀ | ၇၅၈ |
| ၁၀။ | ကမ္ဘောဒီးယား | ၁၃၈၇၆၇ | ၁၃၅၆၈၃ | ၃၀၅၆ |

**ကိုဗစ် – ၁၉ ရောဂါ ကာကွယ်ဆေးထိုးနှံနိုင်မှုအခြေအနေ (၂–၅–၂၀၂၃) ရက်နေ့ထိ**

| ကာကွယ်ဆေးထိုးနှံမှု | အရေအတွက် |
|---|---|
| ■ အသက်(၁၈)နှစ်နှင့်အထက် ထိုးနှံထားသည့် လူဦးရေ | ၃၁,၆၅၆,၁၈၀ ဦး |
| ■ အသက်(၁၈)နှစ်နှင့်အောက် ထိုးနှံထားသည့် လူဦးရေ | ၆,၈၄၉,၅၇၅ ဦး |

# မျောက်ကျောက်ရောဂါ (Monkeypox)

## ရောဂါကူးစက်နိုင်ခြေရှိသည့်နည်းလမ်းများ

- Monkeypox ဗိုင်းရပ်ရောဂါပိုးကူးစက်ခံထားရသည့် တောရိုင်းတိရစ္ဆာန်များ (သို့မဟုတ်) လူ၏အနာများ၊ အညစ်အကြေးများနှင့် တိုက်ရိုက်ထိတွေ့မိရာမှ ကူးစက်ခြင်း၊
- ရောဂါပိုးရှိသူနှင့်မျက်နှာချင်းဆိုင် အချိန်အတော်ကြာထိတွေ့မိခြင်း၊
- ရောဂါပိုးများကပ်တင်ကျန်နေသည့် အသုံးအဆောင်ပစ္စည်းများကို လက်ဖြင့်ကိုင်တွယ်မိရာမှ တစ်ဆင့်ကူးစက်ခြင်း၊

## ရောဂါပျိုးရက်

ရောဂါပိုးစတင်ဝင်ရောက်ပြီး (၅) ရက်မှ (၂၁) ရက်အတွင်း ရောဂါလက္ခဏာများစတင်ဖြစ်ပွားနိုင်ပါသည်။

## သံသယဖြစ်ဖွယ်ရောဂါလက္ခဏာများ

(အထူးသဖြင့် ရောဂါပိုးတွေ့ရှိရာ နိုင်ငံ/ဒေသများမှ လွန်ခဲ့သည့် ၂၁ ရက်အတွင်း ပြန်လည်ဝင်ရောက်လာသူများတွင်)

- လတ်တလောဖျားခြင်း(၃၈ ဒသမ ၅ ဒီဂရီစင်တီဂရိတ်)
- အနီစက်၊ အရည်ကြည်ဖုထွက်ခြင်း
- ပြန်ရည်ကြိတ်များကြီးခြင်း
- ခေါင်းကိုက်ခြင်း၊ ကြွက်သားများနာကျင်ခြင်း၊ ကျောအောင့်ခြင်း
- မောပန်းနွမ်းနယ်ခြင်း

## ကာကွယ်ခြင်း

- Monkeypox (မျောက်ကျောက်ရောဂါ) လက္ခဏာခံစားနေရသူများနှင့် အနီးကပ်ထိတွေ့ခြင်းကို ရှောင်ကြဉ်ပါ။
- လက်ကိုဆပ်ပြာနှင့်ရေ (သို့မဟုတ်) အယ်လ်ကိုဟောအနည်းဆုံး (၆၀) ရာခိုင်နှုန်းပါဝင်သော ရေမလိုလက်သန့်စင်ဆေးရည်အသုံးပြု၍ စနစ်တကျဆေးကြောပါ။
- ပါးစပ်နှင့် နှာခေါင်းစည်း (Mask)ကို စနစ်တကျ တပ်ဆင်ပါ။
- တစ်ဦးနှင့်တစ်ဦး ခပ်ခွာခွာနေပါ။
- နှာချေ၊ ချောင်းဆိုးသည့်အခါတွင် လက်ကိုင်ပဝါ (သို့မဟုတ်) တံတောင်ကွေးဖြင့် လုံခြုံစွာ ဖုံးအုပ်ပါ။
- အသားစိမ်းများကို ကျက်အောင်ချက်စားပါ။
- တောရိုင်းတိရစ္ဆာန်များကို အကာအကွယ်မပါဘဲ မထိတွေ့ပါနှင့်။
- လက်မဆေးဘဲ ပါးစပ်၊ နှာခေါင်းနှင့် မျက်လုံးများကို ကိုင်တွယ်ခြင်းမပြုပါနှင့်။
- တစ်ကိုယ်ရေသန့်ရှင်းရေးနှင့် ပတ်ဝန်းကျင်သန့်ရှင်းရေး ကောင်းမွန်စေရန်ဆောင်ရွက်ပါ။

# ကျမ်းကိုးစာရင်း

၁။ ကူးစက်ရောဂါနှင့်အဖြစ်များသောရောဂါများ
ဒေါက်တာအောင်သန်း၊ ကာလာဇုန်ပုံနှိပ်တိုက်၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ။
၂။ တပ်မတော်သမိုင်း(ပထမတွဲ)
သတင်းနှင့်စာနယ်ဇင်းလုပ်ငန်း၊ ၁၉၉၄ ခုနှစ်၊ ဖေဖော်ဝါရီလ။
၃။ ဗုဒ္ဓဘာသာကောင်းတစ်ယောက် How To Live As A Good Buddhist
သာသနာတော်ထွန်းကားပြန့်ပွားရေးဦးစီးဌာန၊သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၊
၁၉၉၂ ခုနှစ်၊ ဧပြီလ။
၄။ ဗုဒ္ဓဘာသာဆိုင်ရာ အထွေထွေဗဟုသုတ
စိန္တာမဏိ ဦးချစ်မောင်၊ သုဓမ္မဝတီပုံနှိပ်တိုက်၊ ၁၉၇၆ ခုနှစ်၊ ဇူလိုင်လ။
၅။ သိကောင်းစရာ NGO အဖွဲ့အစည်းများမှတ်စု
ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၊ သိန်းသန်းဦးပုံနှိပ်တိုက်၊
၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ။
၆။ မြန်မာ့ရက်စဉ်သမိုင်း (အကြိုသမိုင်းကာလမှ ၁၉၄၅ အထိ) (ပထမတွဲ)
(ယဉ်ကျေးမှုဝန်ကြီးဌာန၊ သမိုင်းသုတေသနဦးစီးဌာန)
၇။ မြန်မာ့ရက်စဉ်သမိုင်း (၁၉၄၅ မှ ၂၀၀၈ အထိ) (ဒုတိယတွဲ)
(ယဉ်ကျေးမှုဝန်ကြီးဌာန၊ သမိုင်းသုတေသနဦးစီးဌာန)။
၈။ ၂၀၀၁ ခုနှစ်၊ စာပေဗိမာန်စာမူဆုရ ဖိုးအောင်လေး၏ မြန်မာ့လွတ်လပ်ရေး ကြိုးပမ်းမှုရက်စဉ်သမိုင်း။
၉။ မြန်မာ့အလင်းသတင်းစာ (၂၀၂၂ ခုနှစ်၊ ဧပြီ၊ မေ၊ ဇွန်၊ ဇူလိုင်၊ ဩဂုတ်၊ စက်တင်ဘာ၊ အောက်တိုဘာ၊ နိုဝင်ဘာ၊ ဒီဇင်ဘာ၊ ၂၀၂၃ ခုနှစ်၊ ဇန်နဝါရီ)။
၁၀။ ကြေးမုံသတင်းစာ (၂၀၂၂ ခုနှစ်၊ ဧပြီ၊ မေ၊ ဇွန်၊ ဇူလိုင်၊ ဩဂုတ်၊ စက်တင်ဘာ၊ အောက်တိုဘာ၊ နိုဝင်ဘာ၊ ဒီဇင်ဘာ၊ ၂၀၂၃ ခုနှစ်၊ ဇန်နဝါရီ)။
၁၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေ (၂၀၀၈ ခုနှစ်)။
၁၂။ ဦးတောင်လုံး + ရွှေမင်းဝန် (အင်္ဂလိပ်-မြန်မာစကားပုံများစာအုပ်)။
၁၃။ ပါဠိသက်ဝေါဟာရအဘိဓာန်၊ ဦးထွန်းမြင့်(စိတ်ကူးချိုချို)၊ (၂၀၁၆)
၁၄။ ၂၀၁၀ ပြည့်နှစ် သူရိယစာတည်းအဖွဲ့၏ ကမ္ဘာ့နိုင်ငံများအကြောင်းသိကောင်းစရာ။
၁၅။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ပြန်တမ်း
(၃-၆-၂၀၂၂ မှ ၂၁-၇-၂၀၂၃ ရက်နေ့ထိ)။
၁၆။ ကြယ်စင်အထွေထွေဗဟုသုတ (၂၀၂၃-၂၀၂၄)
၁၇။ ဂုဏ်ထူးဆောင်ဘွဲ့များ၊ ဂုဏ်ထူးဆောင်တံဆိပ်များဆိုင်ရာ ပြဋ္ဌာန်းချက်

1. Facts About Myanmar, Published by Printing and Publishing, Corporation, 1983.
2. The World Almanac and Book of Facts, Published by World Almanac, Pharos books, A Scripps Howard Company, New York, 1988.
3. The World Almanac and Book of Facts, Published by World Almanac, Pharos books, A Scripps Howard Company, New York, 2007.
4. Time Almanac, Published by Encyclopaedia Britanica Inc, London, 2008.
5. Myanmar The Study of Processess and Patterns, Hla Tun Aung–NHRD.
6. http://www.aneki.com
7. The Global New Light of Myanmar
8. https://en.wikipedia.org
9. http://myanmarpoliceforce.org
10. http://www.mip.gov.mm
11. http://www.moi.gov.mm
12. https://www.mohs.gov.mm
13. http://www.cbm.gov.mm
14. https://worldpopulationreview.com
15. Countries by Population Density 2023 – StatisticsTimes.com
16. List of countries and dependencies by area – Wikipedia
17. https://www.gfmag.com/global–data/economic–data/richest–countries–in–the–world
18. https://www.visualcapitalist.com/richest–people–in–the–world–2023/
19. https://knoema.com/atlas/topics/Agriculture/Trade–Export–Quantity/Rice–exports–quantity
20. https://en.wikipedia.org/wiki/List_of_countries_by_proven_oil_reserves
21. https://www.indexmundi.com/g/r.aspx?v=95
22. http://www.thejakartapost.com
23. https://www.worldatlas.com
24. https://www.worldometers.info.com
25. https://www.globalfirepower.com

26. https://bareillycollege.org
27. https://a–z–animals.com
28. https://safarisafricana.com
29. https://www.whereig.com
30. https://www.statista.com
31. https://www.investopedia.com
32. https://www.stridge.com
33. https://wisevoter.com
34. https://www.seair.com
35. https://www.apec.com
36. https://www.stategov.com
37. https://countrymeters.info.com
38. https://geographyhost.com
39. https://wowtravel.me.com
40. https://wisevoer.com
41. https://digitalmigre.com
42. https://www.thetealmango.com
43. https://www.forbes.com
44. https://www.investopedia.com
45. https://finance.yohoo.com

# အကြမ်းဖက်မှုပပျောက်ရေးအတွက် ပြည်သူသို့ အသိပေးနှိုးဆော်ချက်

၁။ ပြည်သူအတွက်ဟု သုံးနှုန်း၍ ရဟန်းသံဃာများ၊ ဆရာ၊ ဆရာမများ အပါအဝင် နိုင်ငံ့ဝန်ထမ်းများနှင့် ပြည်သူကိုသတ်ဖြတ်၊ လုယက်ခြင်းကို CRPH၊ NUG၊ PDF အမည်ခံ အကြမ်းဖက်အုပ်စုများက ဥပဒေမဲ့ကျူးလွန်နေသည်။

၂။ ခြိမ်းခြောက်၊ လူသတ်၊ အဖျက်အမှောင့်လုပ်ရပ်များ လုပ်ဆောင်နေသည့် CRPH၊ NUG၊ PDF အကြမ်းဖက်သမားများကို အားပေးမှု၊ ထောက်ခံမှု၊ ကူညီထောက်ပံ့မှု မပြုခြင်းသည် ပြည်သူလူထု၏ အသက်အိုးအိမ်စည်းစိမ်ကို ကာကွယ်ပေးခြင်းဖြစ်သည်။

၃။ ယင်းတို့၏ လက်နက်/ခဲယမ်း ကိုင်တွယ်သယ်ဆောင်မှုနှင့် အကြမ်းဖက်သမားတို့၏ သတင်းကို လျှို့ဝှက်ပေးပို့ခြင်းသည် အပြစ်မဲ့ပြည်သူများ၏ အသက်အိုးအိမ်စည်းစိမ်ကို ကာကွယ်ပေးခြင်း ဖြစ်သည်။

## Public Notice for Elimination of Violence

1. Declaring themselves to be "for the people", the so–called CRPH, NUG and PDF terrorist groups are lawlessly killing Buddhist monks, civil servants including schoolteachers, and members of the general public, as well as looting and robbing.
2. Not encouraging, supporting, or assisting "CRPH", "NUG", and "PDF"terrorists, who are intimidating and killing people and committing destructive activities, is to protect the lives and property of the general public.
3. Giving information secretly to the authorities on terrorists and on the possession and transport of weapons/ammunition is tantamount to protecting the lives and property of innocent people.

